
★ ပဲခူး ★
ဝိနယစာပြန် နှစ်တရာပြည့်
ရွှေကျင်နိကာယ
သမိုင်း
အကျဉ်းချုပ်
အရှင်ဇောတိပါလ
ရေးသားပြုစုသည်



ပဲခူးမြို့
ကြခတ်ဝိုင်းကျောင်းတိုက်
ပဓာနထေရ်
အရှင်ဇောတိပါလ

ပဲခူးခရိုင်

ဝိနယစာပြန်-နှစ်တရာပြည့်

# အရညဝါသီ ရွှေကျင်နိကာယ သမိုင်း

## အကျဉ်းချုပ်



နာယကဆရာတော်ဘုရားကြီးများ ဆုံးဖြတ်ချက်အရ

ပဲခူးမြို့

ကြခတ်ဝိုင်းကျောင်းတိုက်

ပဓာနထေရ်

## အရှင်ဇောတိပါလ

ရေးသားပြုစုသည်

ထုတ်ဝေသူ။    ။ဦးကျော်လှိုင် ထုတ်ဝေသူ ကင်းလွတ်ခွင့်(၀၁၉ဂ၀/၀၁၉ဂ၀-ခ)
အမှတ် ၂၃၂၊ ၃၉-လမ်း၊ ရန်ကုန်မြို့။

ပဥ္စမအကြိမ် ရိုက်နှိပ်ခြင်း၊ အုပ်ရေ ၁၅၀၀။ ၁၉၇၄-ခုနှစ်။

ဘာသာရေးဆိုင်ရာ စာပေခွင့်ပြုချက်အမှတ် (၆၁၃၇/၆၁၃၇-ခ)



ရန်ကုန်မြို့၊ ကမ္ဘာအေးစေတီ ပြည်ထောင်စုဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်
ဗုဒ္ဓသာသနာအဖွဲ့ ပုံနှိပ်တိုက်တွင် ညွှန်ကြားရေးမှူး ဦးလှမောင် M.A.,M.S., B.L.
မှတ်ပုံတင်အမှတ် (၀ဂ၇၉)က ပုံနှိပ်သည်။

လေးရောင်အဖုံးကို ဗုဒ္ဓသာသနာအဖွဲ့ ပုံနှိပ်တိုက်မှ ရိုက်နှိပ်သည်။

အရညဝါသီ ရွှေကျင်နိကာယသမိုင်း

# နိဒါနကထာ

---

ဤ သမိုင်းစာအုပ် ဖြစ်ပေါ်လာရခြင်း၏ အဓိက အကြောင်းရင်းမှာ—

၁။ ချမ်းသာပါစေ၊ လူရှင်တွေ၊ ပေးဝေမေတ္တာခဲ။
၂။ ဒွေတိတိ၊ နှစ်ဂေါဇေ၊ ရောက်လေ ဝိနည်းပွဲ။
၃။ နှစ်စဉ်နှစ်စဉ်၊ ကျင်းခဲ့အင်၊ ဤတွင်တရာဘဲ။
၄။ ရာပြည့်ပွဲတွင်၊ တိုပါဝင်၊ ကြွအင် မြိုခူးပဲ။
၅။ ပဲခူးကြခတ်၊ ကျောင်းတိုက်မြတ်၊ ပင့်အပ် သံဃာ့ပွဲ။
၆။ နိုင်ငံကျော်ကြား၊ ထေရ်အများ၊ ဟောကြား နေ့ညဘဲ။
၇။ အပါးထောင်ကျော်၊ ကျောင်းတိုက်မော်၊ ဘုန်းတော် ကြီးကဲကဲ။
၈။ အိုးစည်မပါ၊ ဗုံမပါ၊ ကြီးစွာ စည်သည့်ပွဲ။
၉။ ပဥ္စအဟ၊ ဒိဝဗုဒ္ဓေ၊ ထိုနေ့ပေ၊ ဖွင့်လေ အစဘဲ။
၁၀။ စားဖွယ် သောက်ဖွယ်၊ အမယ်မယ်၊ ပြည့်ကြွယ် မောက်လန်ကဲ။
၁၁။ ကျောင်းကြီး ကျောင်းငယ်၊ အသွယ်သွယ်၊ များထယ် ထိုတိုက်ထဲ။
၁၂။ သံဃာပြည့်လျှံ၊ စိတ်အားသန်၊ အမှန် လွန်ကြပ်တဲ။
၁၃။ ဧည့်ဓမ္မာရုံ၊ ခြောက်သိန်းကုန်၊ ကြီးပုံ လွန်ခံ့အဲ။
၁၄။ သို့ပါသော်လဲ၊ မဆံ့ဘဲ၊ အားခဲနေကြမြဲ။
၁၅။ သံဃာနှင့် လူ၊ ပိတ်သိပ်ထူ၊ မျှယူ မရဘဲ။
၁၆။ သာသနာနှစ်၊ နှစ်ထောင်ဖြစ်၊ ငါးတစ်လေးဟုတ္တဲ့။
၁၇။ တိတိဒွေဇေ၊ သက္ကရာဇ်၊ စ,လစ် ဝိနည်းပွဲ။
၁၈။ စာပြန်ပွဲမှာ၊ သူစလာ၊ တရာပြည့်တဲ့ပွဲ။
၁၉။ ပဲခူးတောရ၊ ဦးသီလ၊ ဘုန်းကြွ သူအောင်ပွဲ။
၂၀။ ရဟန္တာဟု၊ ကျော်စောမှု၊ ကြီးထု လွန်ပြန့်သဲ။
၂၁။ သူဂုဏ်ဖော်ပြ၊ ပြောဟောကြ၊ တ,သ နေကြဆဲ။
၂၂။ သင်္ဂါယနာကာလ၊ အောင်ပွဲည၊ နီးမှ ကြွလိုဘဲ။
၂၃။ ကြိုတင်ညှင်းညှင်း၊ သတင်းလေးမျှ၊ မကြားရ၊ ရောက်မှ လွန်အံ့အဲ။
၂၄။ လူရောသံဃာ၊ အားလုံးမှာ၊ ဝမ်းသာလှိုက်လှိုက်လှဲ။
၂၅။ အများသာဓု၊ ကောင်းချီးပြု၊ ခေါ်မှု သံမစဲ။
၂၆။ ထွက်ဝင်မစဲ၊ ဝက်ဝက်ကွဲ၊ ဤပွဲ ကြုံရခဲ။
၂၇။ ရေးပြမကုန်၊ ကြောင်းရင်းစုံ၊ စုပုံ အများဘဲ။
၂၈။ ရာပြည့်ကိုယ်တွေ့၊ မှတ်သရွေ့၊ မမေ့ ရေးကြဲကြဲ။

ဝိနည်းစာပြန် အနှစ် (၁၀၀) ပြည့် ပူဇော်ပွဲကြီးပြီးစ ပြန်ကြွတော်မူသွားကြသည့် ဆရာတော် သံဃာတော်များ၏ အထံမှ ((မိမိတို့ရပ်ထံ ကောင်းမွန်စွာ ပြန်လည်ရောက်ရှိပါကြောင်း) စသည်ဖြင့် အသီးသီးစာပြန်လာကြရာတွင် တိုင်းတတိုင်းမှ ခရိုင်တခုရှိ ဆရာတော်တပါး၏အထံမှ အထက်ပါ (သံပေါက်) စာတိုကလေးကို ရေးသားထည့်ပို့ပေးလိုက်ပါသည်၊ ထိုဆရာတော်၏ စာအရ–

သူသည် ပဲခူးမြို့ ပူဇော်ပွဲကြီးမှ ပြန်ရောက်ပြီး နောင်အခါ အမှတ်တရဖြစ်အောင် ဤ(သံပေါက်) စာတိုကလေးကို ရေးစပ်၍ သူ၏မှတ်တမ်းစာအုပ်ကြီး၌ ရေးကူးထည့်သွင်းပြီးပါပြီ–ဟု ဆိုပါသည်။ ပဲခူးဌာန ဆရာတော်ဘုရားကြီးများ၏အနေဖြင့်လည်း နောင်အခါ အမှတ်တရဖြစ်အောင် (အရညဝါသီ ရွှေကျင်နိကာယသမိုင်း) စာအုပ်တခုပြုစုရန် ဆုံးဖြတ်ချက်တခု ရှိပြီးဖြစ်ပါသည်။

ထိုဆုံးဖြတ်ချက်မှာ–

၁၃၃၂-ခုနှစ်၊ ဝါဆိုလဆုတ်(၁၂)ရက်နေ့ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဂိုဏ်းလုံးကျွတ် (ကြခတ်ဝိုင်းဗဟိုဌာန) သံဃာ့အစည်းအဝေးကြီးမှ ထောက်ခံပြဋ္ဌာန်းအပ်သော လစဉ် နာယက အစည်း အဝေးမှတ်တမ်း အပုဒ် (၇)၌ အောက်ပါအတိုင်း ရှိနေပါသည်။

ဂဏပါကဋ ဂဏနာယက ထေရပ္ပဝရမ္ပဝရတို့၏ သီလာဓိဂုဏဒီပကကထာများနှင့် စတင်ခဲ့သော ၁၂၃၃-ခုနှစ်မှ ၁၃၃၂-ခုနှစ် စာပြန်အနှစ် (၁၀၀)ပြည့်သည့်အထိ သာသနာရေးမှတ်တမ်းအနေ (အရညဝါသီ ရွှေကျင်နိကာယသမိုင်း) စာအုပ်တခု ပြုစုရိုက်နှိပ်ရန် – ဟု ဖြစ်ပါသည်။

သို့သော် မိမိမှာ ကျောင်းသံဃာ (၂၄၀)ကျော် ရှိနေ၍–

(က) သေနာသနဝတ်စသည်နှင့် နဝကမ္မကိစ္စတွေ များစွာရှိနေခြင်း။

(ခ) စာချမှု၊ စာကြပ်မှု၊ စာစစ်မှုတွေ အမြဲရှိနေခြင်း။

(ဂ) စီမံမှု၊ ပြောဆိုမှု စသည်တို့သည်းလည်း အမြဲလိုပင် ရှိနေခြင်း။

အထက်ပါ အဓိကအကြောင်းများကြောင့် သံဃာ့ဆန္ဒ တမုဟုတ်ချင်းမပြည့်ဝတဲ တာဝန်မကျေ သလို ဖြစ်ခဲ့ရပါသည်။ ရေးသားချိန်ရမည့် အခွင့်ကောင်းကိုစောင့်ရင်း အချိန်အနည်းငယ် နှောင်းခဲ့ပါ သည်။ မိမိဝန်တာ ကျေပြွန်ပါ–ဟူသော မိမိ၏ ပရိသတ်အား မိမိအမြဲဩဝါဒပေးနေကျ မိမိ၏ ဆောင် ပုဒ်ကလေးမှာ မိမိအတွက် ပျက်ရယ်မှုပြုသလို ရှိခဲ့သည်။ တာဝန်မကျေမှုအတွက် တွေးမိတိုင်း တနုံ့နုံ့ စိတ်မှာ အနှောင့်အယှက်ကဲ့သို့ ဖြစ်ခဲ့သည်။

ယခုမူ ၁၃၃၄-ခုနှစ်၊ စာမေးပွဲတွေ ဖြေဆိုအပြီး မိမိအတွက် ခေတ္တစာဝါချ အနားရတုန်း–

(က) သထုံမှလျှောက်ထားသော (ပလ္လင်္ကာဒိကပ္ပိယာကပ္ပိယဝိနိစ္ဆယကျမ်း)နှင့်

(ခ) ရန်ကုန်မှလျှောက်ထားသော (ထေရုပ္ပတ္တိသင်္ခေပကျမ်း) –

တို့ကို ရေးသားအပြီး ဤအရညဝါသီ ရွှေကျင်နိကာယသမိုင်းကို ဆက်လက်ရေးသားပါအံ့။

ထိုသို့ရေးသားရာတွင်––

(က) ပဌမကဏ္ဍ၌ ဘုန်းတော်ကြီးဦးသီလ ဖွားမြင်သည်မှ ရာပြည့်ကိစ္စစီမံခြင်း မစမီအထိ တွေ့ရှိပါလိမ့်မည်။

(ခ) ဒုတိယကဏ္ဍ၌ ရာပြည့်ဘိစ္စစီမံသည်မှ ရာပြည့်ပွဲမစမီအထိ တွေ့ရှိပါလိမ့်မည်။

(ဂ) တတိယကဏ္ဍ၌ ရာပြည့်ပွဲစသည်မှ သင်္ဂါယနာမတင်မီအထိ တွေ့ရှိပါလိမ့်မည်။

(ဃ) စတုတ္ထကဏ္ဍ၌ သင်္ဂါယနာတင်ခြင်းနှင့် သံဃာအမှုဆောင် (၇)ဖွဲ့၊ လူအမှုဆောင် (၇)ဖွဲ့ စာရင်းများကို တွေ့ရှိပါလိမ့်မည်။

(င) ပဥ္စမကဏ္ဍ၌ သာသနာပိုင် ဓမ္မာစရိယ ဆရာတော်ဘုရားကြီးနှင့် တိုင်းအသီးသီး၊ ခရိုင်အသီးသီးတို့မှ ဆရာတော်ဘုရားကြီး (၇၅)ပါး၏ ပဋိသန္ဓာရကထာ (၇၅)ပုဒ်ကို တွေ့ရှိပါလိမ့်မည်။

(စ) ဆဋ္ဌကဏ္ဍ၌ တိုင်းအသီးသီး ခရိုင်အသီးသီးတို့မှ အဘိဓဇနှင့်ပါကဋ္ဌ နာယကဖြစ်တော်မူကြသော အပါး (၁၀၀၀) ကျော် ဆရာတော် သံဃာတော်များ ကြီးမှူးကျင်းပခဲ့သော (က) အနှစ် ၁၀၀-ပြည့် ဝိနယစာပြန်ပွဲကြီး၊ (ခ) အနှစ် ၁၀၀-ပြည့် တရားပွဲကြီးနှင့် (ဂ)ဝိနည်းပိဋကတ် ထွင်ရွှံအမြတ်ပူဇော်ပွဲကြီးတို့အတွက် ရရှိသောငွေစာရင်းနှင့် ကုန်ကျသောငွေစာရင်းရှင်းတမ်းတို့ကို တွေ့ရှိပါလိမ့်မည်။

(ဆ) သတ္တမကဏ္ဍ-၌၊ ကြခတ်ဝိုင်းသာသနာပြု အမျိုးသား/အမျိုးသမီးအသင်း နာယက-အမှုဆောင်- အဖွဲ့ဝင်များနှင့်—

(က) အဓိက ဆောင်ရွက်ချက်များ။

(ခ) ၁၃၃၆-ခုနှစ် ဝါတွင်း ဆွမ်းဟင်းချက်လှူဒါန်းသော အသင်းသူ-/အသင်းသားများ နှင့် ၁၃၃၅-ခုနှစ် ဝါတွင်းတရားပွဲ ရငွေ သုံးငွေ ရှင်းတမ်း။

(ဂ) ၂၄-ကြိမ်မြောက် (ဘုံ)ကထိန် ရသုံးရှင်းတမ်း။

(ဃ) ၁၀၃-ကြိမ်မြောက် ဝိနည်းစာပြန်ပွဲတော်ကြီး၏ ဝင်ငွေ ထွက်ငွေရှင်းတမ်း။

(င) ဝါတွင်းသီတင်းနေ့တိုင်း ဟောကြားသောတရားအမြွက်တို့ကိုတွေ့မြင်ရပါမည်။

(ဇ) အဋ္ဌမ ကဏ္ဍ၌ နီးကပ်သော (၅)နှစ်အတွင်း စာအောင် သံဃာတော်များစာရင်းနှင့် ၁၃၃၅-၁၃၃၆-ခုနှစ် ဝါဆိုသံဃာတော်များစာရင်းတို့ကို တွေ့မြင်ရပါမည်။

(ဈ) နဝမကဏ္ဍ-၌ တိုင်းအသီးသီး ခရိုင်အသီးသီးမှ အဘိဓဇနှင့် ပါကဋ္ဌ နာယကဖြစ်တော်မူကြသော အပါး- (၁၀၀၀) ကျော် ဆရာတော် သံဃာတော်တို့က အတိအကျ လိုက်နာကြရန် ဆုံးဖြတ်တော်မူအပ်သော—

(က) ရွှေကျောင်ဂိုဏ်း ကျင့်ထုံးကြီးနှင့်

(ခ) ဓမ္မဝိနယ စာတမ်း—

တို့ကို တွေ့မြင်ရပါမည်။

(ဥ) ဒသမကဏ္ဍ-၌- ဒုလ္လဘဒါန ဓမ္မပူဇာစေတနာရှင်တို့၏ အမည်နှင့် ကုသိုလ်စာရင်းတို့ကို တွေ့ရပါလိမ့်မည်။

ထိုကြောင့်–

ထိုအရည၀ါသီ ရွှေကျင်နိကာယသမိုင်းသည် ရှေးရှေးသော သာသနာပြု တောရဆရာတော်ဘုရားကြီးများနှင့် အဆက်ဆက်သာသနာပြုဆရာတော်ဘုရားကြီးများ၏ သန့်စင်ကြီးမားသော သိက္ခာတော် အနန္တ သတ္တိဂုဏ်စွမ်းဗလကြောင့် သောကကင်းဝေး ကိုယ်စိတ်အေးလျက် အန္တရာယ်မရှိ ဘေးမထိဘဲ အလွယ်တကူဖြင့် ပြည့်စုံပြီးမြောက် သာယာချမ်းမြေ့ခြင်းသို့ အမြန်ဆုံးဆိုက်ရောက်ပါစေသား။

၁၃၃၄-ခုနှစ်၊ ၊၊-ဝါဆိုလဆန်း (၁) ရက်

ဦးဇောတိပါလ
ကြခက်ဝိုင်းကျောင်းတိုက်
ပဲခူးမြို့။

အရညဝါသီ ရွှေကျင်နိကာယသမိုင်း

# မာတိကာအညွှန်း

---

| အကြောင်းအရာ | စာမျက်နှာနံပါတ် |
| --- | --- |

## ပဌမကဏ္ဍ

## ဒုတိယကဏ္ဍ

အကြောင်းအရာ စာမျက်နှာနံပါတ်

**အဋ္ဌမကဏ္ဍ**



**နဝမကဏ္ဍ**



**ဒသမကဏ္ဍ**



မာတိကာပြီး၏။



ဓမ္မစက္ကပဝတ္တနသုတ်တော် ဟောကြားနေပုံ

စာပြန်ရာပြည့်မွှာရုံအတွင်းရှိ ဦးလံဘား၊ ဒေါ်ကျင်မှုံမိသားစုတို့
လှူဒါန်းပူဇော်ထားသည်။

ပဲခူးခရိုင်

# အရည်ဝါသီ ရွှေကျောင်းနိကာယ သမိုင်း

အကျဉ်းချုပ်

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## ပဌမကဏ္ဍ

### ဘုန်းတော်ကြီး ဦးသီလ

ဘုန်းတော်ကြီး ဦးသီလသည် ရဟန္တာတည်းဟု ယနေ့အထိ ကျော်ကြားၡ၏၊ တန်ခိုးဣဒ္ဓိပါဒ်အလွန်ကြီးကြောင်းလည်း ပြောနေကြသေး၏၊ သူ၏တန်ခိုးဣဒ္ဓိပါဒ်ကို ယနေ့အထိ မှီခိုနေကြရသေး၏၊ (၁) ကျားမကိုက် (၂) ဆင်မထိုး (၃) နွားမခေ့ (၄) ကျွဲမခတ် (၅) ရထားရပ် (၆) မြွေမကိုက် (၇) ပျားမတုပ် စသော ထူးခြားချက် အံ့ဘွယ်ဘနန်း ရည်ရော်မှန်းသျက် တမ်းတ ကြည်ညိုစရာများကိုလည်း ယနေ့အထိ တဖွဖွ ပြောဆိုနေကြသေး၏။

(ဦးသီလ ထေရုပ္ပတ္တိကျမ်းမှာ အတော်ပြည့်စုံသည်)

ရာပြည့်ပူဇော်ပွဲကြီးပြီးစ ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလဆုတ်(၁၃) ရက်နေ့ညနေ ယခုဘုန်းတော်ကြီး ဦးသီလ၏ ပုံတော်ကြီးကို ပင့်လာရသော (ပုံတော်ကြီးကို မပျက်မစီးအောင် အနှစ် ၆၀-ကျော် ထိန်းသိမ်းလာခဲ့သော) ကျောင်းတိုက်သို့ စာချ (၂) ပါး အဖော်ခေါ်ပြီး ကားဖြင့် ကိုယ်တိုင် သွားရောက်စုံစမ်း၏၊ ကားကို လမ်းမှာ ထားခဲ့ပြီး လယ်ကန်သင်းရိုးပေါ်မှ ကုန်းကြောင်းဆင်းသွားရ၏၊ ပုံတော်ကြီး သီတင်းသုံးခဲ့သော နေရာကို လက်နှိပ်မီးငါးပြီး ဝင်ကြည့်ကြ၏။

### ကြားခဲ့တာ ၃-ခု

ဆရာတော်မှာ အသက်တော် (၆၀) ခန့်ရှိပါသည်၊ ထူးခြားချက်မိန့်ကြားသည်မှာ သူ၏ဆရာတော်မှာ အသက်တော်(၈၀)ကျော်က ပြန်လွန်သွားကြောင်း၊ မှတ်မိတဲ့အရွယ်ကပင် ဤပုံတော်ကြီးတွေ့ခဲ့ကြောင်း၊ နောင် သူဆရာတော် အမိန့်ရှိ၍ ကြားခဲ့တာ အမှတ်တရ (၃) ခုရှိကြောင်း။

(က) အဲဒီတောရဆရာတော်ကြီး ဦးသီလဟာ သိပ်ဘုန်းကြီးတယ်၊ သူရောက်တဲ့နေရာမှာ ရဟန္တာကြီးဟု ကျော်ကြားပြီး အိပ်မက်များမြင်မက် အချိုလဲ တဆင့်စကား တဆင့်ကြားပြီး များစွာဘဲ အုပ်အုပ်သဲသဲ ကန်တော့ကြ, လောင်းကြ, လှူကြ၊ ဒါပေမဲ့ ဘာကိုမျှ မယူဘူး၊ ရသမျှကို ရောက်တဲ့အရပ်မှာ စွန့်ခဲ့တယ်၊

(ခ) နောက်တခုက ဒီရွာကို နွေခေါင်ခေါင် နေပူပူ နေ့ခင်းကြီး တနေ့ ရောက်လာတယ်၊ မြေပြင်မှာဘဲ ဝါး (၄) လုံးစိုက်ပြီး ပိတ်ကလေး မိုးပေးရတယ်၊ အတင်းအုပ်အုပ်သဲသဲ ဝိုင်းကန်တော့ကြ၊ အဲဒီအခိုက်မှာဘဲ တခါတဲ မိုးကြီးအုံ့မှိုင်းပြီး အပူရှိန်တွေ သိသိသာသာကြီး လျော့နည်း အေးချမ်းသွားလို့ အထူးအံ့သြကြတယ်၊

(ဂ) နောက်တခုက ဒီလို တသုတ်ပြီးတသုတ် လူပေါင်းများစွာ ဝိုင်းအုံကန်တော့နေကြတုန်းဘဲ ငါးခူတွေ, ငါးကျည်းတွေ, ငါးပြေမတွေ အတင်းတက်လာပြီး လူတို့အကြားမှ တိုးလျက် ဘုန်းတော်ကြီးရှေ့မှာ လာရပ်နားနေကြလို့ တအံ့တသြဖြစ်ပြီး တကောင်စီကောက်လျက် ရေရှိရာသို့ သွားလွှတ်ကြရတယ်....တဲ့၊

**လက်ညှိုးညွှန်ရာရေဖြစ်သလော**

အခါတပါး မော်လမြိုင်ခရိုင် ဘီလူးကျွန်းရှိ ကျိုက်ကွဲတောင်၌ ဘုန်းတော်ကြီး တောရဆောက်တည် နေစဉ် ထိုတောင်မှ ရှေ၍ ကျိုက်ဒိုးတောင်၌ သီတင်းသုံးတော်မူပါရန် ဘုန်းတော်ကြီးအား ရွာလွှတ်ရွာ ဒါယကာများ သွားပင့်ကြ၏၊ ချီးမြှင့်တော်မူပါရန် လျှောက်ထားကြ၏၊ ကြွလိုက်လာ၏၊ ကျိုက်ဒိုး တောင်ထိပ်သို့ရောက်၏၊ ထိုအခါ ရေအလွန်ငတ်လျက် အားလုံးမောဟိုက် ပင်ပန်းကြ၏၊ ရေကိုလည်း ယူမလာမိခဲ့ကြ၊ သို့ဖြစ်လေရာ ဘုန်းတော်ကြီးက ရေငတ်နေကြကြောင်းသိ၍—

ဒါယကာတို့....ဟိုသစ်ပင်အောက်မှာ ရေသွားခပ်ကြ-ဟု—

လက်ညှိုးဖြင့် ညွှန်ကြားလိုက်၏၊ ညွှန်ကြားသောအတိုင်း သွားခပ်ရာ ရေရလာကြ၏၊ ဘုန်းတော်



ကြခတ်ဝိုင်းကျောင်းတိုက်အရှေ့မုခ်နှင့် ပြာသာဒ်ဆောင် နတ်လမ်းတို့ကို ဤသို့မြင်ရသည်။
၁၃၃၄-ခုနှစ် သံဃာတော် အပါး (၂၄၀) ဝါဆိုကြသည်။

ကြီးသည် တခါတခေါက်မျှ ထိုတောင်သို့ မရောက်ဘူးသေး၊ ထိုတောင်ပေါ်၌ ရေရှိကြောင်း ရေထွက်ကြောင်းမကြားဘူးခဲ့၊ ရေရှိကြောင်း အဘယ်ပုံသိမည်နည်း၊ လက်ညှိုးညွှန်ရာ ရေဖြစ်လာသည်နှင့်

တူလှ၏၊ ဤသို့ ဝမ်းမြောက်စွာ တွေးတော အံ့သြနေကြ၏၊ (ဦးသီလ ထေရုပ္ပတ္တိမှ)။ စာရေးသူကိုယ်တိုင် ၁၉၆၁-ခုနှစ်က သွားကြည့်ခဲ့၏၊ ထိုတောင်သည် ပေ(၁၈၀)ခန့် မြင့်၏၊ ပေ(၁၃၀)လောက်မှာ ရေထွက်သောနေရာကို တွေ့ရ၏၊ထိုအချိန်အထိ ရေတွေထွက်ကျနေသေး၏၊ထိုတောင်ခြေရှိ ဘုန်းတော်ကြီးတည်ခဲ့သော ကျိုက်ဒိုးတောရကျောင်းတိုက်မှာ ထိုအချိန်က သံဃာ (၃၀) ကျော်ရှိ၏၊ ထိုတောင်ထွက်ရေများကို ဝါးဘိုးဝါးလုံးကြီးများဖြင့် သွယ်၍ တောင်ခြေရှိအုဌ်ကန်ကြီးထဲသို့ ကျစေ၏၊ သောက်သုံးချိုးကြသည်ကို တွေ့ခဲ့ရ၏၊ ဘုန်းတော်ကြီးသီတင်းသုံးသွားသော ကျောက်ဂူထဲသို့ ဝင်ကြည့်ခဲ့၏၊ တချိန်က ကြွနေကျ ဘုန်းတော်ကြီး၏ ဆွမ်းခံလမ်းတို့ကိုလည်း လေ့လာခဲ့၏။



**ပဲခူး အရညဝါသီ ရွှေကျင်နိကာယအဖွဲ့**
**အစဉ်အတိုင်း ဝဲမှ ယာသို့**
မျက်နှာတော်ဆရာတော်၊ စမ်းကြီးတောရဆရာတော်၊ ဥက္ကံ(မဟာနာယက)ဆရာတော်၊ ရွှေကျင်(ဥပမဟာနာယက)ဆရာတော်၊ မယင်းဆရာတော်၊ ကြခတ်ဝိုင်း (ဂိုဏ်းဝန်ဆောင်)ဆရာတော်။ ။မှတ်ချက်။— ရေကျော်ဆရာတော်ဓာတ်ပုံရိုက်စဉ်အကြောင်းမညီညွတ်၍မပါ၊ ဒက္ခိဏသာခါ ဆရာတော်၊ ကလျာဏီဆရာတော်၊ ရွှေဂူဆရာတော်များ ပြန်လွှန်၍ မပါကြပါ၊

### အလွန်ကျေးဇူးများခြင်း

ဘုန်းတော်ကြီးမှာ—

(က) ပဲခူးတောရ အရညဝါသီ ရွှေကျင်နိကာယကိုလည်း မဖြစ်မနေ ထူထောင်လျက် တောရသာသနာကျယ်ပြန့်အောင် စိတ်ရောကိုယ်ပါ ပြုစုပန်တီးသွားခဲ့သည်။

(ခ) ကြခတ်ဝိုင်းကျောင်းတိုက်ကိုလည်း မဖြစ်မနေ ထူထောင်လျက် ယနေ့အခြေအနေသို့ဆိုက်ရောက်အောင် စီမံအားထုတ်သွားသည်၊ ဘုန်းတော်ကြီး၏ ဘုန်းတော် ကံတော် ဉာဏ်တော်များ များစွာပါဝင်ကြောင်း သာဓက တော်တော်များများတွေ့ရသည်။

(ဂ) ဝိနည်းစာပြန်ပွဲကြီးကိုလည်း မဖြစ်မနေထူထောင်လျက် မပျက်မစီးအောင် စည်းမျဉ်း ဥပဒေ ကတိကဝတ် စသည်တို့ဖြင့် ချုပ်ကိုင်ကြပ်မတ်သွားသည်။

ဘုန်းတော်ကြီးမှာ သာသနာတော်အတွက် ယနေ့တိုင် မမေ့နိုင်လောက်သော ဆောင်ရွက်အားထုတ်မှု စီမံလမ်းညွှန်မှုကျေးဇူးတွေသည် လွန်စွာကြီးမားလှပါတကား။

## ဖွားမြင်ခြင်းစသည်

ထိုဘုန်းတော်ကြီး ဦးသီလကို ပခုက္ကူမြို့၏မြောက်ဘက် (၃) မိုင်အကွာ အထက်ဇိုင်းဂနိုင်းကြီးရွာ၌ ၁၁၉၄-ခုနှစ်၊ နတ်တော်လဆန်း (၇) ရက် သောကြာနေ့နံနက် (၇) နာရီအချိန်တွင် ဖွားမြင်သည်၊ အဘဦးထွန်းအောင်-အမိ ဒေါ်ချို ဖြစ်သည်၊ ကုန်သည်လုပ်ငန်းဖြင့် အသက်မွေးသည်၊ မောင်နှမအရင်း (၅) ယောက်ရှိသည်၊ ၅-ယောက်စလုံးပင် အထက်ဇိုင်းဂနိုင်းကြီးရွာမှာ ဖွားမြင်ကြသည်၊ နောင်မှ ဘုရားကလေးသို့ အချို့ပြောင်းရွှေ့နေထိုင်ကြသည်၊ ထို အရင်း (၅)ယောက်တို့မှာ—

(၁) ဦးရွှေသာ(ဘုန်းတော်ကြီး ဦးသီလ)
(၂) ဒေါ်သူဇာ(ပခုက္ကူဘုရားလမ်း ဦးသိန်းဖေ၏အဖွား၊ ဒေါ်မြ၏ အမေ)
(၃) ဒေါ်အို(ဘုရားကြီးရွာ ဒေါ်နှင်းယုံ, ဒေါ်ညွန့်တို့အမေ)
(၄) ဒေါ်လှအောင်(ဥက္ကံရွာ ဒေါ်အေးခင်၏အမေ)
(၅) ဦးဘိုးကျော်(ငယ်စဉ်ကပင် ရဟန်းဖြစ်၊ ၂-ဝါအရတွင် ပြန်လွန်တော်မူ)

ဘုန်းတော်ကြီး အလောင်းလျာသူငယ်ကို (၁၀)နှစ်သားအရွယ်မှာ အထက်ဇိုင်းဂနိုင်းကြီးအနီး ကော့ပြင်းရွာ ဘုန်းကြီးကျောင်းသို့ အပ်နှံပညာသင်စေသည်။

၁၂၀၆-ခုနှစ် (၁၂) နှစ်သားအရွယ်မှာ မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟဖြင့် ရှင်သာမဏေအဖြစ်သို့ရောက်သည်၊ ဘွဲ့တော်မှာ(ရှင်သီလသာရ)ဖြစ်သည်၊ သာမဏေဘဝဖြင့် (၇)ဝါရသည်။

၁၂၁၃-ခုနှစ် တပို့တွဲလမှာ ပခုက္ကူခရိုင် ကျိုက်ဒေးယျုံရွာ ဘုရားကုန်းအရာမ်အတွင်းရှိ ခဏ္ဍသိမ်တော်၌ ကျိုက်ဒေးယျုံဘုရားအနီး ပီလခတ်(ပိဒသာခါး)ရွာ ဆရာတော်အား ဥပဇ္ဈာယ်ပြု၍ မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟဖြင့်ပင် ရဟန်းအဖြစ်သို့ ရောက်သည်။

## ပညာသင်ကြားခြင်း

ကော့ပြင်းရွာ ဘုန်းကြီးထံ၌—

| | |
|---|---|
| (က) ကျောင်းသားဘဝ | (၂) နှစ် |
| (ခ) ရှင်သာမဏေဘဝ | (၇) နှစ် |
| (ဂ) ရဟန်းဘဝ | (၂) နှစ် စာသင်ခဲ့သည်။ |

၁၂၁၅-ခုနှစ် သီကွာ (၂) ဝါအရ သီတင်းဝါလကျွတ်ပြီးစ ကာလ၌ ပခုက္ကူမြို့ထောင့်ကျောင်း ဘုန်းကြီး ဦးပုံ (ဦးစန္ဒာလင်္ကာရ)၏ အထံသို့ ပြောင်းရွှေ့စာသင်၏၊ ထိုအခါ ဘာဂိုဏ်းမျှမရှိသေးပါ၊ သံဃာတမျိုး

တည်းသာရှိလျက် ရင်းဘုန်းကြီးဦးပုံ(ဦးစန္ဒာလင်္ကာရ)သည် ပဲခူးမြို့၌ သံဃာအားလုံးကို အုပ်ချုပ်သော ဂိုဏ်းအုပ်ဖြစ်သည်၊ ထိုဂိုဏ်းအုပ် ဦးပုံကျောင်း၌ (၃) နှစ်စာသင်သည်။

ထောင့်ကျောင်းဟူသည်ကား ယခု မြို့အရှေ့ဘက်ကမ်း ဈေးကြီး၏ အရှေ့မြောက်ထောင့်ဖြစ်သော အမှတ် (၂) အထက်တန်းကျောင်းကြီးနေရာပင် ဖြစ်၏၊ ဈေးကြီး၏ အရှေ့မြောက်ထောင့်ဖြစ်သော ကြောင့် (ထောင့်ကျောင်း)ဟု ခေါ်ကြ၏၊ ဘုန်းတော်ကြီးဦးသီလတို့ ဆရာတပည့် နေထိုင်ကြသော ကျောင်းဖြစ်၏၊ သွန်းဘုရားကြီးအရှေ့ဘက် အထွက်လမ်းအထိ ကျောင်းဝိုင်းဟု ဆို၏။

ယင်းနေရာသည် အစိုးရ အမှတ် (၂) အထက်တန်းကျောင်းမဖြစ်မီ မြူနီစီပါယ်ကျောင်းတည်း၊ မြူနီစီပါယ်ကျောင်းမဖြစ်မီက ဆေးရုံတည်း၊(ရင်ခွဲတောင်ခေါ် ဆေးရုံ၌ ရင်ခွဲသည့် ယခင် လက်ကျန်အုတ်



ဤနေရာသည်
ပဌမ ဘုန်းတော်ကြီးဦးသီလတို့ ထောင့်ကျောင်း၊
ဒုတိယ အစိုးရဆေးရုံကြီး၊
တတိယ မြူနီစီပါယ်ကျောင်း၊
စတုတ္ထ (ယခု)အမှတ် (၂) အထက်တန်းကျောင်း၊

တိုက်အဆောက်အဦလေးမှာ ဂျပန်ခေတ်အထိရှိနေသေးသည်၊ယခုအထိ ဆေးရုံဟောင်းလမ်းဟု ခေါ်ကြ သေးသည်)။ဆေးရုံမဖြစ်မီက ဘုန်းတော်ကြီး ဦးသီလတို့ကျောင်းတည်း၊အရံကျောင်းလေးများဖြင့် စည် ကားသော ကျောင်းတိုက်ပင်ဟု ဆို၏၊ ထိုအခါ ယခုသွန်းဘုရားကြီးကား သုသာန်ကြီးတည်းဟု ဆို၏။

၁၂၁၈-ခုနှစ် ရဟန်း (၅)ဝါအရမှာ ရန်ကုန်ပုဇွန်တောင် တောင်လုံးပြန် ရွှေကြက်ယက်ကျောင်း (ယခုကျိုက်ထီးရိုးကျောင်းတိုက်)ဘုန်းကြီးဦးမေဓာထံ၌ ၁-ဝါ စာသင်ပြန်၏။

၁၂၁၉-ခုနှစ် ရဟန်း (၆) ဝါအရမှာ ပဲခူးမြို့သို့ပြန်၍ ကလျာဏီဘုန်းကြီး ဦးဝဏ္ဏ (အထက်ဇိုင်းဂနိုင်းကြီးသား)၏အထံ၌ စာပေဆက်သင်၏၊ ကလျာဏီသည် ထိုအခါ ဆင်နေကျားအောင်းတည်း၊ထိုဦးဝဏ္ဏသည် ကလျာဏီ၌ တောထွက်နှင့်၏၊ တောရဂိုဏ်းဖြစ်လာအောင် လုံးပမ်းသူတို့တွင် တပါးတည်း။

၁၂၂၀-ခုနှစ် ရဟန်း (၇) ဝါရအပြီး စစ်ကိုင်းတောင်ရိုး ပိတောက်ချောင်၌ အရိယဝံသရေငုံတိုက်တွင် ၁-ဝါ စာသင်သေး၏။

၁၂၂၁-ခုနှစ် ရဟန်း (၈) ဝါရအပြီး မန္တလေးမြို့အရှေ့ပြင် စလင်းတိုက်၌ (၁) ဝါစာသင်သေး၏။

## တောရဂိုဏ်းဖြစ်မြောက်ရေးစပြီ

၁၂၂၂-ခုနှစ်ရဟန်း(၉)ဝါရအပြီး မကျန်းမာသဖြင့် ပဲခူးမြို့သို့ပြန်ကြွလျက် တောထွက်ကာ ပဲခူးပတ်ဝန်းကျင်တောများနှင့် (က) လာကမို (ခ) ဈေးညောင်ပင် (ဂ) ကျိုက်ပဒိုင်သိမ်ကုန်း (ဃ) ပတ္တမြားစေတီ (၁) ဂူကုန်း စသည်တို့၌ သပိတ်(၁)လုံး သင်္ကန်း (၃) ထည်ဖြင့် တောမှာ အရဏ်ယူပြီး သင့်သလိုသီတင်းသုံးနေ၏၊ တောရဂိုဏ်းအဖြစ်သို့ ရောက်အောင်လည်း အထူးကြိုးစားအားထုတ်၏။

တနေ့သ၌ ဘုန်းတော်ကြီး ဦးသီလသည် မိမိဆရာ ဦးစန္ဒာလင်္ကာရ(ဘုန်းကြီးပုံ)၏ ထောင့်ကျောင်းအဝင်ဝ ဇရပ်တခု၌ တည်းခို၍နေ၏၊ ဆွမ်းခံ၍ ဘုန်းပေး၏၊ ကျောင်းပေါ်သို့ကား မတက်၊ ၂-ရက်ရှိသော် ဘုန်းကြီးဦးပုံ ဆင်းလာ၏၊ ဘာ့ကြောင့် ကျောင်းပေါ်မတက်သလဲ၊ ငါ့အား အဘယ်သို့ အပြစ်မြင်သလဲ မေး၏။

(က) ဆရာဘုရားသည် တပည့်၏ အနန္တကျေးဇူးရှင်ကြီးပါတည်း၊
(ခ) ဆရာဘုရား၏အထံ၌ ဝိနည်းကျမ်းဂန်တို့ကို သင်ယူခဲ့ရပါသည်၊
(ဂ) ဝိနည်းပြစ်မကင်းသော အရာဌာနတို့ကို မြင်ပါသဖြင့် ကျေးဇူးအထူးဆပ်ရန် အကြံယူကာ အခွင့်ကောင်းကို စောင့်မြော်လျက်နေရပါသည်။

ဤသို့ ဘုန်းတော်ကြီးဦးသီလက လျှောက်လေလျှင် ထောင့်ကျောင်းဆရာတော်ဦးပုံက—

(က) ဦးပဉ္ဇင်း ငါ့မှာ တပည့်များစွာရှိသော်လည်း ဦးပဉ္ဇင်းကိုသာ အားကိုးသည်၊
(ခ) ငါ၌ မသင့်သောအရာဌာနတို့ကို ပြုပြင်ပါလော၊
(ဂ) ငါ့ကို ပစ်မထားပါနှင့်၊
(ဃ) ဝိနည်းနှင့်မညီသည်ကို အလိုရှိတိုင်း ပြုပြင်ရန် ငါခွင့်ပေးပါသည်၊

ဤသို့ ဆရာတော်(ဘုန်းကြီးပုံ)က မိန့်လေလျှင် ဦးသီလကိုယ်တော်က—

ဤသို့အခွင့်ပြုပါလျှင် လှည်းယာဉ် လှေလောင်းမှစ၍ သာသနာတော်နှင့် မလျော်သော ပလိဗောဓမှန်သမျှတို့ကို သုတ်သင်ရှင်းလင်းပါရစေ။ (ဤကား တောရဂိုဏ်းဖြစ်ဘို့ရာ အခွင့်သာသော လမ်းစပါတည်း)



ပဲခူးခရိုင်၊ သနပ္ပင်မြို့နယ် ဈေးညောင်ပင်ရွာအရှေ့တောတန်းရှိ
ဘုန်းတော်ကြီးဦးသီလ သီတင်းသုံးသွားသော မူလဂူ၏အဝင်ဝဖြစ်သည်၊
(ဦးကျော်လှိုင်၊ ဒေါ်ခင်နုတို့ထံမှ ကူညီပို့သည်)



ပဲခူးခရိုင်၊ သနပ္ပင်မြို့နယ်၊ ဈေးညောင်ပင်ရွာ (၃) ဖာလုံအကွာရှိ
ဂူကုန်းတောရ ဘုန်းတော်ကြီး ဦးသီလ၏ သီတင်းသုံးခဲ့ရာဌာနဖြစ်သည်၊
(ဦးကျော်လှိုင်၊ ဒေါ်ခင်နုတို့ထံမှ ကူညီပို့သည်၊)

၁၂၂၆-ခုနှစ် (ဦးသီလ ၁၃-ဝါအရတွင်)ပဲခူးမြို့၌ အလွန်ထင်ရှားသော ဂိုဏ်းအုပ်ဆရာတော်(ဦးသီလ၏ဆရာ)ထောင့်ကျောင်းဘုန်းကြီးဦးပုံ(ဦးစန္ဒာလင်္ကာရ)သည်–

(က) မိမိ၏ဂိုဏ်းအုပ်အဖြစ်မှ နုတ်ထွက်၍၎င်း၊

(ခ) မိမိ၏ကျောင်းတိုက်ကြီးကို လူထုအတွက် အစိုးရအားစွန့်၍၎င်း ပဗ္ဗာဇနီယကံဆောင်တော်မူ၍ တောထွက်တော်မူသည်၊ (မိမိကိုယ်ကို ကုလဒူသနမှုရှိသကဲ့သို့ ကျောင်းတိုက်မှ နှင်ထုတ်လိုက်သောအဖြစ် အပြစ်ဒဏ်ခတ်လိုက်သည်ဟူလို)

## တောဂိုဏ်းဖြစ်မြောက်ပြီ

ဘုန်းကြီးဦးဝဏ္ဏနှင့် ဘုန်းကြီးဦးသီလတို့က အသင့်စောင့်လျက် ကျောင်းတိုက်မှ နောက်ပါတပည့်များအဖြစ် လာစောင့်ပြီး အတူထွက်ကြသည်၊ သပိတ် (၁) လုံးနှင့် သင်္ကန်း (၃) ထည်သာ ပါကြသည်။

ကြွတော်မူအံ့ဆဲဆဲတွင် တပည့်ရဟန်းအချို့နှင့် ဒကာ, ဒကာမ တော်တော်များများက တောထွက်တော်မမူရန် ဝိုင်းဝန်းတောင်းပန် လျှောက်ထားကြ၏၊ ထိုအခါ—

ငါသည် သင်တို့ကို မုန်းတီး၍ တောတွက်သည်မဟုတ်၊ နိယျာနိကဘုရားသာသနာနှင့် တွေ့ကြုံကျိုးနပ်အောင် မဂ်မျိုးစေ့ ဖိုလ်မျိုးစေ့ရှာဖွေရန်နှင့် ဝေငှရန် ကိုယ့်အကျိုး သူ့အကျိုး နှစ်မျိုးလုံးကိုငဲ့၍ တောထွက်မည်ဖြစ်သည်။

ဤသို့ ပြောပြောဆိုဆိုဖြင့် ကျောင်းတော်ကြီးပေါ်မှ ဆင်းကြွသွားတော်မူ၏၊ ထိုအခါကား— အများဝိုင်းအုံ ဆွေ့ဆွေ့ခုန်လျက် ဖျောင်းဖျတောင်းပန် ကျွက်ကျွက်ညံသောအသံတို့ဖြင့် သောကလောင်မီးအဟုန်ကြီး၍ လွတ်တင်ငိုကြွေးကြသောအခါပေတည်း။

ကျောင်းတိုက်အဝသို့ ဘုန်းကြီးပုံ ရောက်သောအခါ တောင်ဝှေးနှင့်သပိတ်၊ တိစီဝရိက်သင်္ကန်းများကို ပံသုကူအဖြစ် ပစ်ထားသည်ကို တွေ့ရလေ၏၊ မင်း၏အဘိသိက်(ရာဇာဘိသေက)ကို ခံရန် သွားလိုသော (ပြည့်ရှင်မင်းကြီး)သည် (မင်းမြောက်တန်းဆာဂါးပါး)ကို ဆင်မြန်းလေသကဲ့သို့ (အရညကင်စုတင်)တောရဆောက်တည်မှု အဘိသိက်ခံရန် သွားလိုသော ဘုန်းကြီးပုံသည်လည်း ဤနေရာတွင် ရပ်တန့်ကာ(ပံသုကူစုတင်)ဆောက်တည်၍ ထိုပံသုကူသင်္ကန်း တန်းဆာတို့ကို ကောက်ယူဝတ်ရုံပြီး ကျောင်းပေါ်မှ ဝတ်ရုံလာသော သင်္ကန်းစသည်တို့ကို တိုနေရာ၌ပင် စွန့်ခဲ့၍ သပိတ်ကိုကိုယ်တိုင်လွယ်ယူ တောင်ဝှေးကိုကိုင်လျက် ဦးဝဏ္ဏနှင့် ဦးသီလတို့ကို နောက်ပါပြု၍ ကလျာဏီတောရကျောင်းသို့ ကြွသွားတော်မူလေ၏၊ ထိုအခါ ဘုန်းကြီးပုံမှာ အသက်တော်(၆၇)နှစ် သိက္ခာတော် (၄၈)ဝါရှိလေပြီ။

ထိုအချိန်(၁၂၂၆-ခုနှစ်)မှ စ၍ ပဲခူး၌—

(က) ဂါမဝါသီ ရွာကျောင်း

(ခ) အရညဝါသီ တောကျောင်း

ဟု ထင်ထင်ရှားရှား ကွဲလေပြီ။



ပခုူးအနောက်တော အကျွတ်အသွတ်စေတီတော်များ၏ အနောက်ဘက်(၄)ဖာလုံအကွာ
ဘုန်းတော်ကြီး ဦးသီလ၏ သီတင်းသုံးသွားသော ကျောင်းကုန်းနေရာဖြစ်သည်၊



ထိုကျောင်းကုန်းအနီး အောက်အနိမ့်ရှိ ယခုအခေါ် နတ်ရေတွင်း၊ ရှေးအခေါ် ဦးသီလ
ရေတွင်းနှင့် ဘုန်းတော်ကြီးဦးသီလ၏ ရုပ်ပုံတော်ဖြစ်သည်၊ ရေအလွန်ကောင်းသည်၊

## တောဂိုဏ်-အစ ဆရာတော်များ

သို့သော် ထိုအချိန်အထိ ရွှေကျင်, သုဓမ္မာ, ဒွါရ-ဟုကား မရှိသေးပါ၊ ရွာကျောင်းနှင့် တောကျောင်းဟုသာ ရှိသေးသည်၊ ထိုအခါ အရညဝါသီ (တောကျောင်းနေ) ပုဂ္ဂိုလ်များမှာ (၄) ပါးသာရှိသေးသည်၊ ဤ (၄)ပါးဖြင့် အရညဝါသီတောရဂိုဏ်းကို စတင်ကြသည်၊ ၎င်း (၄) ပါးတို့ကား—

(က) ဦးစန္ဒာလင်္ကာရ(ဘုန်းကြီးပုံ၊ ယခင်ဂိုဏ်းအုပ်၊ ထောင့်ကျောင်း)
(ခ) ဦးဝဏ္ဏ(ကလျာဏီတောနေ၊ အထက်ဇိုင်းဂနိုင်းကြီးသား)
(ဂ) ဦးအာစာရ(မန္တလေးမှ အတူပါလာ၊ နောက် ကလျာဏီပြန်လွန်)
(ဃ) ဦးသီလ (ဘုန်းတော်ကြီး၊ နောင် ရဟန္တာဟု ကျော်ကြား)

ဦးစန္ဒာလင်္ကာရ(ဘုန်းကြီးဦးပုံ)သည်၊ တဖြည်းဖြည်း ထင်ရှား၏၊ တောင်ငူနှင့် ရန်ကုန်အကြား ဂိုဏ်းအုပ်ကြီးတည်းဟု အထူးလေးစားကြ၏၊ အလွန်ညီညွတ်ကြ၏၊ သြဇာလည်း ကြီး၏၊ အဖက်ဖက် တော်၏၊ မဆုတ်နစ်သော သဒ္ဓါတရားရှိ၏၊ ဘုန်းကြီးဦးပုံ၏ အဓိကတိုက်တွန်းနေကျ တရားတိုလေးမှာ အောက်ပါအတိုင်း ဖြစ်၏။

ဒုပ္ပဋိရာမဋ္ဌံ ဟိ သာမညံ၊ နိရယာယူပကဍ္ဎတိ။

ဒုပ္ပရာမဋ္ဌံ၊ မကောင်းသဖြင့် သုံးသပ်အပ်သော၊ သာမညံ၊ ရဟန်း၏အဖြစ်သည်။ နိရယာယ၊ ငရဲသို့။ ဥပကဍ္ဎတိ၊ ဆွဲငင်၏-ဟူသည်တည်း။

ဘုန်းကြီးပုံသည် ၁၂၂၇-ခုနှစ်တွင် ကသျာဏီတောင်ဘက် သစ်စေးပင်ကြီးအနီး၌ လေးတိုင်စင်ဖြင့် သီဘင်းသုံး၏၊ ဦးသီလသည်လည်း ၎င်း၏အနီး အနောက်ဘက်၌ လေးတိုင်စင်ဖြင့်ပင် သီတင်းသုံး၏။

## တောဂိုဏ်း၌ အစဆုံးအုပ်ချုပ်ပုံ

ဝါကျွတ်သည့်အခါ ဟင်္သာကုန်းသို့ကြွ၊ ၁၂၂၈-ခုနှစ်တွင် (၂) ပါးလုံး ဟင်္သာကုန်း၌ ဝါဆိုတော်မူကြသည်၊ ထိုအခါ (ကလျာဏီ ဟင်္သာကုန်း)တို့မှာ ဆင်နေကျအောင်း၊ တောကြီးမျက်မဲအရပ်များတည်း၊ ဤ၌ (၂) ဝါ သီတင်းသုံးတော်မူ၏။

ထိုအခါ အရညဝါသီ တောရဂိုဏ်း အုပ်ချုပ်ရေးပုံစံမှာ—

(က) ဦးစန္ဒာလင်္ကာရ(ဦးပုံ) မဟာနာယက၊ ကျိုက်ဒေးယျုံသား၊
(ခ) ဦးသုမန(ခြေတော်ရင်းတော)နာယက၊ ပဲခူးမြို့တွင်းသား၊
(ဂ) ဦးဝဏ္ဏ(ကလျာဏီတော)နာယက၊ အထက်ဇိုင်းဂနိုင်းသား၊
(ဃ) ဦးသုမန(အရှေ့ ရွှေနံ့သာတော)နာယက၊ ဈေးညောင်ပင်သား၊
(င) ဦးသီလ(ဘုန်းတော်ကြီး)နာယက၊ အထက်ဇိုင်းဂနိုင်းသား။

**အမှာ။** ။(ခ)၌ ထိုတောအမည်ကို ယခုလူတို့သိရှိနိုင်ရန် ခြေတော်ရင်းတောဟု ထည့်လိုက်သည်၊ အမှန်မှာ တောရဂိုဏ်းထူထောင်စ ထိုကာလ၌ ရွှေသာလျောင်းပင်မပေါ်သေးသဖြင့် ခြေတော်လည်း

မပေါ်သေးပါ၊ ခြေတော်မျှ မပေါ်သေးသဖြင့် ခြေတော်ရင်းလည်း မဖြစ်နိုင်သေးပါ၊ ခြေတော်ရင်းကျောင်း (ယခုဇေယျမင်္ဂလာကျောင်း)နေရာတည်း။

ယခုရွှေသာလျောင်း ထိုအခါ ထိုကုန်းရိုးကြီးပေါ်သို့ လှည်းများပင် ဖြတ်မောင်းနေကြသေးသည်၊ ၁၂၄၃-ခုနှစ်မှ ရွှေသာလျောင်းပေါ်လာသည်၊ ထိုအချိန်မှ စတင်ပြုပြင်ကြရသည်။

## ဝိနည်းစာပြန်ပွဲ စတင်ချိန်

ဦးသီလကိုယ်တော်သည် တောရဂိုဏ်းကြီးဖြစ်အောင် ဦးဆောင်လှုံ့ဆော်လျက် ဘုန်းကြီးဦးပုံစသည်ကို သိမ်းသွင်းထုတ်ဖော်ခဲ့သလို ဤနေရာ၌ကြခတ်ဝိုင်းကျောင်းတိုက်ဖြစ်အောင်ကိုလည်း မိမိရည်ရွယ်ချက်ဖြင့် ၁၂၂၆-ခုနှစ်ကပင် စတင်တည်ထောင်၍ နောင်မကျန်းမမာဖြစ်သော ကလျာဏီ ဦးဝဏ္ဏအား ကြခတ်ဝိုင်းသို့ ပင့်ယူဆေးစားစေသည်၊ ထိုအတွင်းမှာ ကြခတ်ဝိုင်း၌ ဝိနည်းစာပြန်ပွဲဖြစ်အောင် မရမနေကြိုးစားသဖြင့် နောက်ဆုံး ၁၂၃၃-ခုနှစ် တန်ဆောင်မုန်းလဆုတ် (၂) ရက်နေ့ နေ့ဆွမ်းအမီ တြွှရောက် ဝိနည်းပြန်ဆိုကြစတမ်း-ဟူသော ဆုံးဖြတ်ချက်ချရာ၌ ဘုန်းတော်ကြီးဦးသီလနှင့်အတူ ကိုယ်တိုင်ဦးဆောင်အဖွဲ့ဝင်အဖြစ် ပါဝင်သော ဦးဝဏ္ဏသည် ထိုစာပြန်ပွဲရက်မတိုင်မီအတွင်း ကြခတ်ဝိုင်း၌ပင် ပြန်လွန်သွားသဖြင့် စာမေးပွဲကာလမှာ ဦးဝဏ္ဏ မရှိတော့ပြီ။

## ဘီလူးကျွန်းချောင်းဆုံမြို့နယ်တွင် ဘုန်းတော်ကြီး ဦးသီလ သာသနာပြုတော်မူသွားသော

### တောရဌာနများ

| | | |
|---|---|---|
| ၁။ ကျိုက်ကွဲတောင်တောရ | ကွမ်သဲရွာ | ချောင်းဆုံမြို့နယ် |
| ၂။ နတ်မှော်ကျောင်း | နတ်မှော်ရွာ | ။ |
| ၃။ သက်ငယ်တောင်တောရ | တကူကနာရွာ | ။ |
| ၄။ ပလဝမ်ကျောင်း | ပလဝမ်ရွာ | ။ |
| ၅။ ကျိုက်သုတ်တောရ | သကြေ့ာရွာ | ။ |
| ၆။ သပြုတောင်တောရဂူ | ကွမ်ဒိုင်းရွာသစ် | ။ |
| ၇။ မြတောင်ကျောင်း | ရွာလွတ်ရွာ | ။ |
| ၈။ ဂူကလေးတောရဂူ | ညောင်လမ်းရွာ | ။ |
| ၉။ ကျိုက်ဒိုးတောရ | ကမာမိုရွာ | ။ |

အထက်ပါ ဘုန်းတော်ကြီး ဦးသီလသိတင်းသုံး ပဋိပတ်သာသနာပြုသွားသော ဌာနများတွင် ကာလရွေ့လျောသဖြင့် အချို့မှာ သံဃာကင်းမဲ့ ပျက်စီး၍နေချေပြီ၊ အချို့မှာ တောရရွှေကျင်သံဃာတော်များ ဆက်လက်နေထိုင် စည်ကား တိုးတက်လျက် အချို့မှာ သင့်ရုံရှိပါသည်၊ အချို့မှာ ဂိုဏ်းတပါး သံဃာတော်များ ဆက်လက်စောင့်ရှောက် သိတင်းသုံးကြပါသည်။

ကျိုက်ကွဲတောင်တောရမှာ ချောင်းဆုံမြို့နယ် ကွမ်းသဲရွာ၏အနီးမှာ ဖြစ်ပါသည်၊ ယခုအခါ ဂိုဏ်းတပါး ဖြစ်နေပြီ၊ ကျိုက်ကွဲတောင်ပေါ်တွင် ယခုအထိရှိနေသော (ဦးသီလဂူ)မှာ ဘုန်းတော်ကြီး သီတင်းသုံးခဲ့သော ဂူပင်ဖြစ်ပါသည်၊ ယခုဤသို့ မြင်ရပါသည်။



ဘီလူးကျွန်းချောင်းဆုံမြို့နယ်၊ ကွမ်းသဲရွာ၊ ကျိုက်ကွဲတောင်ပေါ်ရှိ
ဘုန်းတော်ကြီး ဦးသီလ သီတင်းသုံးခဲ့သောဂူ၊
(ကျိုက်ဒိုးဆရာတော် ဦးကောသလ္လထံမှ ကူညီပို့သည်)

**ဘုန်းတော်ကြီး ဦးသီလ လက်ညှိုးညွှန်ရာ ရေထွက်နေပုံ**

တဘက်ပါ အဆောက်အဦလေးသည် ရေထွက်နေသော နေရာကို မိုးထားခြင်းဖြစ်သည်၊ ကျိုက်ဒိုးတောင်ပေါ်တွင် ဖြစ်သည်၊ ထိုတောင်သည် ဘီလူးကျွန်းချောင်းဆုံမြို့နယ် ညောင်လမ်းရွာအနီးမှာ ဖြစ်သည်၊ တနေ့သ၌ ဘုန်းတော်ကြီးသည် ကျိုက်ဒိုးတောရတွင် ကျောင်းတည်ရန် ဒါယကာများ ပင့်လျှောက်ချက်အရ ကြွရောက်တော်မူလာ၍ ဒါယကာများနှင့်တကွ သင့်တော်သောနေရာများကို လိုက်လံကြည့်ရှုရာ ရေငတ်ကြသဖြင့် "ရေမယူလာမိကြ"ဟု ညည်းညူကြရာ ဘုန်းတော်ကြီးက ဟုံသစ်ပင်အောက်မှာ ရေသွားခပ်ကြစမ်းဟု လက်ညှိုးညွှန်ပြလိုက်၏။

ဒါယကာများ ရေသွားခပ်ကြရာ ထိုနေရာ၌ တကယ်ပင် ရေရှိနေ၏၊ ရေများကို တကယ်ဘဲ တွေ့ကြရ၏၊ အားရဝမ်းသာဖြင့် ခပ်ယူလာကြကုန်၏၊ တောင်ထိပ်ကြာပေါက်ဆိုသကဲ့သို့ ဖြစ်၏၊ ဘုန်းတော်ကြီးသည် ဤအရပ်ဌာနသို့ တခါမျှ မရောက်ဘူးပါဘဲလျက် ရေရှိကြောင်းကို အဘယ်ပုံ သိရပါသနည်းဟု တွေးကြ၏၊ တအံ့တသြဖြစ်ကြ၏။

လက်ညှိုးညွှန်ရာ ရေဖြစ်လာသည်နှင့် တူပေသည်ဟု ဝမ်းမြောက်ဝမ်းသာနှင့် ရှင်လန်းအားရ ပြောဆိုကြသည်ဟူ၏။ ၎င်းရေကိုပင်လျှင် ယနေ့အထိ ကျိုက်ဒိုးတောရကျောင်းရှိ သံဃာတော်များ အားရအောင် သောက်ချိုးသုံးစွဲလျက်ရှိကြ၏။



ဘီလူးကျွန်း ချောင်းဆုံမြို့နယ် ညောင်လမ်းရွာ ကျိုက်ဒိုးတောင်ပေါ်ရှိ
ဘုန်းတော်ကြီး ဦးသီလ လက်ညှိုးညွှန်ရာ ရေထွက်သော ဌာန၊

ဂူကလေးတောရဂူမှာ ဂူကလေးတောရကျောင်းတွင်းရှိ အနောက်ဘက်ခြမ်း တောင်ခါးပန်း ကျောက်လုံးကြီးအောက်တွင် တည်ရှိနေပါသည်၊ ၎င်းဂူကလေးတောရကျောင်းသည် ဘီလူးကျွန်းချောင်းဆုံမြို့နယ် ညောင်လမ်းကျေးရွာမှ အရှေ့ဘက် (၁) မိုင်ခန့်အကွာ တောင်ခြေတွင် ရှိပါသည်၊ ယခုအခါ သံဃာကင်းမဲ့နေပါသည်။

ထိုဂူသည် ပကတိ ကျောက်ဂူဖြစ်၍ ယနေ့တိုင်အောင် မူမပျက်ဘဲ ပကတိအတိုင်းပင် တည်လျက်ရှိ၏၊ ကျောင်းဆောင်များကား ယခု မရှိတော့ပါ၊ ဂူကလေးတောရတွင် ယခုအထိ ရှိနေသော (ဦးသီလဂူ) မှာ ဘုန်းတော်ကြီး သီတင်းသုံးခဲ့သော ဂူပင် ဖြစ်ပါသည်၊ ယခု တဘက်ပါအတိုင်း မြင်ရပါသည်။

## ကျိုက်ဒိုးတောရကျောင်းတိုက် တည်ထောင် သာသနာပြုတော်မူခြင်း

ဘုန်းတော်ကြီးသည် အထက်ပါကျောင်းတိုက်ကို တည်ထောင်ရာ၌ နေရာကို ဤသို့ ရွေးသည်။ ရေထွက်သည့် အရှေ့ဘက်တောင်နှင့် အနောက်ဘက်ရှိ ဘုရားတောင်တို့၏ (အရှေ့ဘက်မှ ကျိုက်ဒိုးတောင်



ဘီလူးကျွန်း ချောင်းဆုံမြို့နယ် ညောင်လမ်းကျေးရွာ ဂူကလေးတောရရှိ
ဘုန်းတော်ကြီး ဦးသီလ သီတင်းသုံးခဲ့သောဂူ
(ကျိုက်ဒိုးဆရာတော် ဦးကောလလ္လထံမှ ကူညီပို့သည်)

အနောက်ဘက်မှ ဘုရားတောင် ထိုတောင်ကြီးနှစ်လုံးတို့၏) လက်ျာရစ်ခွေနေသည့် တောင်လက်မောင်းခေါ် တောင်တန်းငယ်၏ အလယ်ဗဟိုဌာနၵ္ဍ နေရာရွေးပြီး သတ်မှတ်တော်မူသည်။

အရှေ့ဘက်တောင်မှ ရေကိုအမှီပြုရန် အနောက်ဘက်ရှိ (က) ရွာလွှတ်ရွာ (ခ) ညောင်လမ်းရွာ (ဂ) ကမာမိုရွာစသော ဂေါစရဂါမ်ရွာများကို ဆွမ်းကိစ္စအဓိကထားရန် ရည်သန်တော်မူလျက် ထိုနေရာ၌ ဆန်ဆေးပင်ကြီးတပင် ရှိနေ၏၊ ထိုဆန်ဆေးပင်၏ အရင်းတည်းဟူသော ရုက္ခမူ (သစ်ပင်ရင်း) ကျောင်းမှ အစပြုကာ သီတင်းသုံးတော်မူ၏၊ ဤသို့ (၇) နှစ်ကျော် (ဂ) နှစ်လောက် သီတင်းသုံးပြီးနောက် ပဌမ ကျိုက်ဒိုးတောရဆရာတော် ဦးတေဇဝန္တကိုယ်တော်အား သာသနာပြုရန် လွှဲအပ် တာဝန်ပေးတော်မူခဲ့လေ၏။

## ဘုန်းတော်ကြီးဦးသီလ ဩဝါဒပေးတော်မူပုံ

ဦးတေဇဝန္တ သန္တုဋ္ဌိ သလ္လေခတည်းဟူသော (အာဟာရသိဒ္ဓိ) ဆေးကို အားကိုးပြီး ခန္တီ မေတ္တာ လက်နက်ဖြင့် ဤဌာနမှာ သာသနာသန့်ရှင်းကြီးပွါးအောင် စောင့်ရှောက်ပေတော့ဟု ဩဝါဒပေးတော်မူခဲ့သည်ဟု မိန့်တော်မူဘူး၏။

ထိုနေ့မှစ၍ ဘုန်းတော်ကြီးလက်ညှိုးညွှန်ရာမှ ထွက်လာသောရေကို သောက်သုံးပြီး ဘုန်းတော်ကြီး ပေးတော်မူလိုက်သောဩဝါဒနှင့် သာသနာပြုလာရာ ဘုန်းတော်ကြီးဦးသီလစသော ဆရာအစဉ်အဆက်၏ အာနုဘော်ကြောင့် ယခုတိုင်အောင် သာသနာညှိုးမှိန်ခြင်း ဆုတ်ယုတ်ခြင်းမရှိဘဲ ဤကဲ့သို့ တည်တံ့နေ သည်ကို တွေ့ရလေသည်၊ တောထဲမှာဖြစ်သော်လည်း အထူးသာယာသည်၊ စာသင်တိုက် သံဃာအပါး (၄၀) ခန့် အမြဲသီတင်းသုံးသည်၊ လက်ရှိအုပ်ချုပ်မှု ပဓာနထေရ်မှာ ဆရာတော် ဦးကောသလ္လ (မော်လမြိုင် ရွှေကျောင်းနိကာယ၊ မြောက်ပိုင်းနာယက စာချဓမ္မကထိကအကျော်) ဖြစ်သည်။



ကျိုက်ဒိုးတောရကျောင်းတိုက်ကို အပေါ်မှလှမ်း၍ ဤသို့မြင်ရသည်။

ထို့ကြောင့် ယခုအထိ အောက်ပါအတိုင်း တွင်ရစ်ခဲ့သည်။

(က) တောရဂိုဏ်းအစ၊ ဦးသီလ၊
(ခ) ကြခတ်ဝိုင်းအစ၊ ဦးသီလ၊
(ဂ) စာပြန်ပွဲအစ၊ ဦးသီလ၊

အစစအရာရာ ဦးသီလ၏သဘော၊ ဦးသီလကပင် စီမံအုပ်ချုပ်ကာ တောရဂိုဏ်းသာသနာကို ဂိုဏ်း ဝန်ဆောင်အဖြစ်ဖြင့် ကျယ်ပြန့်အောင် ပြုစုလာသည့်အတွက် ထိုစဉ်ကစ၍ ယနေ့အထိ သက်တော်ရှည် စာပြန်ပွဲကြီးအဖြစ် မားမားမတ်မတ် ရပ်တည်ပြီး—

(က) ဦးသီလ၏ တောရဂိုဏ်းကြီးဟူ၍ရင်း
(ခ) ဦးသီလ၏ စာပြန်ပွဲကြီးဟူ၍ရင်း

ထင်ရှားထွားကြိုင်းလျက် စည်ကားတိုးတက်တုန်းပင် ရှိပေသည်၊ ပြုခဲ့သော ပုဂ္ဂိုလ်ပင် မရှိတော့သော်လည်း သူ၏ပြုဘွယ်လုပ်ရပ်တို့မှာကား တည်တံ့တိုးတက်လျက်ပင်၊ သူ၏ပါရမီဟိတ် အတိတ်ကံတို့မှာလည်း ယခု အနှစ် (၁၀၀) ကျော်သည်အထိ ၁-နှစ်မပျက် သူ၏ သတ်မှတ်သည့်ရက်ကို မပျက်လုပ်နေအာဏာတည်နေခြင်းက သက်သေပင် မဟုတ်လော၊ အာဏာကြီးမား ထိရောက်မှုတို့မှာကား ရှာမှရှား၏၊ နေထိုင်မှု ပြောဆိုမှုမှစ၍ သပ်ယပ်ခံ့ထယ် ကြည်ညိုဘွယ်တို့မှာလည်း များလှပေ၏၊ အံ့သြဘနန်းရှုမခန်းသည့် အဆန်းတကြယ် အသွယ်သွယ်သော သီလစသောဂုဏ်ရည်တို့မှာလည်း ကြက်သီးထမျှလွန်ကဲလှ၏။

## ရွှေကျင်ဂိုဏ်းအကြောင်း

မြန်မာနိုင်ငံအထက်ပိုင်း ရွှေဘိုခရိုင် ရွှေဘိုမြို့နယ် ရွှေဘိုတောင်လက် ရွှေဘိုမြို့နှင့် (၁၀) မိုင်ခန့်အကွာတွင် ရွှေကျင်အမည်ရှိသော ရွာတရွာရှိ၏၊ ထိုရွှေကျင်ရွာသည် ယခုထိထင်ရှားရှိ၏၊ ယင်းရွှေကျင်ရွာ၌ ဖွားမြင်တော်မူသော ဆရာတော်ဖြစ်၍ ရွှေကျင်ဆရာတော်ဟု ဇွင်သည်၊ ထိုရွှေကျင်ဆရာတော်ကို ၁၁၈၄-ခုနှစ်၊ ဝါဆိုလဆန်း (၁၃) ရက် အင်္ဂါနေ့ နံနက် (၃) ချက်တီးအချိန် အဘ ဦးမောင်၊ အမိ ဒေါ်မိတို့မှ ဖွားမြင်သည်၊ ငယ်မည် မောင်သန့် ဖြစ်သည်၊ ရွှေကျင်ရွာဆရာတော် ဦးဝရဗုဒ္ဓိအထံ၌(၇)နှစ်သားမှစ၍ ပညာသင်ကြား၏၊ ထို၌ပင် ရှင်သာမဏေအဖြစ် ရဟန်းအဖြစ်သို့ ရောက်သည်၊ နောင် အမရပူရ နေပြည်တော်ရှိ ပရိယတ်အကျော် ဆရာတော်များထံ၌ စာပေသင်ကြားခဲ့သည်၊ အထူးအားဖြင့် သီးလုံးဆရာတော်ဘုရားကြီး၏အထံ၌ တပည့်ရင်းအဖြစ် ဝပ်စင်း သင်ကြားခဲ့သည်။

ထိုနောက် မန်ကျည်းစဉ်၊ ခေါ်တော၊ ရှိမ်းမကား တောကျောင်းတို့၌ စာပေပို့ချနေသည်၊ (၁၉) ဝါအရတွင် ဂန္ထဓုရ ဗဟုသုတပြည့်စုံလှ၍ ပဋိပတ်လုပ်ငန်း ကြိုးပမ်းဝင်စားလျက်ရှိသော ရွှေကျင်ဆရာတော်လေးအား ပညာရှိသူတော်ကောင်းများကို အလွန်မြတ်နိုး ကြည်ညိုတတ်သော မင်းတုန်းဘုရင်သည် ညီတော် ကနောင်မင်းသားနှင့်အတူ ၁၂၂၁-ခုနှစ်တွင် မန္တလေးမြို့တော်သစ်တည်ပြီးစ ရွှေကျင်ဆရာတော်လေးအား ပင့်ယူ၍ ဆရာတော်လေး၏ ဆန္ဒတော်နှင့်အညီ မန္တလေးမြို့မြောက်ဘက် မန္တလေးတောင်ခြေ၌ ကျောင်းတိုက်တော်တည်ကာ (မဟာဓမ္မိကာရာမ ရွှေကျင်တိုက်)ဟု ကမ္ပည်းတပ်၍ တင်လှူသည်။

ယင်းသို့ သီတင်းသုံးနေတော်မူစဉ် မန္တလေးမြို့ပေါ်၌ပင် ရွှေကျင်ကျောင်းတိုက်ပေါင်း (၁၂) တိုက်ရှိ၍ သံဃာတော် (၁၀၀၀) ကျော်ရှိလာသည်။

ရွှေကျင်ဆရာတော်ကို သာသနာပိုင်ဆရာတော်က အဆင့်အခေါ်မရှိပါစေနှင့် သီးခြားရွှေကျင်ဂိုဏ်း ရွှေကျင်နိကာယအဖြစ်ဖြင့် အလိုရှိသလိုသီတင်းသုံးပါစေဟု—

အမိန့်တော်တရပ် မင်းတုန်းဘုရင်ထုတ်ပြန်အပ်သည်မှစ၍ (ရွှေကျင်ဂိုဏ်း၊ ရွှေကျင်နိကာယ)ဟု ၁၂၂၁-ခုနှစ်မှ စတင်ထင်ရှားခဲ့သည်၊ ရွှေကျင်ဆရာတော်၏ ဘွဲ့တော်မှာ(အရှင်ဇာဂရ)ဖြစ်သည်၊၁၂၃၀-ပြည့်နှစ်၌ အလုံ၊ ဒီပဲရင်းစသောမြို့တို့၌ ဂိုဏ်းချုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက် အကြီးအကဲများ ခန့်ထား၍ ကျယ်ပြန့်စွာ သာသနာပြုတော်မူသည်။

မန္တလေး တောင် ခြေ ၌ မင်းတုန်းမင်းကြီးဆောက်လုပ် လှူဒါန်းသော ရွှေကျင်တိုက်မ အတွင်း ၁၂၂၂-ခုနှစ် ဆောက် လုပ်သောကျောင်းတော်အရှေ့ ဆောင်။ နောင် လာ နောက် သား များ အတွက် တမင်ပြု ထားသည်၊ ရွှေကျင် နိကာယ သာသနာ ဤ ကျောင်းတော် ကြီးမှ စတင်သည်၊





ရွှေ ကျင် တိုက်မ၊ တိုင် ပေါင်းပြ၊ မှတ်ကြဒို့သောဒွါ၊ (တိုင်ပေါင်း ၂၆၂-တိုင်ရှိသည်)

ပြည်ပန်းညို ချိုချိုခပ်၊ ရွှေ ကျင်တိုက်မ၊ ငွေကုန်မှတ် (ငွေ ပေါင်း ၂၂၂၃၅၅-ကျပ် ကုန် သည်)

ရွှေကျင်ဆရာတော်အား ဆက်ကပ်အပ်သော သာသနာပိုင်ဘွဲ့တံဆိပ်တော်မှာ—

"ဇာဂရာဘိဓေ သဒ္ဓမ္မဝံသ ဓမ္မသေနာပတိ အတုလာဓိပတိ ရာဇဂုရု"ဟု ဖြစ်သည်၊ မဟာဓမ္မိကာရာမ ရွှေကျင်တိုက်မကြီးအတွင်း ရွှေကျင်ဆရာတော် သီတင်းသုံးတော်မူရန် မင်းတုန်းဘုရင် လှူဒါန်းသော ကျောင်းတော်ကြီး၌ တိုင်ပေါင်း (၂၆၂) တိုင်ရှိလျက် ငွေပေါင်း (၂၂၂၃၅-ကျပ်) ကုန်ကျသည်၊ ထို့ကြောင့် ထိုစဉ်က ဤသို့ စပ်ဆိုကြသည်။

ရွှေကျင်တိုက်မ၊ တိုင်ပေါင်းပြ၊ မှတ်ကြဒို့သော့ဒွါ၊
ပြည်ပန်းညိုချိုချိုခပ်၊ ရွှေကျင်တိုက်မ ငွေကုန်မှတ်၊
(ရွှေကျင်နိကာယ သာသနာဝင်-၁၂၂)

၁၂၃၃-ခုနှစ်၌ အရှေ့ပြင် ဝိသုဒ္ဓါရာမစသော ကျောင်းတိုက်ပေါင်း (၁၂) တိုက်တို့ကို အလှူခံ၍ သာသနာပြုတော်မူသည်။

၁၂၃၇-ခုနှစ်မှစ၍ တောထွက်လျက် အရညကင်စသော ဓုတင်များ ဆောက်တည်ကာ ပဋိပတ်အလုပ်များကို စောက်ချအားထုတ်တော်မူသည်။

၁၂၃၈-ခုနှစ်မှာ မလှုန်မြို့ မင်းလှရွာ အရှေ့တောင် မြစ်တဖက် ဝါးရုံချောင် နွားလံတောင်တောရ ကျောင်း၌ ဝါကပ်သည်။

ရွှေကျင်ဂိုဏ်းဝင် သံဃာတော်များအား ဤအတိုင်းလိုက်နာကြရန် ဥပဒေသများကိုလည်း ရေးသား ပေးပို့လိုက်နာစေသည်၊ ထိုဥပဒေသကို ရွှေကျင်ဂိုဏ်း ကျင့်ထုံးကြီးဟု ခေါ်သည်၊ ၎င်းရွှေကျင်ဂိုဏ်း ကျင့်ထုံးကြီး၌ အောက်ပါအတိုင်း ကဏ္ဍ (၁၀) ခုရှိပါသည်။

(၁) ရွှေကျင်ဂိုဏ်းဥပဒေ၊
(၂) ဂိဟိစာရိတ္တကျင့်ခဏ်း၊
(၃) ကျောင်းသားကျင့်ဝတ်၊
(၄) သင်္ဂါယနာတင်ပုံ
(၅) ဓမ္မောသဓဒီပနီစာတမ်း
(၆) ဓမ္မဝိနယ စာတမ်း၊
(၇) ပဌမောဝါဒ၊
(၈) ဒုတိယောဝါဒ၊
(၉) သူသတ်သြဝါဒ မေတ္တာစာ၊
(၁၀) သစ္စာလေးပါး ဖွဲ့နည်း၊

အထက်ပါကဏ္ဍ (၁၀) ခုတို့တွင် ရွှေကျင်ဂိုဏ်းဥပဒေ၌ အောက်ပါအတိုင်း အသေးစိတ် ဥပဒေများ ပါဝင်နေပါသည်။

(၁) အာမခံပုဂ္ဂိုလ် ကျင့်ရာသော ဥပဒေ၊
(၂) အာမခံအပ်သည့်ပုဂ္ဂိုလ် ကျင့်ရာသော ဥပဒေ၊



ပဌမရွှေကျင် သာသနာပိုင် ဆရာတော် ဘုရားကြီး သိတင်းသုံးသွားသော မန္တလေး တောင် မြောက် ဘက် ရွှေကျင် တိုက်မရှိ၊ အုဌ်ဂူ (ဂူဟောင်း တလုံးရှိသေးသည်) အမြဲ ဂူ၌ သိတင်းသုံး သည်၊ ယခု ထိုဂူ ထဲ၌ ရသေ့ကြီးတဦး နေထိုင်သည်ကို တွေ့ခဲ့သည်၊ သာသနာပိုင် စံကင်းဆရာတော်ကြီး ဈာပနကြွစဥ် ရိုက်ခဲ့သည်၊

---

အထက်ပါအုဌ်ဂူအတွင်း၌ ရွှေကျင် သာသနာပိုင်ဆရာတော် ဘုရားကြီး၏ ရုပ်ပုံကို ၁၂၇၂-ခုနှစ်တွင် ရသေ့ကြီး ဦးခန္တိက ကြေးဖြင့် ထုလုပ်၍ ဤသို့တည်ထားကိုးကွယ်သည်၊ ဓာတ်ပုံကို မီးဖြင့် ခဲယဥ်းစွာ ဝင်ရိုက်ခဲ့ရသည်။

(အောက်ပုံ)



သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန

ဆပ္ပာအေး၊ ရန်ကုန်

(၃) အဝတ်အရုံ၌ ကျင့်ရသောဥပဒေ၊
(၄) ဆွမ်းစားကျောင်း၌ ပြုကျင့်ရသော ဥပဒေ၊
(၅) ဘုရားဝတ်တက်ရာကျောင်း၌ ပြုကျင့်ရသော ဥပဒေ၊
(၆) ညဥ့်အခါ စာပြန်ရာ သိမ်တန်ဆောင်း၌ ပြုကျင့်ရသော ဥပဒေ၊
(၇) ဥပုသ်ပြုရာ သိမ်တန်ဆောင်း၌ ပြုကျင့်ရသော ဥပဒေ၊
(၈) နဝကမ္မပြုလုပ်ရာ၌ပြုကျင့်ရသော ဥပဒေ၊
(၉) ရေခပ် ရေချိုးသွားရာ၌ ပြုကျင့်ရသော ဥပဒေ၊
(၁၀) မြို့ရွာတွင်းသို့ ဝင်ရာ၌ ပြုကျင့်ရသော ဥပဒေ၊
(၁၁) ဇာတိရပ်ရွာသို့ ခေတ္တပြန်ရာ၌ ပြုကျင့်ရသော ဥပဒေ၊
(၁၂) ပရိဝါသ်မာနတ် ဆောက်တည်ရာ၌ ပြုကျင့်ရသော ဥပဒေ၊
(၁၃) အထက်ဆရာမထေရ်ကြီး ပြုကျင့်ရသော ဥပဒေ၊
(၁၄) တိုက်အုပ်တိုက်ကြပ်တို့ပြုကျင့်ရသော ဥပဒေ၊
(၁၅) တိုက်သားသံဃာငယ် ဦးပဥ္စင်းတို့ ပြုကျင့်ရသော ဥပဒေ၊
(၁၆) ကျောင်းနေ(ကျောင်းဘုန်းကြီး)တို့ ပြုကျင့်ရသော ဥပဒေ၊
(၁၇) ဂိလာန ရဟန်းတို့ ပြုကျင့်ရသော ဥပဒေ၊
(၁၈) အာဂန္တုက ရဟန်းတို့ ပြုကျင့်ရသော ဥပဒေ၊
(၁၉) ပဋိပတ္တိအရာ၌ ပြုကျင့်အားထုတ်အပ်သော ဥပဒေ၊
(၂၀) အားထုတ်ဘွယ်သမထဝိပဿနာနည်း(အကျဉ်း) စာရိတ္တအဆုံးအမများ။

## ရွှေကျင်ဆရာတော် ရေးသားတော်မူခဲ့သော ကျမ်းစာများ

(၁) နေတ္တိလီနတ္ထသင်္ဂဟ၊
(၂) နေတ္တိဟာရဝိဘာဝိနီ၊
(၃) ရူပဘေဒဝိဘာဝိနီ၊
(၄) ဂဏဘေဒဝိဘာဝိနီ၊
(၅) နိဿယင် ဝိနိစ္ဆယ၊
(၆) သီမာလင်္ကာရဝိနိစ္ဆယ၊
(၇) ဒသဓမ္မာလင်္ကာရအဋ္ဌကထာ၊
(၈) သီလဝိသောဓနီ၊ သာသနဝိသောဓနီ၊
(၉) ပဋိစ္စသမုပ္ပါဒဒီပနီ၊
(၁၀) ဗောဇ္ဈင်္ဂဒီပနီ၊
(၁၁) ဝဋ္ဋနာဒီပနီ၊
(၁၂) ဝိနယဂရုဒီပနီ၊
(၁၃) ဓမ္မောသဓဒီပနီ၊
(၁၄) သြဝါဒါလင်္ကာရဒီပနီ၊



ရွှေကျင်တိုက်မအတွင်း၌ ၁၂၈၆-ခုနှစ်တွင် မဟာရာဇာစော်ဘွားကြီး၊ အဂ္ဂမဟာဒေဝီတို့က ဆောက်လုပ်လှူဒါန်းပြီး ၁၃၃၄-ခုနှစ်တွင် မိုးကုတ်မြို့ မြို့မရပ် ဦးချစ်ရီ ဒေါ်ခင်သန်းတို့က ထပ်မံပြုပြင်လှူဒါန်းသော အမတအုဋ္ဌကျောင်းတော်ကြီးပုံ။ ယခုလက်ရှိအုပ်ချုပ် သီတင်းသုံးသော ဆရာတော် ဦးသုမနသည် သက်တော် (၇၅)၊ သိက္ခာတော် (၆၅) ရှိလျက် အလွန်ကျန်းမာသည်ကို ဘူးမြင်ခဲ့ရသည်။

(၁၅) ဓမ္မခတ္တိယောဝါဒ၊
(၁၆) ကေဝဋ္ဋောဝါဒ၊
(၁၇) သီဟဋ္ဌောဝါဒ၊
(၁၈) သန္ဒေသကထာ၊
(၁၉) လက်ာသာသနသုဒ္ဓိကထာ၊
(၂၀) ဥပဒေသကထာ၊
(၂၁) ယွာ ဋီကာ၊
(၂၂) မဟာသိဿကောဝါဒ၊
(၂၃) ဍူဠသိဿကောဝါဒ၊
(၂၄) ဝိနယာမဓု၊
(၂၅) ဂမ္ဘီရာဂမ္ဘီရမဟာနိဗ္ဗုတကထာ၊
(၂၆) ဝိစိတြဝန္ဒနာ၊

(၂၇) သမာသဂဏ္ဍိ၊
(၂၈) ဒါရုခန္ဓသုတ်နိဿယ၊
(၂၉) အဋ္ဌကကမ္မဋ္ဌာန- စသည်တို့ ဖြစ်ကုန်၏။

၁၂၃၉-ခုနှစ်၌ သီဟိုဠ်ကျွန်းသို့ ကြွတော်မူ၍ စွယ်တော်ဓာတ်မြတ်တို့ကို ဖူးမြော်ရင်း ဝါကပ်တော်မူသည်။

၁၂၄၀-ပြည့်နှစ်၊ သီဟိုဠ်ကျွန်းမှ ပြန်လည်ကြွရောက်တော်မူကာ မင်းလှရွာ တောရကျောင်း၌ပင် ဝါကပ်တော်မူသည်၊ (၁၂၃၇-ခုနှစ်မှစ၍ ဝါပတွင် ကန်ရာတောင်၊ စဥ့်ကိုင်တောရ၊ ကုက္ကိုချောင်တောရ၊ နွားလံတောင်တောရ စသည်၌ ပဋိပတ်သာသနာပြုလျက် သီတင်းသုံးသည်)။

မှတ်ချက်။ ။သီဟိုဠ်ကျွန်း၌ ဝါကပ်တော်မူစဉ် ၁၂၄၀-ပြည့်နှစ် သီတင်းကျွတ်လဆန်း (၆) ရက် အင်္ဂါနေ့တွင် မင်းတုန်းမင်းတရားကြီး နတ်ရွာစံသည်၊ မိဖုရားခေါင်ကြီးကား ၁၂၃၈-ခုနှစ်ကပင် နတ်ရွာလားလေသည်၊ ၁၂၄၀-ပြည့်နှစ် ဝါခေါင်လ၌ မင်းတရားကြီး မကျန်းမာ၍ တော်သလင်းလပြည့်ကျော် (၉) ရက်နေ့ သီပေါမြို့စား မင်းသားကို အိမ်ရှေ့နှင်းတော်မူသည်၊ သီတင်းကျွတ်လဆန်း (၁၃) ရက်နေ့တွင် သားတော်အိမ်ရှေ့မင်း (သီပေါမြို့စား မင်းသား သုသိရီ မဟာဓမ္မရာဇာ)သည် ခမည်းတော်၏ အရိုက်အရာ ရွှေထီးရွှေနန်းကို သိမ်းပိုက်၍ စိုးစံတော်မူသည်၊ ဘတူ မိကွဲ နှမတော် (မြတောင်မြို့စား)ကို အဂ္ဂမဟေသီမိဖုရားခေါင်ကြီးအရာ မြှောက်စားတော်မူသည်။

ရွှေကျင်ဆရာတော်ဘုရားကြီးသည် သီပေါမင်းတရား ပင့်လျှောက်သဖြင့် ရတနာပုံ နေပြည်တော်သို့ ၁၂၄၃-ခုနှစ်၌ ကြွရောက်သီတင်းသုံးတော်မူသည်။

၁၂၄၆-ခုနှစ်၌ မင်းကွန်း ငွေတောင်တောရသို့ ကြွရောက် တောရဆောက်တည်ကာ ပဋိပတ် သာသနာ ဆက်လက်ပြုစုတော်မူသည်၊ ထိုအခိုက်၌ ပဲခူးတောရ (ဘုန်းတော်ကြီး ဦးသီလ)နှင့် ဆက်ဆံလျက် မျှားစွာရင်းနှီးခဲ့ကြသည်၊ အကျင့်တူ ရည်ရွယ်ချက်ချင်းတူသဖြင့် ပေါင်းစပ်လိုက်ကြသည်။

၁၂၅၅-ခုနှစ် တပေါင်းလပြည့်ကျော် (၇) ရက် ညဥ့် လဝန်းပေါ် ချိန်၌ (မင်းကွန်း ငွေတောင် တောရ၌ ၉-နှစ်ကြာခဲ့ပြီး) အသက်တော် ၇၁-နှစ်တွင် မင်းကွန်း ငွေတောင်တောရ၌ပင် ပြန်လွန်တော်မူသည်။

၁၂၅၆-ခုနှစ် တပို့တွဲလဆန်း (၁၃) ရက် ဗုဒ္ဓဟူးနေ့၌ မင်းကွန်း၌ပင် အဂ္ဂိဈာပန အန္တိမပူဇာမှု ပြုကြသည်၊ အရိုးတော်တို့ကို မင်းကွန်း ငွေတောင်တောရ၌ အရိုးအိုးစေတီတဆူ မန္တလေး မဟာဓမ္မာရာမ ရွှေကျင်တိုက်မကြီးအတွင်း၌ အရိုးအိုး စေတီတဆူ တည်ထား ပူဇော်ကြသည်၊ ထိုစေတီများ ယနေ့ထိ သပ္ပါယ်လျက်ရှိကြသည်။

## တောရနှင့်ရွှေကျင်ပေါင်းပုံ

မန္တလေးမြို့ ရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားကြီး (အရှင်ဇာဂရ)သည် ၁၂၅၅-ခုနှစ်တွင် နောက်ပါသံဃာတော်များနှင့် ပဲခူးမြို့သို့ ရောက်တော်မူလာ၏၊ ထိုအခါ ပဲခူးတောရဘုန်းတော်ကြီး



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ပဓာနဆရာတော်နှင့် စာချ ဓမ္မာစရိယ သံဃာ့ဝန်ဆောင်အဖွဲ့ကို
ဝိနယုဿဝ ရာပြည့်ဓမ္မာရုံကြီး၌ ဤသို့ဖူးမြင်ရသည်။



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ၁၃၃၄-ခုနှစ် ဝါဆိုသံဃာတော်အပါး (၂၄၀) တို့ကို ဂါဆိုပြီးစ
ဝိနယုဿဝ ရာပြည့်ဓမ္မာရုံကြီး၌ ဤသို့ဖူးမြင်ရသည်။

ဦးသီလ-စသော သံဃာတော်များနှင့် တွေ့ဆုံနှီးနှော၍ ပိုမိုအစေ့အစပ် ဖြစ်လေ၏၊ ပဲခူး၊ တောင်ငူ၊ အုတ်တွင်း၊ ညောင်လေးပင်၊ ပြွန်တန်ဆာ၊ ရွှေကျင်၊ ဝမ်းပတော၊ ကျိုက်ထို၊ မော်လမြိုင် စသော အမြို့မြို့အနယ်နယ်တို့၌ ပြန့်နှံ့လျက်ရှိသော အောက်ပြည်တောရဂိုဏ်းသည်၎င်း၊ အထက်ပြည် အရပ်ရပ်တို့၌ ပြန့်နှံ့လျက်တည်ရှိသော ရွှေကျင်ဂိုဏ်းသည်၎င်း ရည်ရွယ်ချက်ဆန္ဒ စည်းမျဉ်းဥပဒေသချင်း တူမျှကြ၏။

ဝိနည်းကို ပဓာနထား၍ သီးသန့်ခြင်း၊ ဂိုဏ်းတပါးနှင့် အဆက်အဆံမရှိခြင်း စသောအားဖြင့် အယူသီလတူမျှသောကြောင့် ဂင်္ဂါ ရေနှင့် ယမုနာ ရေတို့သည် ဘယ်သို့မျှ မကွဲမပြား တသားတည်း ရောသကဲ့သို့ တသဘောတည်းဖြစ်သော အရညဝါသီဂိုဏ်းနှင့် ရွှေကျင်ဂိုဏ်းတို့သည်လည်း သဘောတူ ကျေညာ ရောနှောဆက်ဆံမိကြလေ၏။

ရွှေကျင်ဂိုဏ်းဂုဏ် အောက်ပြည်နှံ့၊ တောရဂိုဏ်းဂုဏ် အထက်ပြည်နှံ့ ဖြစ်၏၊ ထိုသို့ပေါင်းမိသော အချိန်မှစ၍ အရညဝါသီတောရဂိုဏ်းနှင့် ရွှေကျင်ဂိုဏ်းကို တွဲ၍ အရညဝါသီ ရွှေကျင်ဂိုဏ်း ဟူ၍၎င်း အရညဝါသီ ရွှေကျင်နိကာယ ဟူ၍၎င်း သုံးခဲ့ကြသည်။ အိန္ဒိယ၊ သီဟိုဠ်၊ ယိုးဒယားအထိ ရွှေကျင်သာသနာ ကျယ်ပြန့်တိုးတက်လာသည်၊ ဘုန်းတော်ကြီး ဦးသီလ တောရဆရာတော်ကြီး၏ သား မြေး တပည့် စဉ်ဆက်များဖြစ်ကြ၍ တောရဟူသော (အရညဝါသီ) စကားလုံးလေးကို ယနေ့ထိ အမြတ်တနိုး အမြဲထည့်သုံးလေ့ရှိကြသည်။

## ရှေးဆရာတော်ကြီးများ၏မှတ်တမ်းများ

(က) အခက်ခုတ်စဉ်၊ ဂိုဏ်းရွှေကျင်၊ စတင်ထင်ရှားမြဲ၊
၁၂၂၃-ခုနှစ်မှာ ရွှေကျင်ဂိုဏ်း စတင်ထင်ရှားသည်။

(ခ) အခက်ခုတ်သင်၊ တိုင်းရာမည်၊ အာရညဂိုဏ်းစကွဲ၊
၁၂၂၆-ခုနှစ်မှာ ဂါမဝါသီနှင့် အရညဝါသီတို့ကွဲကြသည်။

(ဂ) အားကုန်ချီသိုင်း၊ ကြခတ်ဝိုင်း၊ မဆိုင်း စတည်ဘဲ၊
၁၂၂၆-ခုနှစ်မှာပင် စာပြန်ပွဲလုပ်ရန် ဤနေရာကိုနှစ်သက်၍ ကျောင်းတည်သည်၊ ကြခတ်ဝါးတွေ ဝိုင်းနေ၍ အရပ်က ကြခတ်ဝိုင်းကျောင်းဟု ခေါ်လာကြသည်၊ ရေမိုးခပါလတ္တံ့ သည်ကို မြင်ဟန်တူသည်၊ ဘုန်း၊ ကံ၊ ဉာဏ်တို့ကား ကြီးမားလှပေစွ။

(ဃ) အုတ်ကျက်ဆူညီ၊ ဝိနယံ၊ စာပြန်လုပ်သည့်ပွဲ၊
၁၂၃၃-ခုနှစ်မှာ ဝိနည်းစာပြန်ပွဲ စတင်ပြုလုပ်သည်။

(င) အုဋ္ဌဂဝံစောင်း၊ မြေပုံအောင်း၊ သာလျောင်းပေါ်လာထဲ၊
၁၂၄၃-ခုနှစ်မှာ ရွှေသာလျောင်းကိုယ်တော်ကြီး ပေါ်လာသည်။



ပဲခူးမြို့ ကြခတ်ဝိုင်း ကျောင်းတိုက် ရာပြည့် ဓမ္မာရုံတော်ကြီး စကြာ လှေခါးဆောင်။

ပဲခူးမြို့ ကြခတ်ဝိုင်း ကျောင်း တိုက် သာသနာ့ ဗိမာန် ကျောင်း ဆောင်။

(အောက်ပုံ)



(စ) တြိန်ပဥ္စာ၊ ဒွေးကော်လာ၊ ပဝါရဏာစတည်မြဲ၊
၁၂၅၃-ခုနှစ်မှာ ကလျာဏီ ပဝါရဏာ စတင်ပြုလုပ်သည်။
(ဆ) အခက်ပြုပြင်၊ တောနှင့် ကျင်၊ ခင်မင်ကြလျက်သဲ၊
၁၂၅၅-ခုနှစ်မှာ တောရနှင့်ရွှေကျင်ပေါင်းကြသည်။

**တောရနှင့်ရွှေကျင်ပေါင်းမိစ နာယကများ**

| | | | |
|---|---|---|---|
| (က) | ဦးအာစာရ | (ကလျာဏီ) | မဟာနာယက |
| (ခ) | ဦးသုမန | (ရွှေပန်း) | နာယက |
| (ဂ) | ဦးပုည | (ဇိုင်းဂနိုင်းကြီး) | နာယက |
| (ဃ) | ဦးသီလ | (တောရဆရာတော်) | နာယက |
| (င) | ဦးသုဝဏ္ဏ | (ရွှေသာလျောင်း) | နာယက |
| (စ) | ဦးအာဒိစ္စ | (လိပ်ပြာကန်) | နာယက |

**ထိုအခါ ဝိနည်းဓိုရ်ပုဂ္ဂိုလ်များမှာ**

| | | | |
|---|---|---|---|
| (က) | ဦးမာလာ | (ပုဂံတောင်) | ဝိနည်းဓိုရ် (ဇာတိမသိရ) |
| (ခ) | ဦးသုမန | (ထောင်မင်း) | ဝိနည်းဓိုရ် (ရွှေဘို၊ဝက်လက်) |
| (ဂ) | ဦးဥတ္တမ | (ကြခတ်ဝိုင်း) | ဝိနည်းဓိုရ် (ပဲခူး၊ပန်းလှိုင်) |

**သီတင်းသုံးလေ့ရှိသောနေရာများ**

ဘုန်းတော်ကြီးသည် ၁၂၂၈-ခုနှစ်၊ ၁၅-ဝါအရ ဟသ်ာကုန်းတောရမှဖဲ၍ အနှံ့သွား အနှံ့နေ အနှံ့ကျောင်းတိုက်တည် သာသနာပြု။....

(က) ရန်ကုန်မြို့ ကျိုက္ကစံ ရွှေကျင်ကျောင်းတိုက်၊
(ခ) ညောင်တုန်းမြို့ ရွှေဟသ်ာတောရကျောင်းတိုက်၊
(ဂ) ညောင်လေးပင်မြို့ တောရကြီးကျောင်းတိုက်၊
(ဃ) ဖြူးမြို့ ရွှေကျင်ကျောင်းတိုက်၊
(င) ဘီလူးကျွန်း ရွာလွတ် ကျိုက်ဒိုးတောရကျောင်းတိုက်၊
(စ) ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်—

စသည်တို့မှာ ဘုန်းတော်ကြီးတည်သွားသော ကျောင်းတိုက်များ ဖြစ်သည်၊ အထိုက်အလျောက် ကြီးပွါးတိုးတက်ကြသည်၊ သို့သော် ဘယ်မှာမှ အမြဲအစွဲမနေပါ။ လှည့်လည်နေထတ်သည့် အရပ်တို့မှာ—

(၁) ပဲခူးပတ်ဝန်းကျင်တောများ၊ (၂) ကျိုက်ဒေးယျုံတော၊ (၃) လာကမို့တော၊ (၄) ဈေးညောင်ပင်တော၊ (၅) ကျိုက်ပဒိုင်သိမ်ကုန်းတော၊ (၆) ဂူကုန်း၊ (၇) ကလိတော၊ (၈) တပ်ကလေးတော၊ (၉) အဝိုင်းတော၊ (၁၀) ဒေးစွန်ပါတောင်၊ (၁၁) ပျဉ်ပုံကြီးတော၊ (၁၂) ဖအောင်ဝဲတော၊ (၁၃) ရွှေကျင်တော၊ (၁၄) ခရွဲတော၊ (၁၅) ဝမ်းပတောတော၊ (၁၆) ကျိုက်ထိုတော၊



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် မဏိကုဏ္ဍလိကာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် မဏိဝံသိကာရုံကျောင်းဆောင်

(၁၇) ကော့ကဒွတ်တော၊ (၁၈) ဘီးလင်းတော၊ (၁၉) ကျိုက်ကော်တော၊ (၂၀) သထုံတော၊ (၂၁) မုတ္တမတော၊ (၂၂) မော်လမြိုင်တော၊ (၂၃) ဘားအံတော၊ (၂၄) ဘီးလူးကျွန်းတော၊ (၂၅) မုဒုံ၊ (၂၆) ကျိုက်ဒိုး၊ (၂၇) ကော့ကရိတ်-စသည်တို့ ဖြစ်သည်။

## ဘုန်းတော်ကြီး၏ဝါသနာ

ဘုန်းတော်ကြီးမှာ အရပ် (၅)ပေခွဲခန့်ရှိသည်၊ ပျပ်ပျပ်ပါးပါး၊ အသားဖြူဝါဝင်း၊ အအိပ်နည်း၊ အမြဲတန်း တပါးတည်း စားသောက်နေထိုင်၊ ကောက်ကျစ်စဉ်းလဲခြင်းမရှိ၊ ရဟန်း (၁၂) ဝါမှစ၍ ဓုတင် (၁၀)ပါးမှ (၁၃) ပါးလုံးအထိ ထိုက်သလို အမြဲဆောက်တည်။

ဓုတင် (၁၃) ပါးဟူသည် (၁) ပံသု ကူလိကဓုတင်၊ (၂) တေစီဝရိကဓုတင်၊ (၃) ပိဏ္ဍပါတိက-ဓုတင်၊ (၄) သပဒါနစာရိကဓုတင်၊ (၅) ကောသနိကဓုတင်၊ (၆) ပတ္တပိဏ္ဍိကဓုတင်၊ (၇) ခလုပစ္ဆာ-ဘတ္တိကဓုတင်၊ (၀) အာရညိကဓုဘင်၊ (၉) ရုက္ခမူလိကဓုတင်၊ (၁၀) အဗ္ဘောကာသိကဓုတင်၊ (၁၁) သောသာနိကဓုတင်၊ (၁၂) ယထာသန္တတိကဓုတင်၊ (၁၃) နေသဇ္ဇိကဓုတင်တို့ ဖြစ်ပါသည်။

သာသနာရေး (ကံကြီးကံငယ်)အတွက်ပင်လျှင် အထူးကြိုးစားကြွလေ့ရှိ၊ ပရိယတ္တိ စာသင်တိုက် များစွာ ဖြစ်စေလို၊ အထူးကျယ်ကျယ်ပြန့်ပြန့် တရားဟောလေ့မရှိ၊ ငါးပါးသီလကို အမြဲပေးလေ့ လုံခြုံအောင် တိုက်တွန်းလေ့ရှိ၏၊ ဘယ်သူကိုမျှ အကျွမ်းတဝင် စကားလက်ခံပြောလေ့မရှိ။

တခါတရံဟောလေ့ရှိသည့် တရားမှာ....

(က) သူ့အသက် မသတ်နှင့်၊
(ခ) သူ့ဥစ္စာ မခိုးနှင့်၊
(ဂ) ရာဇနာသုံးပါးကို အစစ်အမှန် တန်ဘိုးရှိသည်ဟု ယုံကြည်ကြ၊
(ဃ) သရက်ပင်စိုက်မှ အချိုသီးသည်၊
(င) တမာပင်စိုက်လျှင် အခါးသီးမည်။

၁၂၅၃-ခုနှစ်၊ ဘုန်းတော်ကြီးဦးသီလသည် ဈေးညောင်ပင်ဂူကုန်း၌ သီတင်းသုံးနေစဉ် တနေ့သ၌ မဟာစေတီ ပဌမဆရာတော် ဦးဂုဏ,က ဘုန်းတော်ကြီးအား လျှောက်သဖြင့် ဖြေကြားပုံ—

(က) အရှင်ဘုရား၏နည်းကိုယူပြီး တရားအားထုတ်လိုပါတယ်၊
(ခ) ဦးဂုဏ ကိုယ်တော် တရားအားမထုတ်ချင်ရင် အားမထုတ်ချင်ဘူးလို့ ရိုးရိုးပြောပါ၊
(ဂ) တပည့်တော်လဲ စာထဲပါတာမှတ်ပြီး အားထုတ်တာဘဲ၊
(ဃ) စာထက်ပိုပြီး တပည့်တော် ဘာမျှမတတ်ဘူး၊
(င) ဦးဂုဏကလဲ စာကြည့်နိုင်သားနဲ့၊
(စ) ဘယ်သူ့ရဲ့နည်းကို ယူနေရဦးမှာလဲ၊
(ဆ) ဘယ်နည်းက စာထက်ပိုပြီး ကောင်းဦးမှာလဲ၊ (ထေရုပ္ပတ္တိ စာမျက်နှာ ၇၂)



ပဲခူးမြို့ ကြခတ်ဝိုင်း ကျောင်းတိုက်  မမ္ဗဝိဗောဓာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်း ကျောင်းတိုက် မမ္ဗဝိပုလာရုံကျောင်းဆောင်

## သာသနာပြု ရပ်နားချိန်

၁၂၆၉-ခုနှစ် ကဆုန်လမှာ ပြန်လွန်တော်မူလတ္တံ့ ၊ ၁၂၆၈-ခုနှစ်မှာ ဘီးလူးကျွန်း ကွမ်းသဲတောရ၌ ဝါကပ်တော်မူသည် (နောက်ဆုံးဝါတည်း)။ ဘုန်းတော်ကြီးအား တပေါင်းလအတွင်း ပန်းတနော်နယ်မှ မင်းခရွာဘုန်းတော်ကြီး ဦးဝိမလနှင့် နောက်ပါ ဒကာများ သိမ်သမုတ်ကံဆောင်ကိစ္စ လာပင့်ကြသည်၊ ရန်ကုန်မှ သင်္ဘောစီးရန် မော်လမြိုင်သို့ကြွသည်၊ ဘုန်းတော်ကြီးမှာ အသက် (၇၅) နှစ်ရှိလေပြီ၊ ဒူလာဝမ်းရောဂါကလည်း ရံခါနှိပ်စက်လေ့ရှိလာသည်၊ ကလော်ဒိုင်ခေါ် ဆေးကိုအမြဲသုံးစွဲရသည်၊ မော်လမြိုင်မှရန်ကုန်သို့ သင်္ဘောဖြင့် ကြွသည်၊ ရန်ကုန်ရောက်တော့ ပန်းတနော်သင်္ဘောကို ပြောင်းစီးသည်။

ဝဲဒေါင့်ရွာ ရောက်လတ်သော် ပန်းတနော် ဆိတ်ကြီးဆရာတော်နှင့် ဒကာများက၊ သိမ်သမုတ်ကိစ္စ ပင် အလုအယက် လာပင့်ကြသေးသည်၊ သို့သော် ပြောပြီးသား မင်းခရွာသို့ ကြွရောက် သိမ်သမုတ်သေးသည်။ ထိုနောက်မှ——

(က) ဒေါဝါးရွာ ဘုန်းကြီး ဦးကေတုသိမ်၊
(ခ) အင်းမရွာ ဘုန်းကြီး ဦးပညာသိမ်၊
(ဂ) ပန်းတနော် ဆိတ်ကြီးဆရာတော်၏သိမ်၊
(ဃ) ခရွဲခပိုရွာ ဆရာတော်၏သိမ်——

တို့ကို အစဉ်အတိုင်း သမုတ်လေသည်၊ ထိုနောက် တဆယ့်နှစ်ရွာသိမ်သမုတ်နှင့် ဥပသမ္ပဒကံဆောင် သို့ကြွပါသေးသည်၊ တန်ခူးလ နွေခေါင်ခေါင်ကြီး ဖြစ်သည်၊ ထို့နောက် ညောင်တုန်းမြို့ ရွှေဟင်္သာတောရ တိုက်သို့ကြွ၍ ထိုမှ အစီအစဉ်အတိုင်း——

(က) စလေ ရွှေကျင်ကျောင်း၊
(ခ) ကွမ်းသီးပင် ရွာသစ်ကျောင်း၊
(ဂ) ဓနုဖြူ ဗောဓိကျောင်း၊
(ဃ) ဇလွန် သုဿာန်ကျောင်း(ဤ၌ ပြန်တော်မူလတ္တံ့။)——

တို့သို့ကြွ၏၊ သင်္ဘောသည် ၁၂၆၉-ခုနှစ် ကဆုန်လဆုတ် (၂) ရက် ညဦးသန်းခေါင်ကျော် (၂) နာရီမှ ဇလွန်ဆိပ်ကမ်းသို့ ဆိုက်၏၊ ဇလွန်သုဿာန်ကျောင်းသို့ ရောက်လျှင်ပင် ဘုန်းတော်ကြီးသည်——

(က) ဘယ်နေ့ သိမ်သမုတ်မလဲ၊
(ခ) ရက်မဆိုင်းကြနှင့်၊
(ဂ) ယနေ့ပင် သမုတ်ရမည်——

ဟု မိန့်၏၊ အချိန်ကား နံနက် (၃) နာရီမျှသာ ရှိသေးသည်၊ ကဆုန်လဆုတ် (၃) ရက် တနင်္ဂနွေ နေ့နံနက် ဆွမ်းဘုဉ်းပေးအပြီး နေ့ဆွမ်းအချိန်မတိုင်မီ သိမ်သမုတ်ကိစ္စပြီးသွားသည်၊ ကိုယ်တိုင်ကမ္မဝါ များကို ဖတ်သေးသည်၊ ရောဂါကား ဖောက်ပြန်ဂပြုနေပြီ၊ အရင်အမာပုဂ္ဂိုလ်ကြီးတို့၏ သာသနာရေး စိတ်ထား မြင့်မားပုံတို့ကား များစွာ ကြည်ညိုဘွယ် အတုယူဘွယ်ကောင်းလှသည်၊ ထိုနေ့ (၁) နေ့လုံး သည်းခံ မျှတစေလျက် ချမ်းသာစွာ အဖူးမြော်ခံနိုင်သေးသည်။



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် အသောကမာလာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် စမွကမာလာရုံ ကျောင်းဆောင်

ထို (၂) ရက်နေ့ညဥ့်အချိန်သို့ ရောက်သောအခါ ရှိရင်းစွဲ ဝမ်းဒူလာရောဂါသည် ရှေးရှေးရက်များနှင့်မတူ တတွေ့တွေ့ဖြစ်လာချေ၏၊ နောက်ဆုံး ဘယ်ဆေးကိုမျှ လက်ခံတော်မမူ ပယ်လှန်လေသည်။

အပြုအစု ဘုန်းတော်ကြီးများက သက်န်းများ သန့်ရှင်းမှု ကင်းလေသလောဟု လဲပေးရန် သင်္ကန်းများယူလာရာ ဝတ်ထားသော သင်္ကန်းများကို မလွှတ်ဘဲ ဆွဲထား၏။

(က) ဤသင်္ကန်းသစ်များလည်း ပံသုကူဖြစ်ပါသည်၊
(ခ) ကပ္ပိယဒိန္နလည်း ထိုးပြီးပါပြီ၊
(ဂ) အဟောင်းများ, လဲလှယ်ပေးလိုပါသည်၊

ဤသို့ လျှောက်တော့မှ အသာကြွ၍ အလဲခံလေသည်၊ ၃-ရက်ညဥ့် သန်းခေါင်တွင် တကြိမ်၊ ၄-ရက်နံနက် မိုးလင်းပြီးသောအခါ တကြိမ်၊ ပေါင်း (၂) ကြိမ် သင်္ကန်းတော်လဲပေးရသည်။

မေ့နေသည်, စိုက်နေသည်, သတိမရ-ဟူ၍ တကြိမ်မျှမတွေ့ရ၊ ထို့နောက် သက်တော် (၇၅) နှစ်ရှိ ဘုန်းတော်ကြီးသည် ထို ဇလွှန်မြို့ သုဿာန်ကျောင်း၌ပင် ငြိမ်သက်ကြည်လင် နှလုံးသွင်းနေကျ စိတ်အစဉ်ဖြင့်ပင် တဖြေးဖြေးပြော့ အားအင်လျော့၍ ၁၂၆၉-ခုနှစ် ကဆုန်လဆုတ် (၄) ရက် တနင်းလာနေ့နံနက် (၇) နာရီ အချိန်သည်ကား—

"သဗ္ဗေ မစ္စုပရာယဏာ"
သတ္တဝါတိုင်း သေခြင်းဖြင့် အဆုံးသတ်ရမည်—

ဟူသော(မရဏသဘော)အသွင်ကို သရုပ်ထင်ထင် အဟုတ်မြင်အောင် သွန်သင်နှုတ်ဟ ထုတ်ပြဟောကြားသည့်အလား လျောင်းစက်သော ဣရိယာပုထ်အနေအထားဖြင့် တန့်နားငြိမ်သက်စွာ မလှုပ်မယှက် အဖူးမြော်ခံနေသော အချိန်ထူးကြီးဖြစ်လေသတည်း။

## အံ့သြဘွယ်ရာများ

၁၂၆၉-ခုနှစ် ကဆုန်လဆုတ် (၄) ရက်နေ့ ပြန်လွန်သဖြင့် (၉) လမျှ စံကျောင်းချထားပြီး တပို့တွဲလဆုတ် (၃) ရက်နေ့မှ အင်္ဂလိပ်ပနာ အန္တိမပူဇာ မီးသင်္ဂြိုဟ်ခြင်းပြုကြမည်ဖြစ်ရာ ဤအတွင်း၌ အောက်ပါ အံ့သြဘွယ် (၄) ခုကို တွေ့ရသည်၊ အလောင်းတော်ထားရာ စံကျောင်း၏ ပတ်ဝန်းကျင်ရှိ သစ်ပင်တို့တွင်—

(က) ပေါက်ပင်များနှင့် ဂန့်ဂေါ်ပင်တို့သည် နှစ်စဉ် တန်ခူးလပွင့်နေကျ ယခုနှစ် သီတင်းကျွတ်လမှာ ပွင့်ကုန်၏၊

(ခ) ပျဉ်းမပင်နှင့် ပိတောက်ပင်တို့သည်လည်း နှစ်စဉ် ကဆုန်လပွင့်နေကျ ယခုနှစ် တန်ဆောင်မုန်းလမှာ ပွင့်ကုန်၏၊

(ဂ) သရက်ပင်တို့သည်လည်း နှစ်စဉ်တပို့တွဲလ ပွင့်နေကျ ယခုနှစ် နတ်တော်လမှာ ပွင့်ကုန်၏၊

(ဃ) အုန်းပင် (၁) ပင်၌ တညွှာ (၁) လုံး သီးနေကျ ယခုနှစ် တညွှာ၌ (၃) လုံးသီးလာ၏၊
(ထေရုပ္ပတ္တိ စာမျက်နှာ ၁၀၇)



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ဗြဟ္မနိမ္မိတာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် သက္ကနိမ္မိတာရုံကျောင်းဆောင်

## စေတီ (၂)ဆူ

မီးသင်္ဂြိုဟ်ပြီး ဓာတ်တော်များကို အလှူအယက်ကောက်ကြ၍ ရရှိလိုက်ကြသော အရိုး၊ ပြာ၊ ဓာတ်တော်တို့ကို မန္တလေးသို့ယူ အမှုန့်ပြု သစ်စေးဖြင့်နယ် ဉာဏ်တော်(၁၂) လက်မစီနှင့် တင်ပလ္လင်ခွေ ရုပ်ပွါး(၂) ဆူလုပ်၊ တဆူကို ရွှေဘိုနယ် သမားရိုးရွာနှင့် ရွှေပန်းကုန်းရွာတို့၏အကြား တောရကျောင်း၌ ဌာပနာပြီး စေတီတည်၊ ဉာဏ်တော် (၁၂) တောင်မြင့်သည်။ တဆူကို ဇလွန်မြို့ အင်္ဂါစျာပန ပြုလုပ်သောနေရာတွင် ဌာပနာပြီး စေတီတည်၊ ဉာဏ်တောင် အတောင် (၃၀) မြင့်သည်၊ ၎င်းစေတီသည် ပြည်တော်ပြန်ဘုရားကြီး၏ အရှေ့ဘက် (၅) ဖာလုံ၌ ဖြစ်၏၊ ပြန်လွှန်ရာ သုဿာန်ကျောင်းကား ပြည်တော်ပြန်ဘုရားကြီး၏ တောင်ဘက်အနီးမှာပင် ဖြစ်၏၊ ယနေ့ သပ္ပါယ်တည်ရှိလျက်ပင်။

## မှတ်သားဘွယ်ရာများ

တောရနှင့်ရွှေကျင် မပေါင်းမီခင် ဘုန်းတော်ကြီး ဦးသီလသည် ဂိုဏ်းဝန်ဆောင် (အဖွဲ့၏ အကျိုးဆောင်)နာယကဖြစ်လျက် ပေါင်းမိသည့်အခါ ကြခတ်ဝိုင်းဘုန်းကြီး (နောင် ကျိုက္ကစံ) ဦးဥတ္တမသည် ဂိုဏ်းဝန်ဆောင်နာယက ဖြစ်သည်၊ အစဉ်အလာ မဟာနာယက ဆရာတော်တပါး ပြန်လွှန်တိုင်း နာယကအဖွဲ့မှ မဟာနာယက(ဥက္ကဋ္ဌ)တပါး ရွေးချယ်တင်မြှောက်သည်၊ နာယကများ လျော့နည်းသွားတိုင်းလည်း နာယကအဖွဲ့မှပင် (က) အရွယ်၊ (ခ) အရည်အချင်း၊ (ဂ) စိတ်နေစိတ်ထား၊ (ဃ) နောက်ကြောင်းရာဇဝင်၊ (င) လုပ်ရည်ကိုင်ရည်စသည် ကြည့်ရှုရွေးချယ် တင်မြှောက်ခဲ့သည်။

ဤသို့ လျော့လာတိုင်း တင်မြှောက်လာသည့်အတွက် အစဆုံးဖြစ်သော နာယကအဖွဲ့များမှတပါး ကျန်ရှိသည်တို့မှာ အဖွဲ့အနေ အတိအကျ ဖော်ပြနိုင်ရန် မလွယ်ပါ၊ သို့သော် မဟာနာယက(ဥက္ကဋ္ဌ)စဉ်ဆက်ကိုကား ဖော်ပြနိုင်ပါသည်။ ၎င်းတို့မှာ—

## မဟာနာယကစဉ်ဆက်

| | | | | | |
|---|---|---|---|---|---|
| (က) | ဦးစန္ဒာလင်္ကာရ | (ဦးပုံ) | | သိက္ခာ(၄၇) | မဟာနာယက |
| (ခ) | ဦးအာစာရ | (ကလျာဏီ) | | ။ ( ) | ။ |
| (ဂ) | ဦးသုမန | (ရွှေအောင်ရွေး) | | ။ (၅၆) | ။ |
| (ဃ) | ဦးရေဝတ | (မင်းရွာအရှေ့) | | ။ (၆၅) | ။ |
| (င) | ဦးမေဓာဝီ | (ရေကျော်) | | ။ (၅၄) | ။ |
| (စ) | ဦးဉာဏ | (မင်းရွာအနောက်) | | ။ (၅၄) | ။ |
| (ဆ) | ဦးဥတ္တမ | (ကလိကြီး) | | ။ (၆၄) | ။ |
| (ဇ) | ဦးသြဘာသ | (ရွှေဘုံဆင့်) | | ။ (၆၀) | ။ |
| (ဈ) | ဦးဇနိန္ဒ | (မင်းကျောင်း) | | ။ (၇၄) | ။ |
| (ည) | ဦးသီလာစာရ | (ဥက္ကံ) | ရောက်ဆဲဝါ | (၆၀) | ။ |

မှတ်ချက်။ ။ဦးစန္ဒာလင်္ကာရ၏ သိက္ခာမှ ဘတောထွက်သောဝါတည်း၊ ပြန်လွှန်ခုနှစ်နှင့် သိက္ခာကို စုံစမ်း၍မရ၊ ပြန်လွှန်အထိ ဟသ်ာကုန်းတောမှာနေ၍ ပြန်လွှန်သည့်အခါ တောကြီးမျက်မဲ၌



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် သီလဝိသောဓနိကာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် သီလဝိဘူသိတာရုံကျောင်းဆောင်

အခင်းမလှသောကြောင့် မြို့၏အနီး (ယခုလိပ်ပြာကန်ကျောင်းနေရာ)မှာ စံကျောင်းဆောက်၍ထားပြီး အလောင်းတော်ကိုစည်ကားစွာသင်္ဂြိုဟ်ကြကြောင်းသိရသည်၊ ယခုလိပ်ပြာကန်ကျောင်းကို ဓမ္မစေတီမင်းလက်ထက် ရှင်စောပုကျောင်းဆောက် (လိပ်ပြင်ကျောင်းခေါ်သည်)။ နောင် ပုဂံမင်းလက်ထက်(ကြောင်ပြာကျောင်းခေါ်သည်)။ အနီး၌ ရေကန်ကြီးကို ဓမ္မစေတီမင်း တူးခဲ့သည်။

## ကျီကွဲစံဆရာတော်လေး

**အထူးမှတ်သားဘွယ်။** ။လောကမှာ "လုလ္လရှိမှ လူကြီးဖြစ်သည်, အာဏာရှိမှ အလုပ်ဖြစ်သည်" ဟူသော စကားအရ လုလ္လရှိ အာဏာရှိ သတ္တိဗျတ္တိ စရိုဥဿုံ အလုံးစုံသောဂုဏ်တို့နှင့် အထူးပြည့်စုံတော်မူသော မြန်မာပြည်အောက်ပိုင်း သာသနာပိုင် ကျီကွဲစံဆရာတော် ဦးဥတ္တမသည် ဆရာတော်ကြီး (ဦးသီလ)၏ ကိုယ်စား ဆရာတော်လေးအမည်ခံ၍ ဂိုဏ်းဝန်ဆောင်နာယက အဖြစ်ဖြင့် သီးခြားနာယက ထပ်မတင်ဘဲ ဆရာတော်ဘုရားကြီးအားလုံးကို—

(က) ရတ္တညူ မဟတ္တ၊
(ခ) စိရ ပဗ္ဗဇိတ၊
(ဂ) ဂရု ဌာနီယ —

အဖြစ်ဖြင့် လျှောက်ထားသဘောတူညီချက်ယူပြီး ပဲခူးဂိုဏ်းကြီးအကျိုးကို တော်တော်ကြာကြာ ပြန်လွှန်သည်အထိ သည်ပိုးဆောင်ရွက်သွားပါသည်။ ထို့ကြောင့် ကျီကွဲစံဆရာတော် (၁၂၇၉)ခုနှစ်၊ သက်တော် (၆၆)နှစ်၊ သိက္ခာ (၄၆)ဝါအရ ပြန်လွှန်မှ အထက်ပါ နာယက၊ မဟာနာယက စသည် ပြန်လည်တင်မြှောက်ကြရပါသည်။

## ရာပြည့်ပွဲကြီးနှင့်ကြုံသော နာယကဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| (က) | ဦးကဝိဇ | (ဒက္ခိဏာသာခါ) | ရောက်ဆဲသိက္ခာ | (၆၇) | အဂ္ဂမဟာနာယက |
| (ခ) | ဦးသီလာစာရ | (ဥက္ကံ) | ။ | (၆၀) | မဟာနာယက |
| (ဂ) | ဦးဝိမလ | (ရွှေကျင်) | ။ | (၆၀) | ဥပမဟာနာယက |
| (ဃ) | ဦးသိရိန္ဒ | (စမ်းကြီး) | ။ | (၅၉) | နာယက |
| (င) | ဦးဉာဏဝံသ | (ကလျာဏီ) | ။ | ( ) | နာယက (ပြန်လွှန်) |
| (စ) | ဦးကုသလ | (မယင်း) | ။ | (၅၃) | နာယက |
| (ဆ) | ဦးဉာဏာလင်္ကာရ | (ရွှေဂူ) | ။ | ( ) | နာယက (ပြန်လွှန်) |
| (ဇ) | ဦးပညာသာမိ | (ရေကျော်) | ။ | (၄၇) | နာယက |
| (ဈ) | ဦးနာဂိန္ဒ | (မျက်နှာတော်) | ။ | (၄၂) | နာယက |



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်
စိတ္တသုခသီတာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်
စိတ္တပါသာဒိကာရုံကျောင်းဆောင်

## ဝန်ဆောင်နာယကစဉ်ဆက်

(က) ဦးသီလ (ကြခတ်ဝိုင်း၊ နောင် တောထွက်)
(ခ) ဦးဥတ္တမ (ကြခတ်ဝိုင်း၊ နောင် ကျိုက္ကစံပြောင်း)
(ဂ) ဦးသုမေဓ (ကြခတ်ဝိုင်း၊ ၁၃၁၁-ခုနှစ် ကြခတ်ဝိုင်း၌ပြန်လွန်)
(ဃ) ဦးဇောတိပါလ (ကြခတ်ဝိုင်း၊ ဆောင်ရွက်ဆဲ)

## ဆောင်ရွက်ဆဲဝန်ဆောင်နာယက၏ ဆောင်ရွက်ချက်အကျဉ်းချုပ်

(က) ကျောင်းပေါင်း (၁၃၀)ကျော်၊ သံဃာတော် (၁၄၀၀)ကျော်တို့၏ ညီညွတ်ချမ်းသာမှုတို့ကို ၎င်း ရွှေကျင်တောရ ဝံသစဉ်ဆက် ယွင်းမပျက်စေဘဲ စည်းမျဉ်းဥပဒေ အထွေထွေ အဝဝ ဟူသမျှတို့၏ တိုးတက်ခိုင်မာကြောင်းတို့ကို၎င်း အစွမ်းကုန်ကြိုးစားဆောင်ရွက်ပေးခဲ့သည်။

(ခ) နှစ်စဉ် ဝိနည်းစာပြန်ပွဲကြီးနှင့် တရားပွဲကြီးများ စည်ကားသိုက်မြိုက်လျက် ဆွမ်းကွမ်းစသည် အဘက်ဘက်ပြည့်စုံအောင် မိမိ၏ စတုပစ္စယဒါယကာများနှင့် တိုင်ပင်၍ အတတ်နိုင်ဆုံး ဆောင်ရွက်ပေးခဲ့သည်။

(ဂ) ၁၃၁၈-ခုနှစ်(မိမိ ၁၆-ဝါ အရ) ဂိုဏ်းသံဃာ၏ဆန္ဒ စိတ်တိုင်းကျအောင် အနံပေ (၅၀) အလျား(၁၁၀)ရှိ သစ်သားဓမ္မာရုံအသစ်ဖြင့် တိုင်းအသီးသီး ခရိုင်အသီးသီးမှ သံဃာအပါး (၇၀၀)ကျော်ကို ပင့်လျက် ရွှေကျင်နိကာယ ပြည်လုံးကျွတ် နဝမအကြိမ် (၃)နှစ်ပတ်လည် သံဃာ့အစည်းအဝေးကြီးကို လက်ခံပြီး ပြည့်စုံအောင် ဆောင်ရွက်ပေးခဲ့သည်။

(ဃ) တိုင်းအသီးသီး ခရိုင်အသီးသီးမှ ပဲခူးရွှေကျင်နိကာယအား မေးလာသည့်ပြဿနာအရပ်ရပ် ဆောင်ရွက်ပေးရမည့် ကိစ္စအထွေထွေတို့ကို ဝန်ဆောင်နာယက၏ တာဝန်အရ ကျေပွန်ပြေလည်အောင် ဆောင်ရွက်ပေးခဲ့သည်။

(င) ၁၃၃၂-ခုနှစ်(မိမိ ဝါ ၃၀-အရ)၌ ဂိုဏ်းသံဃာ၏ဆန္ဒ စိတ်တိုင်းကျအောင်ပင် အနံပေ(၁၀၀) အလျား ပေ(၁၅၀)ရှိ အုဋ်အင်္ဂတေ ဆီးမင်းတို့ဖြင့် အခိုင်အမာ မင်္ဂလာရှိရှိ ဆောက်လုပ် အပ်သော ဒုတိယဓမ္မာရုံအသစ်ဖြင့် တိုင်းအသီးသီး ခရိုင်အသီးသီးမှ သံဃာတော်အပါး (၁၀၀၀)ကျော်ပင့်လျက် အနှစ်(၁၀၀)ပြည့် စာပြန်ပွဲကြီးနှင့် (ဝိနည်းပိဋကတ် ထွင့်ရှ အမြတ်)ပူဇော်ပွဲကြီးကို လက်ခံပြီး အဘက်ဘက် ပြေပြစ်ပြည့်စုံအောင် ဆောင်ရွက်ပေးခဲ့သည်။

(စ) ဂိုဏ်း ဂဏ ဂုဏ်သိက္ခာကို မြှင့်တင်လျက် ဂိုဏ်းသံဃာငယ်များအား အရည်အချင်း ပြည့်ပြီး (အိမ်ကြီးမှ ရှာခန့်သည်)စကားအရ လူသွက်လူထက် လူချွန်လူမွန်လေးတွေ ပေါ် ပေါက်လျက် ပရိယတ္တိသာသနာ ကြီးထွားအောင် နှစ်စဉ်သံဃာ အပါး(၂၀၀)ကျော် လက်ခံ တာဝန်ယူ စာချပေးခဲ့သည်။ ယခု ဤစာရေးသော (၁၃၃၄)ခုနှစ်၌ သံဃာ(၂၄၀)ပါး ဝါဆိုကြသည်။

(ဆ) နှစ်စဉ် စာမေးပွဲများစွာကို ဖြေစေသဖြင့်၎င်း၊ အားထုတ်ပေးသဖြင့်၎င်း များစွာပင် အောင်မြင်ကြပါသည်၊ ယခု ဤစာရေးသော (၁၉၇၂)ခုနှစ်မှာ ထွက်သော ဂေဇက်များအရ ကြခတ်ဝိုင်းမှ အောက်ပါအတိုင်း အောင်မြင်ကြပါသည်။

| | | |
|---|---|---|
| (၁) | ရန်ကုန်မြို့ စေတိယင်္ဂဏစာမေးပွဲ | (၁)ပါး |
| (၂) | မန္တလေးမြို့ သက္ကျသီဟစာမေးပွဲ | (၁)ပါး |
| (၃) | မော်လမြိုင်မြို့ သုသမာစာရစာမေးပွဲ | (၁)ပါး |
| (၄) | ပဲခူးမြို့ ဝိနယတံခွန်စာမေးပွဲ | (၈၃)ပါး |
| (၅) | " ဝိနာသာခိကစာမေးပွဲ | (၁၉)ပါး |
| (၆) | သထုံမြို့ ပရိယတ္တိသာသနဟိတစာမေးပွဲ | (၂၇)ပါး |
| (၇) | အစိုးရစာချတန်းစာမေးပွဲ | (၂၆)ပါး |
| (၈) | " အကြီးတန်းစာမေးပွဲ | (၁၃)ပါး |
| (၉) | " အလတ်တန်းစာမေးပွဲ | (၂၈)ပါး |
| (၁၀) | " အငယ်တန်းစာမေပွဲ | (၂၇)ပါး |
| | ၁၉၇၂-ခုနှစ် အောင်သံဃာပေါင်း | ၂၂၆ |

### ၁၃၃၃-ခုနှစ်၊ တန်ခူးလ (၁၉၇၂-ခု၊ ဧပြီလ)တွင် ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရ ကျင်းပအပ်သော ပါဠိတက္ကသိုလ်နှင့် ပါဠိပဌမပြန်စာမေးပွဲကြီး၌ ပဲခူးမြို့ ကြခက်ဝိုင်းကျောင်းတိုက်မှ စာအောင်သံဃာတော်များ စာရင်း

### ဓမ္မာစရိယ စာချတန်းအောင် (၂၆)ပါး

| အမှတ်စဉ် | ခုံအမှတ် | ဘွဲ့တော် | အသက် | အဘနှင့် | မြို့ | အောင်သောကျမ်း | |
|---|---|---|---|---|---|---|---|
| | က | | | | | | |
| ၁ | ၆၀၁ | ဦးနန္ဒကစ္စာယနာဘိဝံသ | ၂၇ | ဦးသာဒိုး | ကျောက်ဖြူ | ဒီဃနိကာယပါဠိပါရဂူ | |
| ၂ | ၆၀၀ | ဦးကုဝေရ | ၂၁ | ဦးညွန့်မောင် | ကဝ | သံယုတ္တနိကာယ ပါဠိပါရဂူ | |
| ၃ | ၅၆၇ | ဦးကောဝိဒါဘိဝံသ | ၂၈ | ဦးဒေါန | ခင်ဦး | ကျမ်းရင်း | (၃)ကျမ်း |
| ၄ | ၅၇၀ | ဦးဥက္ကဋ္ဌ | ၂၅ | ဦးလှယဉ်ကျေး | ကျုံပျော် | ။ | ။ |
| ၅ | ၅၈၁ | ဦးဥက္ကံသ | ၂၂ | ဦးကျော်စိန် | သနပ္ပင် | ။ | ။ |
| ၆ | ၅၈၉ | ဦးဓမ္မဝံသ | ၂၂ | ဦးဖြူကြီး | စစ်တွေ | ။ | ။ |
| ၇ | ၅၆၄ | ဦးကဝိဿရ | ၃၃ | ဦးမောင်ချက် | ပုသိမ် | ။ | (၂)ကျမ်း |
| ၈ | ၅၇၁ | ဦးဓမ္မောသဓ | ၂၅ | ဦးထွန်းညိုဦး | တောင်ကုတ် | ။ | ။ |
| ၉ | ၅၈၄ | ဦးစန္ဒိမာ | ၂၃ | ဦးအေး | ညောင်လေးပင် | ။ | ။ |
| ၁၀ | ၅၈၈ | ဦးဝိမလ | ၂၁ | ဦးထွန်းဝင်း | တောင်ကုတ် | ။ | ။ |
| ၁၁ | ၅၉၆ | ဦးမဟိန္ဒ | ၂၀ | ဦးဘိုးဆင် | ဇလွန် | ။ | ။ |
| ၁၂ | ၅၉၉ | ရှင်ဥတ္တရ | ၁၉ | ဦးမော့ | သနပ္ပင် | ။ | ။ |
| ၁၃ | ၅၆၆ | ဦးသုရက္ခိတ | ၂၈ | ဦးမောင်အေး | မာရ်အောင် | ။ | (၁)ကျမ်း |
| ၁၄ | ၅၆၈ | ဦးနန္ဒိယ | ၂၆ | ဦးဘသင် | ချောင်းဦး | ။ | ။ |
| ၁၅ | ၅၉၈ | ဦးကေလာသ | ၂၅ | ဦးစောမောင် | မိတ္ထီလာ | ။ | ။ |
| ၁၆ | ၅၉၁ | ဦးဇောတိက | ၂၅ | ဦးသာဟန် | ဇလွန် | ။ | ။ |
| ၁၇ | ၅၇၄ | ဦးမာနိတ | ၂၄ | ဦးစံဖေ | သာစည် | ။ | ။ |
| ၁၈ | ၅၇၉ | ဦးသုဂတာနန္ဒ | ၂၃ | ဦးသိန်း | မာရ်အောင် | ။ | ။ |
| ၁၉ | ၅၇၈ | ဦးဝေပုလ္လ | ၂၃ | ဦးဘိုးဆင် | ဇလွန် | ။ | ။ |
| ၂၀ | ၅၈၅ | ဦးဝဏ္ဏသာမိ | ၂၃ | ဦးနုံသာအောင် | မာရ်အောင် | ။ | ။ |
| ၂၁ | ၅၈၆ | ဦးသြဘာသ | ၂၂ | ဦးရွှေမြိုင် | ဘီးလင်း | ။ | ။ |
| ၂၂ | ၅၉၅ | ဦးနန္ဒောဘာသ | ၂၁ | ဦးမောင်စိန်ပု | ကျောက်တော် | ။ | ။ |
| ၂၃ | ၅၈၇ | ဦးသေဋ္ဌိလ | ၂၁ | ဦးစာ | ရမည်းသင်း | ။ | ။ |
| ၂၄ | ၅၉၄ | ဦးပဏ္ဍိတ | ၂၀ | ဦးအောင်စိန် | သနပ္ပင် | ။ | ။ |
| ၂၅ | ၅၉၇ | ဦးသောဏ | ၂၀ | ဦးသာခင် | ရွှေကျင် | ။ | ။ |
| ၂၆ | ၆၀၂ | ဦးဝါသဝ | ၂၃ | ဦးမောင်နီ | ကျောက်ဖြူ | ။ | ။ |

## ပဌမကြီးတန်းအောင် (၁၃)ပါး

| အမှတ်စဉ် | ခုံအမှတ် | ဘွဲ့တော် | အသက် | အဘနှင့် | မြို့ |
|---|---|---|---|---|---|
| ၁ | ပဲခူး–၃၄ | ဦးကောသလ္လ | ၂၆ | ဦးသူငယ် | ဟသ်ာတ |
| ၂ | ၁၈ | ဦးပညာဝရ | ၂၅ | ဦးလှ | မုံရွာ |
| ၃ | ၁၉ | ဦးပညာဝန္တ | ၂၅ | ဦးချစ်သင် | ထားဝယ် |
| ၄ | ၂၀ | ဦးစန္ဒောဘာသ | ၂၃ | ဦးမြ | ကျောက်ပန်းတောင်း |
| ၅ | ၂၁ | ဦးဇနိန္ဒ | ၂၃ | ဦးစံမင်း | ကဝ |
| ၆ | ၃၉ | ဦးစရဏ | ၂၃ | ဦးအထွန်းချေ | စစ်တွေ |
| ၇ | ၄၁ | ဦးနန္ဒဝံသ | ၂၂ | ဦးရွှေကြာ | ဘီးလင်း |
| ၈ | ၂၃ | ဦးဝိလာသ | ၂၁ | ဦးလှကျော် | ရွှေဘို |
| ၉ | ၂၅ | ဦးအဂ္ဂါနန္ဒ | ၂၀ | ဦးဖေါ် | နွားထိုးကြီး |
| ၁၀ | ၂၆ | ဦးကဝိန္ဒ | ၂၀ | ဦးအောင်သင်း | ဟသ်ာတ |
| ၁၁ | ၄၆ | ဦးမဟိဿရ | ၂၀ | ဦးထွန်းကြိုင် | ကျိုက်လတ် |
| ၁၂ | ၄၈ | ဦးမေဓာသာရ | ၂၀ | ဦးမောင်သာစိန် | စစ်တွေ |
| ၁၃ | ၄၉ | ရှင်ပဏ္ဍိတ | ၁၉ | ဦးစိန်လှ | ဖားအံ |

## ပဌမလတ်တန်းအောင် (၂၈)ပါး

| အမှတ်စဉ် | ခုံအမှတ် | ဘွဲ့တော် | အသက် | အဘနှင့် | မြို့ |
|---|---|---|---|---|---|
| ၁ | ပဲခူး–၂၇ | ဦးသာသနိက | ၂၇ | ဦးတိုးသ | ခုက္ကူ |
| ၂ | ၂၈ | ဦးသုမန | ၂၅ | ဦးဘိုးမြ | ကဝ |
| ၃ | ၃၀ | ဦးနန္ဒမဥ္ဇူ | ၂၄ | ဦးလူမောင် | ကျောက်ဖြူ |
| ၄ | ၃၅ | ဦးခေမာဝံသ | ၂၄ | ဦးအာလူး | ဖားအံ |
| ၅ | ၇၀ | ဦးကုမာရ | ၂၂ | ဦးထွန်းသာဦး | စစ်တွေ |
| ၆ | ၃၆ | ဦးသုမန (ဂ) | ၂၂ | ဦးစိုး | ပဲခူး |
| ၇ | ၃၈ | ဦးကုဝေရ | ၂၂ | ဦးဘိုးကြိုင် | သရက် |
| ၈ | ၃၉ | ဦးအဇ္ဇဝ | ၂၂ | ဦးဖေတင် | ငန်းဇွန် |
| ၉ | ၄၀ | ဦးစန္ဒန | ၂၁ | ဦးသာတင် | သနပ်ပင် |
| ၁၀ | ၄၃ | ဦးနန္ဒောဘာသ | ၂၁ | ဦးဘိုးမင်း | ဘီးလင်း |
| ၁၁ | ၄၄ | ဦးသုန္ဒရ | ၂၁ | ဦးချွေးလေး | ဝေါ |
| ၁၂ | ၄၅ | ဦးစန္ဒိမာ | ၂၁ | ဦးနွတ် | ကဝ |
| ၁၃ | ၄၆ | ဦးနာဂတိဿ | ၂၁ | ဦးစိန်လှအောင် | စစ်တွေ |
| ၁၄ | ၄၇ | ဦးဆန္ဒာဓိက | ၂၁ | ဦးဘို | မကွေး |
| ၁၅ | ၄၈ | ဦးဝီရဗလ | ၂၁ | ဦးကြင်ဆောက် | ကဝ |
| ၁၆ | ၅၀ | ဦးပညာစာရ | ၂၁ | ဦးမောင်ခင် | ဟံသာဝတီ |

| အမှတ်စဉ် | ခုံအမှတ် | ဘွဲ့တော် | အသက် | အဘနှင့် | မြို့ |
|---|---|---|---|---|---|
| ၁၇ | ၅၁ | ဦးကောဝိဒ | ၂၀ | ဦးဘိုသိုး | ကဝ |
| ၁၈ | ၅၃ | ရှင်ကုဏ္ဍလ | ၁၉ | ဦးဖြူဒေါင်း | လပ္ပတ္တာ |
| ၁၉ | ၅၄ | ရှင်ဇနက | ၁၉ | ဦးဝင်း | ဝေါ |
| ၂၀ | ၅၅ | ရှင်သောဘိတ | ၁၉ | ဦးဘရှင် | ကျိုက်လတ် |
| ၂၁ | ၆၁ | ရှင်ဝေပုလ္လ | ၁၉ | ဦးစိန်ထွန်း | ပဲခူး |
| ၂၂ | ၅၆ | ရှင်အာစာရ | ၁၈ | ဦးထွန်းရ | သနပ္ပင် |
| ၂၃ | ၆၂ | ရှင်ပုညာနန္ဒ | ၁၈ | ဦးညွန့်မောင် | ပျဉ်းမနား |
| ၂၄ | ၆၃ | ရှင်ထေရဝံသ | ၁၈ | ဦးဖြူရွှေ | ရမ်းဗြဲ |
| ၂၅ | ၆၄ | ရှင်ဝိသုဒ္ဓါစာရ | ၁၈ | ဦးထွန်းလှ | တောကျွဲအင်း |
| ၂၆ | ၆၆ | ရှင်စိန္တိတ | ၁၈ | ဦးသန်းညွန့် | မုံရွာ |
| ၂၇ | ၆၀ | ရှင်ဝိစိတ္တသာရ | ၁၇ | ဦးဆိုင် | သနပ္ပင် |
| ၂၈ | ၆၇ | ရှင်စန္ဒောဘာသ | ၁၆ | ဦးထွန်းကြိုင် | ကျိုက်လတ် |

**ပဌမငယ်တန်းအောင် (၂၇) ပါး**

| | | | | | |
|---|---|---|---|---|---|
| ၁ | ပဲခူး–၅၈ | ဦးဥတ္တမ | ၂၄ | ဦးဂန့်ဂေါ် | ထန်းတပင် |
| ၂ | ၆၁ | ဦးဇဝန | ၂၂ | ဦးအေးဘော် | ထားဝယ် |
| ၃ | ၆၂ | ဦးဝိစရဏ | ၂၂ | ဦးဘုန်းလှ | မာရ်အောင် |
| ၄ | ၆၅ | ဦးဥက္ကဋ္ဌ | ၂၁ | ဦးကျောက် | တံတားဦး |
| ၅ | ၆၃ | ဦးစန္ဒာဝရ | ၂၀ | ဦးချက်ဖြူ | ကျောက်ဖြူ |
| ၆ | ၆၉ | ရှင်ဝေဒက | ၁၉ | ဦးလှမောင် | ကဝ |
| ၇ | ၇၀ | ရှင်ပဏ္ဍဝံသ | ၁၉ | ဦးဖြူတုတ် | ကျိုက်ထို |
| ၈ | ၇၁ | ရှင်စန္ဒသိရီ | ၁၉ | ဦးမောင်တင် | ရွှေကျင် |
| ၉ | ၇၈ | ရှင်ရေဝတ | ၁၉ | ဦးချန်ထွန်း | ကဝ |
| ၁၀ | ၈၁ | ရှင်ဇဝနတိက္ခ | ၁၉ | ဦးထွန်း | ပြွန်ဘန်ဆာ |
| ၁၁ | ၇၂ | ရှင်သုမင်္ဂလ | ၁၈ | ဦးသာဇင်ဦး | မြို့ဟောင်း |
| ၁၂ | ၇၄ | ရှင်ဉာဏိန္ဒ | ၁၈ | ဦးပေါက် | နတ်မောက် |
| ၁၃ | ၇၅ | ရှင်အာဒိစ္စ | ၁၈ | ဦးထွန်းရင် | ပဲခူး |
| ၁၄ | ၇၃ | ရှင်ကဝိဒီပ | ၁၇ | ဦးအောင်ရှိန် | ကျိုက်ထို |
| ၁၅ | ၄၈ | ရှင်ဂုဏသက | ၁၇ | ဦးဖိန်းလုံ | ဖားအံ |
| ၁၆ | ၄၉ | ရှင်သုဇာတ | ၁၇ | ဦးမုန်း | သနပ္ပင် |
| ၁၇ | ၅၃ | ရှင်စန္ဒိမာ | ၁၇ | ဦးအောင်ဖြူ | သနပ္ပင် |

| အမှတ်စဉ် | ခုံအမှတ် | ဘွဲ့ဘော် | အသက် | အဘနှင့် | မြို့ |
|---|---|---|---|---|---|
| ၁၈ | ၄၃ | ရှင်ဝိဇယ (ပဌမ) | ၁၇ | ဦးစံတင် | မလှိုင် |
| ၁၉ | ၄၄ | ရှင်ခေမာစာရ | ၁၇ | ဦးဘိုးပွင့် | ရမ်းဗြဲ |
| ၂၀ | ၄၀ | ရှင်ပညာဝံသ | ၁၇ | ဦးမောင်ဟန် | ဘီးလင်း |
| ၂၁ | ၈၀ | ရှင်သုဇန | ၁၆ | ဦးစံထွန်း | တောကျွဲအင်း |
| ၂၂ | ၅၄ | ရှင်ယုဇန | ၁၆ | ဦးရွှေရင် | သနပ္ပင် |
| ၂၃ | ၄၆ | ရှင်ဉာဏိဿရ | ၁၆ | ဦးဘိုးထင် | မာရ်အောင် |
| ၂၄ | ၇၆ | ရှင်နာယက | ၁၅ | ဦးစိန်ညွန့် | ရွှေကျင် |
| ၂၅ | ၈၂ | ရှင်ရာဇိန္ဒ | ၁၅ | ဦးဘခင် | ကဝ |
| ၂၆ | ၄၇ | ရှင်ပညောဘာသ | ၁၅ | ဦးလှ | ဝေါ |
| ၂၇ | ၅၅ | ရှင်ဥတ္တမ | ၁၄ | ဦးမြဦး | သာစည် |

အထက်ပါ ရှင်ဝိဇယသည် ပဌမငယ်တန်း၌ တပြည်လုံးတွင် ပဌမအမှတ်အများဆုံးဖြင့် အောင်မြင်ပါသည်၊ ထို့ပြင် ယခုနှစ် ကြခတ်ဝိုင်းကျောင်းတိုက်မှ ပဲခူးမြို့ ဝိနယတံခွန်စာမေးပွဲတွင် –

ရှင်ကျင့်ဝတ်တန်း၌ .... (၁၀) ပါး
ပါတိမောက်တန်း၌ .... (၂၇) ပါး
ကင်္ခါအဋ္ဌကထာတန်း၌ .... (၄၆) ပါး

ပဲခူးမြို့ ဝိနယာဓိက စာမေးပွဲတွင် ပဌမငယ်တန်း၌ .... (၁၀) ပါး
ပဌမလတ်တန်း၌ .... (၆) ပါး
ပဌမကြီးတန်း၌ .... (၁) ပါး
စာချတန်း၌ ပါရာဇိကဏ်ပါဠိအဋ္ဌကထာအောင် .... (၂) ပါး

မော်လမြိုင်မြို့ သုသမာစာရစာမေးပွဲ ပဌမလတ်တန်း၌ .... (၁) ပါး

သထုံမြို့ သုဝဏ္ဏဘူမိ ပရိယတ္တိ သာသနဟိတအသင်း စာမေးပွဲတွင် ကျမ်းပြီး ကျမ်းစွဲအသီးသီး အောင်မြင်ကြရာ –

ပဌမဆင့် မဟာဝေယျာကရဏ်ကအတန်း၌ .... (၁၉) ပါး
ဒုတိယဆင့် ဝိနယဓရတန်း၌ .... (၄) ပါး
တတိယဆင့် အာဘိဓမ္မိကတန်း၌ .... (၃) ပါး
စတုတ္ထဆင့် ခုဒ္ဒကဘာဏကနှင့် မဇ္ဈိမဘာဏကတန်း၌.... (၁) ပါး

အောင်မြင်ကြပါသည်။ ဦးစန္ဒာဝရာဘိဝံသသည် မန္တလေးမြို့ သကျသီဟစာသင်တန်းနှင့် ရန်ကုန်မြို့ စေတိယင်္ဂဏစာချတန်းတွင် ပါရာဇိကဏ်အဋ္ဌကထာနှင့် အဋ္ဌသာလိနီအဋ္ဌကထာကျမ်းတို့ကို ထူးကဲစွာ အောင်မြင်တော်မူပါသည်။ စုစုပေါင်း ၁၉၇၂-ခုနှစ်တွင် (၂၂၆) ပါး အောင်မြင်ကြောင်း သိနိုင်ပါသည်။

၁၃၃၄-ခုနှစ်၊ ဒုတိယဝါဆိုလဆုတ် (၇) ရက်။

အမှုဆောင်အဖွဲ့
ကြခတ်ဝိုင်းသာသနာပြုစာသင်းကြီး၊
ပဲခူးမြို့။

## ပဲခူးမြို့ သီရိမင်္ဂလာ ကြခတ်ဝိုင်းကျောင်းတိုက်

### သခေ်ပဥပဒေ (ဂ) ချက်

ဤကျောင်းတိုက်၌ နေထိုင်လို၍ လျှောက်ထားသော အရှင်မြတ်သည် (က) ရှုပ, သဒ္ဒစသည်ပသာဒ နီယဂုဏ်နှင့် ပြည့်စုံခြင်း၊ (ခ) ယခုနှစ်နိုင်ငံတော်အစိုးရကျင်းပလတ္တံ့သော (ပဌမပြန်နှင့် ဓမ္မာစရိယ၊ ပါဠိပါရဂူ) စာမေးပွဲကြီးများတွင် သင့်ရာအတန်းကို ဖြည့်စွက်အားထုတ်ကာ ဖြေဆိုနိုင်လောက်သော အရည်အချင်းရှိပြီးခြင်း၊ (ဂ) ထိုသင့်ရာအတန်းကို အမှန်ဝင်ရောက်ဖြေဆိုမည့် ပုဂ္ဂိုလ်ဖြစ်ခြင်း၊ (ဃ) သက်တော် (၂၄) နှစ်ထက် မကြီးခြင်း၊ (င) ပရိယတ် ပဋိပတ် (၂) ပါးစုံကို တကယ်လိုလားပြီး ယဉ်ကျေးသိမ်မွေ့စွာ နေထိုင်တတ် ပြောဆိုတတ်သူ ဖြစ်ခြင်းဟူသော အင်္ဂါ (၅) ရပ်နှင့် ပြည့်စုံမှသာ ဇာန်သတ်ပါးရေ မပြည့်မီ အောက်ပါ သခေ်ပဥပဒေ (ဂ) ချက်ကို တိကျစွာ လိုက်နာ ခံယူပါကြောင်းဖြင့် ပဓာနထေရ်အား လျှောက်ထား အပ်နှံရမည်။

(မှတ်ချက်) ပဌမငယ်အောင်မြင်ပြီးသူတို့အတွက် အသက်ကို အထူးစဉ်းစား လက်ခံလိမ့်မည်။

(၁) ရွှေကျင်ဂိုဏ်း စည်းမျဉ်းခပ်သိမ်းနှင့် ကျောင်းတိုက်ထေရ်ကြီးများ၏ ဩဝါဒကို မသွေမလှန် လိုက်နာခံ၍ ကျောင်းဆောင်ရှိ တာဝန်ခံအကြီးအကဲ၏ တာဝန်ယူချထား ခွင့်ပြုသည့် နေရာ၌သာ နေထိုင်ရမည်။

(မှတ်ချက်) ထိုအကြီးအကဲက တာဝန်မယူနိုင်တော့ပါဟု လျှောက်ထားခံရသော ပုဂ္ဂိုလ်ကို ပဓာနထေရ်ကလည်း တာဝန်ယူလိမ့်မည်မဟုတ်ပါ။

(၂) သာသနာမတိုးတက်ကြောင်း အချင်းချင်းမညီညွတ်ကြောင်း အကြည်ညိုပျက်ကြောင်းနှင့် လက်နက်တခုခုကို ကိုင်ဆောင်ခြင်းစသည်တို့ကို ကိုယ်တိုင်သော်၎င်း အားပေးမှုဖြင့်သော်၎င်း အလျဉ်းမပြုရ။

(မှတ်ချက်) ပြုမိသော် (ဝါ) ပြုသူဟု အထင်ခံရသော် ပြုမှုအားလျော်စွာ ကျောင်းတိုက်မှ အပ ပြုခြင်းစသော အပြစ်ဒဏ်ခံရမည်။

(၃) သီလပြည့်စုံမှုကို ရှေးရှု၍ နေ့စဉ်ပိဏ္ဍပါတ်ဆွမ်းခံဝတ်နှင့် သေနာသနဝတ် စသည် မြဲစေရမည်။

(မှတ်ချက်) အစိုးရကျမ်းပြီး ပဌမစာချနှင့် ၎င်းကျမ်းစဲ့ဒုတိယစာချတို့ ပိဏ္ဍပါတ် ဆွမ်းခံမလိုက်လို့ စာအံကျောင်း မတက်လိုက နေနိုင်သည်၊ သို့သော် ပေးအပ်သော စာဝါစသည်ကို ကျေပြွန်စွာချတို့ တာဝန်ယူရမည်။

(၄) မီးဇရုံးဇရပ် ဆွမ်းစားကျောင်း စာအံကျောင်းနှင့် ဘုရားဝတ်တက်ကျောင်းတို့သည် အမြဲတမ်း တခုတည်းသာဖြစ်လျက် အမြဲတမ်းဣန္ဒြေနှင့် သိက္ခာကို မယိမ်းမယိုင်အောင် ထိန်းထားနိုင် ရမည်။

(မှတ်ချက်) အလုပ်တာဝန်ကျသူ မဟုတ်ဘဲ တုံးမခေါက်မီ ဆွမ်းစားကျောင်းဆောင်သို့ မသွားရ၊ ခွင့်မပြုဘဲ မည်သည့်ပစ္စည်းကိုမျှ မယူရ။

(၅) အသိအမှတ်ဖြင့် ခွင့်ပြုလိုက်သော ဆွမ်းခံ ဆွမ်းစားနှင့် ပရိတ်ရွတ်မှတပါး အခြားအကြောင်း များကြောင့် ကျောင်းတိုက်ပြင်ပသို့ သွားလိုလျှင် (က) သွားလိုပါကြောင်း ပဓာနထေရ်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ပရိယတ္တိဝိဇ္ဇောတာရုံကျောင်းဆောင်



ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ပရိယတ္တိမူလိကာရုံကျောင်းဆောင်

အား လျှောက်ထား၍ (ခ) ခွင့်ရပြီးမှသာ သွားလျက် (ဂ) ပြန်ရောက်သည့်အခါ ပြန်ရောက်ပါကြောင်း လျှောက်ထားရမည်၊ (ဃ) ခရီးသွားမများရန်ကိုလည်း အထူးစောင့်ပါ၊

(မှတ်ချက်) ချွတ်ယွင်းခဲ့သော် (ဝါ) ချွတ်ယွင်းသူဟု အထင်ခံရသော် ချွတ်ယွင်းမှုအားလျော်စွာ ကျောင်းတိုက်မှ အပပြုခြင်းစသော အပြစ်ဒဏ်ခံရမည်။

(၆) နှစ်စဉ် နယုန်လဆန်း (၁၄) ရက်မှ စတင်ကျင်းပသော ကျောင်းတိုက်စာမေးပွဲ ရက်ပတ်တိုင်း အတန်းအလိုက် ပြဋ္ဌာန်းစာများကို ပြန်ပြ လှည့်ပြရမည်။

(မှတ်ချက်) စာမေးပွဲ တပတ်ကျရှုံးသော် ဒဏ် (၁၀) ခေါက်။ ထို့ပြင် နောက်ဆုံးဘာသာစုံ စာမေးပွဲကြီးတွင် ဖြေဆိုရသော ဘာသာတိုင်း၌ ပေးသော အမှတ်၏ စာချတန်း၌ ၅-ပိုင်း ၂-ပိုင်း စာသင်တန်းတို့၌ ၃-ပိုင်း ၁-ပိုင်း မရရှိသူတို့အား သက်ဆိုင်ရာ စာမေးပွဲတို့ကို ဖြေဆိုခွင့်ခံနံပါတ် ထုတ်ပေးမည်မဟုတ်ပါ၊

(၇) လက်ရောက်ကြူးလွန်မှုပြုမိသူသည် သို့မဟုတ် အားပေးသူသည် ကြူးလွန်မှု, အားပေးမှု ပြုမိပြီးသည်နှင့်တပြိုင်နက် ကျောင်းတိုက်သံဃာအဖြစ်မှ ထုတ်ပယ်ပြီး ဖြစ်စေရမည်။

(မှတ်ချက်) ကျောင်းတိုက်မှ အမြန် အစဉ်ထွက်သွားရမည်ဟူလို။

(၈) အများကျေနပ်လောက်သော အန္တရာယ်နှင့် ကိစ္စတခုခုကြောင့် စာအံကျောင်း ဘုရားဝတ်တက်ကျောင်းနှင့် သံဃာ့ဝေယျာဝစ္စဌာနတို့သို့ လာရောက်ဆောင်ရွက်ရန် မစွမ်းနိုင်ခဲ့သော် သံဃာညီညွတ်မှုအတွက် ပဓာနထေရ်အား လျှောက်ထားရမည်။

(မှတ်ချက်) သံဃာ၏ သီလပြည့်စုံမှုနှင့် ညီညွတ်မှုကို အဓိကထား အထူးလိုလား၍ လေးစားကြောင်း သတိပြု။

သုခေါ ဗုဒ္ဓါန မုပ္ပါဒေါ၊ သုခါ သဒ္ဓမ္မ ဒေသနာ။
သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနံ တပေါ သုခေါ။



ကြခတ်ဝိုင်း ပဌမဆရာတော် ဦးသီလပုံတော်
(နောင် တောထွက်၊ ဘုန်းတော်ကြီး ဦးသီလ-ဟု တွင်သည်)

## နေခွင့်တောင်း—လျှောက်လွှာ

သို့/

ပဓာနထေရ်

ကြခတ်ဝိုင်းကျောင်းတိုက်

ပဲခူးမြို့

လေးစားစွာ ခွင့်တောင်းပါသည်။

အကြောင်းမှာ။ ။..................ခရိုင်...............မြို့...............ရွာ...............ကျောင်းနေ ဆရာတော် ဖြစ်သော တပည့်တော်.......................၏ တပည့်ဖြစ်လျက် ...............ခရိုင်...............မြို့...............ရွာနေ အဘ...............အမိ...............တို့၏သားဖြစ်ပြီး...............ခုနှစ်၊...............လ...............ရက်နေ့တွင် ဘွား မြင်၍............ခုနှစ်၊........................လ............ရက်နေ့တွင် ရှင်/ရဟန်း အဖြစ်သို့ရောက်သောယခု-အသက်....နှစ် သိက္ခာ............ရှိ...............အား တပည့်ရင်းအဖြစ် အပ်နှံပါသည်။ လောကီ လောကုတ္တရာ နှစ်ဖြာ တိုးပွါး အကျိုးများစေရန် အရှင်မြတ်စိတ်တိုင်းကျ ပြုပြင်ပေးစေလိုပါသည်။

(က) ဤပုဂ္ဂိုလ်သည် နိုင်ငံတော်အစိုးရစာမေးပွဲ၌...............တန်းကိုအောင်မြင်ပြီး ဖြစ်ပါသည်။ သို့မဟုတ်...............တန်းကို...............ကြိမ် ဖြေဆိုဘူးသူ ဖြစ်ပါသည်။ သို့မဟုတ် ယခု သဒ္ဒါ...........စောင်၊သင်္ဂဟ...........ပိုင်း၊ ဘိက္ခုပါတိမောက်...........ဥဒ္ဒေသကို အာဂုံပြန်ဆို နိုင်လျက်၊ သဒ္ဒါ...........စောင်၊ သင်္ဂဟ...........ပိုင်း၊ ဘိက္ခုပါတိမောက်........ဥဒ္ဒေသတို့ကို အနက်သမ္ဗန်ပြနိုင်ပါသည်။

(ခ) ကန့်သတ်ပါးရေမပြည့်မီ လက်ခံရန် ညွှန်ကြားထားသော အင်္ဂါ(၅)ရပ်နှင့် ပြည့်စုံသည်။

(ဂ) သခေ်ပဥပဒေ (ဂ) ချက်ကို တိကျစွာလိုက်နာမည့်သူဖြစ်ပါသည်။

(ဃ) အရှင်မြတ်က တာဝန်မယူနိုင်တော့ပြီဟု အကြောင်းကြားသည့်အခါ အချိန်မရွေး ခေါ် ပါမည်။

(င) အရှင်မြတ်၏ စိတ်ချမ်းသာမှုနှင့် သာသနာပြုမှုကို အနှောက်အယှက် အတားအဆီး မဖြစ် စေရပါ။

အထက်ပါအတိုင်း

| | |
|---|---|
| လိုက်နာစေပါမည် | လိုက်နာပါမည် |
| အာမခံတတ်သူဆရာ၏ | အာမခံအပ်သူတပည့်၏ |
| ကိုယ်တိုင် လက်မှတ်။ | ကိုယ်တိုင်လက်မှတ်။ |
| ......... ......................... | ................................ |

| | |
|---|---|
| ထောက်ခံပါသည် | လက်ခံပါသည် |
| ကျောင်းဆောင်မှူး၏ | ပဓာနထေရ်၏ |
| ကိုယ်တိုင်လက်မှတ်။ | ကိုယ်တိုင်လက်မှတ်။ |
| ................................ | ................................ |

ပဓာနထေရ် လက်မှတ်ထိုးသောနေ့စွဲ




**ကြခတ်ဝိုင်း ဒုတိယဆရာတော် ဦးဥတ္တမ ပုံတော်**
(နောင် ကျိုက္ကစံပြောင်း၊ ကျိုက္ကစံဆရာတော်ဟု တွင်သည်)

ပဲခူးမြို့၊ ကြခတ်ဝိုင်းကျောင်းတိုက်
၁၃၃၄-ခုနှစ်၊ (၂၃) ကြိမ်မြောက်
သာသနမဟာပါကာရ ရာပြည့်ဓမ္မာရုံတော်သို့

**မဟာဘုံကထိန်အလှူ တရားတော်နာ ဘိတ်ကြားစာ**

---

အထူးရင်းနှီးလေးစားစွာ ဘိတ်ကြားအပ်ပါသည်၊

ကျွန်တော် ကျွန်မတို့သည် အပ္ပဇာတ်သိမ်း၍ အငြိမ်းသုခ အမတနိဗ္ဗူကို စိတ်ဖြူဖြူဖြင့် အမြန်ဆုံးရယူလိုကြပါသောကြောင့် ၁၃၃၄-ခုနှစ် သီတင်းကျွတ်လဆုတ် (၇) ရက် (၂၉-၁၀-၇၂) တနင်္ဂနွေနေ့တွင် ကြခတ်ဝိုင်းဆရာတော်အား အမှူးထား၍ ကျောင်းတိုက် ဝါဆိုသံဃာတော် အပါး (၂၄၀) တို့နှင့် ပင့်သံဃာ (၃၅) ပါး ၂-ရပ်ပေါင်း—

(က) သံဃာတော် (၂၇၅) ပါးဘို့အား နံနက်ဆွမ်း/နေ့ဆွမ်းဆက်ကပ်ခြင်း, ဓမ္မမိတ်ဆွေအပေါင်းတို့အားလည်း နံနက် (၇) နာရီမှစတင်၍ ထမင်းဖြင့် ညှော်ခံကျွေးမွေးခြင်းပြုကာ—

(ခ) နေ့ (၁၂) နာရီအချိန်တွင် ကြခတ်ဝိုင်းဓမ္မာစရိယအဖွဲ့ဝင် အရှင်နန္ဒဝံသာဘိဝံသနှင့် အရှင်နန္ဒသိရီဘိဝံသတို့၏ ကထိန်အကြောင်းအရာ မေးလျှောက်/ဖြေကြားခဏ်းတို့ကို ကြားနာကြ၍—

(ဂ) ၂၅-ခဏ်း ကထိန်သင်္ကန်းကြီးနှင့်၊ သံဃာတော် (၂၇၅) ပါးတို့အား ဟောင်ကောင်ပေါ်ပလင်သင်္ကန်းဒွိစုံ (၁)စုံစီ ဆက်ကပ်ကြလျက်—

(ဃ) ရန်ကုန်မြို့၊ကျိုက်ဝိုင်း နိုင်ငံကျော်မဟာဓမ္မကထိက ကျေးဇူးရှင် ဦးဣန္ဒကဆရာတော်ဘုရားကြီး၏ ကထိန်အကျိုးပြ၊ ဓမ္မဒေသနာကို သဒ္ဓမက္ခာနာယူ ကုသိုလ်ပွါးကြပြီး——

(င) ကွယ်လွန်သူမိဘ/ဘိုးဘွားစသည်တို့ ကောင်းရာသုဂတိ ရောက်ရှိလျက် ချမ်းသာသုခရကြောင်း ဆုတောင်းအမျှပေးဝေမှု ပြုလိုကြပါသောကြောင့်—

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ရာပြည့်ဓမ္မာရုံတော် "ဓမ္မာသနပလ္လင်ဦး" သို့ ရွှင်မြူးအားရကြိုးစားကြွလာတော်မူကြပါမည့်အကြောင်း လေးမြတ်စွာ ဘိတ်ကြားအပ်ပါသည်။

အစဉ်လေးစားလျက်
အမှုဆောင်အဖွဲ့
ကြခတ်ဝိုင်း သာသနာပြုအသင်းကြီး



၁၃၃၄-ခုနှစ် (၂၃) ကြိမ်မြောက်၊ ကြခတ်ဝိုင်းကျောင်းတိုက် မဟာဘုံကထိန်အခမ်းအနားဌ်
အရှင်နန္ဒဝံသာဘိဝံသနှင့် အရှင်နန္ဒသိရီဘိဝံသတို့ ကထိန်အကြောင်းအရာများ
မေးလျှောက်/ဖြေကြားခြင်းပြုနေကြပုံ။



ထို (၂၃) ကြိမ်မြောက် ကထိန်အခမ်းအနားဌ် နိုင်ငံကျော် မဟာဓမ္မကထိက
ကျိုက်ဝိုင်းဆရာတော်ဘုရားကြီး၏ ဩဝါဒကိုခံယူလျက် အသင်းနာယကကြီး ဦးထွန်းလှိုင်
ကထိန်သင်္ကန်းကြီး ကပ်လှူနေပုံ။

## နေ့စဉ် အထူးတာဝန်တခု

ကြခတ်ဝိုင်းကျောင်းတိုက်၌ စာချပုဂ္ဂိုလ်များမှတပါး သံဃာအားလုံး နေ့စဉ်အပါး (၂၀၀) ကျော် ဆွမ်းခံကြွကြသည်၊ (၂) တန်းခွဲ၍ကြွသည်၊ တောင်ဘက် (၁) တန်း၊ မြောက်ဘက် (၁) တန်းဖြစ်သည်၊ တောင်ဘက်အတန်းသည် ပန်းလှိုင်အထိရောက်သည်၊ မြောက်ဘက်အတန်းသည် ရွာသစ်အထိ ရောက်သည်၊ ဆွမ်းခံမကြွမီ အရှေ့အနောက် နတ်လမ်းအတွင်း၌ တောင်ဘက်ကြွမည့်အတန်းက တောင်ဘက်က မြောက်ဘက်ကြွမည့်အတန်းက မြောက်ဘက်က နေ့စဉ် သက်န်းရုံသပိတ်ပိုက်ပြီး အရှေ့ဘက် လှည့်၍ ချော့ရပ်ရသည်၊ ဆရာတော်ကိုယ်တိုင် အလယ်မှရပ်သည်။

ဤသို့ ရပ်ကြ၍ နေ့စဉ်အောက်ပါအတိုင်း ဆွမ်းခံကြွခါနီး မေတ္တာပို့ပြီး သစ္စာဆိုသွားကြရသည်၊ ၁၉၆၅-ခုနှစ်၊ မတ်လ (၁၀) ရက်တကြိမ် (၂၀) ရက်တကြိမ် တနှစ်တည်း တလတည်း မီးနှစ်ကြိမ် လောင်ခဲ့သည်၊ ထိုနှစ် ဧပြီလမှစ၍ အထက်ပါ အစီအစဉ်လုပ်ခဲ့သည်။

## မေတ္တာစေတနာနှင့် သစ္စာမြွက်အစီအစဉ်

အမှာကံ ဂေါစရဂါမေ စတုပစ္စယဒါယကာ စ
အာရက္ခဒေဝတာ—
အဝေရာ ဟောန္တု၊
အဗျာပဇ္ဇာ ဟောန္တု၊
အနီဃာ ဟောန္တု၊
သုခီ အတ္တာနံ ပရိဟရန္တု။

အမှာကံ၊ ငါတို့၏။ ဂေါစရဂါမေ၊ ဆွမ်းခံရွာ၌။ စတုပစ္စယဒါယကာ စ၊ လေးပါးသောပစ္စည်းတို့ဖြင့် ထောက်ပံ့ ကြကုန်သော ဒကာ ဒကာမအပေါင်းတို့သည်၎င်း။ အာရက္ခဒေဝတာ စ၊ အစောင့်အရှောက် ဖြစ်ကြကုန်သော နတ်မြတ် နတ်ကောင်း နတ်အပေါင်းတို့သည်၎င်း။ အဝေရာ၊ ရန်မရှိကြကုန်သည်။ ဟောန္တု၊ ဖြစ်ကြပါစေကုန်သတည်း။ အဗျာပဇ္ဇာ၊ ကြောင့်ကြ မရှိကြကုန်သည်။ ဟောန္တု၊ ဖြစ်ကြပါစေကုန်သတည်း။ အနီဃာ၊ ဆင်းရဲခြင်းမရှိကြကုန်သည်။ ဟောန္တု၊ ဖြစ်ကြပါစေကုန်သတည်း။ အတ္တာနံ၊ မိမိကိုယ်ကို။ သုခီ၊ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာရာရအောင်၊ ပရိဟရန္တု၊ ဆောင်ရွက်နိုင်ကြပါစေကုန်သတည်း။

ပဲခူးနဂရ လူများစွာ ချမ်းသာကြဘို့ရည်၊
ပြုပြုသမျှ မြတ်ပုည အမျှဝေကိုယ်စီ၊
ကြခတ်ဝိုင်း ဝိဟာ တို့သံဃာ မေတ္တာပို့ခဲ့ပြီ၊
မေတ္တာပို့မှု မှန်ကြောင်းခု သစ္စာပြုပါသည်၊
သစ္စာပြုပေး နေ့စဉ်အေး မီးဘေး ကင်းကိုယ်စီ။

ဤသို့ နေ့စဉ် အသံညီညီ ပီပီသသ ကိုယ်စီကိုယ်ငှ မေတ္တာနှင့်သစ္စာ ဖြန့်ဝေကြပြီးမှ ဆွမ်းခံကြွလေ့ ရှိကြပါသည်။

အစဉ်အလာကား နေ့စဉ် ၅-နာရီမှာ ကျောင်းတိုက်သံဃာအားလုံး ကျောင်းကြီးပေါ်၌ စုပေါင်း၍ ဝတ်တက်ကြရသည်။ ပရိတ်နှင့်မေတ္တာပို့များ နေ့စဉ် ရွတ်ဖတ် သရဇ္ဈာယ်ကြသည်။ သီးခြား အမျှဝေသည့်အပြင် အထက်ဘဝဂ် အောက်အဝီစိ နှံ့သိစကြဝဠာ ဖီလာထုတ်ချင်း အကြွင်းမရှိ ရှိရှိသမျှ သတ္တဝါ အပေါင်းတို့အားလည်း နေ့စဉ် အမျှဝေကြသည်။

၁၃၂၃-ခု၊ နယုန်လဆန်း (၆)ရက်နှင့်၊ (၇)ရက်
ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်၌

**မဟာနာယက မင်းကျောင်းဆရာတော်ဘုရားကြီး အမှူးရှိသော
ပဲခူးခရိုင် ဒွာရညဝါသီ ရွှေကျင်နိကာယ
ဂိုဏ်းလုံးကျွတ် ကျောင်းထိုင်ဆရာတော်များ သံဃာ့
အစည်းအဝေးကြီးမှ အောက်ပါ(၁၀) ချက်ကို သဘောတူဆုံးဖြတ် အတည်ပြုတော်မူကြသည်။**

၁။ ယာဝကီဝဉ္စ ဘိက္ခဝေ အဘိဏှံ သန္နိပါတာ သန္နိပါတဗဟုလာ ဘဝိဿန္တိ၊ ဝုဍ္ဎိယေဝ ဘိက္ခဝေ ဘိက္ခူနံ ပါဋိကင်္ခါ၊ နော ပရိဟာနိ....ဟူသော ပါဠိတော်မြွက်နှင့် အညီ သာသနာတော်၏ ကြီးပွါးခြင်းကိုရင်း ရွှေကျင်ဂိုဏ်း သံဃာ၏ ကြီးပွါးခြင်းကိုရင်း ရှေ့ရှု၍ (၄)လလျှင် တကြိမ်အားဖြင့် တနှစ်(၃) ကြိမ် စည်းဝေးတော်မူကြလျက် ကျောင်းထိုင်ဆရာတော်များ မပျက်မကွက် အစည်းအဝေးသို့ တက်ရောက်တော်မူကြရန် ဤသံဃာ့အစည်းအဝေးကြီးက ဆုံးဖြတ်တော်မူကြသည်။

(မှတ်ချက်) အကယ်၍ မကြွရောက်နိုင်လောက်အောင် မကျန်းမာခြင်းစသော အကြောင်းရှိခဲ့သော် အကြောင်းပြ ခွင့်ပန်လွှာနှင့်တကွ ဆန္ဒပေးလိုက်ရမည်။

၂။ ရှေးရှေးဆရာတော်ဘုရားကြီးများ သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့သည့်အတိုင်း ပဲခူးခရိုင် ဒွာရညဝါသီ ရွှေကျင်ဂိုဏ်း သံဃာနှင့် သက်ဆိုင်သော ဆုံးဖြတ်စရာကိစ္စအဝဝကို ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်၌သာ ဆုံးဖြတ်ကြရန် ဤသံဃာ့အစည်းအဝေးကြီးက ထပ်မံအတည်ပြုတော်မူကြသည်။

၃။ ရွှေကျင်ဂိုဏ်းဝင်ကျောင်းအဖြစ်ကိုရင်း ကျောင်းထိုင်ဘုန်းကြီးအဖြစ်ကိုရင်း အသိအမှတ် ပြုခြင်းသည် ဂိုဏ်းလုံးကျွတ်သံဃာ့အစည်းအဝေးကြီးကသာ စည်းကမ်းနှင့်အညီ မေးမြန်းစိစစ်၍ ရွှေကျင်ဂိုဏ်းဝင်ကျောင်း ကျောင်းထိုင်ဘုန်းကြီးအဖြစ်ဖြင့် အသိအမှတ်ပြုဂိုဏ်းတွင်း သွင်းကြရန် ဤသံဃာ့အစည်းအဝေးကြီးက စည်းဝေးဆုံးဖြတ်တော် မူကြသည်။

၄။ အစည်းအဝေးတိုင်း အစည်းအဝေးတိုင်း ရွှေကျင်ဂိုဏ်းကြီး ဥပဒေကျင့်ထုံးကို နာယူကြ၍ ရှေးရှေးဂဏပါလက ဂိုဏ်းစောင့်ဆရာတော်ဘုရားကြီးများ၏ ဂုဏ်ကျေးဇူးများကို ပြန်လည်ချီးကျူးတော် မူကြပြီးလျှင် လက်ရှိမဟာနာယကစသော ဆရာတော်ဘုရားကြီးများ၏ ဩဝါဒများကို ခံယူလိုက်နာတော်မူကြရန် ဤသံဃာ့အစည်းအဝေးကြီးက ထပ်မံဆုံးဖြတ် အတည်ပြုတော်မူကြသည်။

၅။ အစည်းအဝေးတိုင်း အစည်းဝေးတိုင်း မိမိတို့၏ မြို့နယ်ကျေးရွာ ကျောင်းတိုက်တို့၌ သာသနာရေး တိုးတက်မှု ဆုတ်ယုတ်မှုတို့ကို တင်ပြတော်မူကြရန် ဤသံဃာ့အစည်းအဝေးကြီးက စည်းဝေးဆုံးဖြတ်တော်မူကြသည်။

၆။ ပဲခူးခရိုင် ဒွာရညဝါသီရွှေကျင်ဂိုဏ်းကြီး၏ သန့်ရှင်းမှုနှင့် တိုးတက်မှုအတွက် ကောင်းမြတ်သော အကြံအစည်များကို မဟာနာယက အမှူးရှိသော ဆရာတော်များအား တင်ပြလျှောက်ထားရန် ဤသံဃာ့အစည်းအဝေးကြီးက ဆုံးဖြတ်အတည်ပြုတော်မူကြသည်။



ကြခတ်ဝိုင်းတတိယဆရာတော် ဦးကလျာဏပုံတော်
(နောင် ကျိုက္ခမီပြောင်း၊ ကျိုက္ခမီ ဆရာတော်ဟု တွင်သည်၊)

၇။ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်ဂိုဏ်းဝင် ကျောင်းထိုင်ဘုန်းတော်ကြီးများသည် သဒ္ဒါဝီရိယ ထက်သန်စွာဖြင့် ပရိယတ် ပဋိပတ် ဓူရ (၂) ပါးကို စွမ်းအားရှိသလောက် ကြိုးပမ်းအားထုတ်တော်မူကြရန် ဤသံဃာ့အစည်းအဝေးက ထပ်မံစည်းဝေး ဆုံးဖြတ်တော်မူကြသည်။

၈။ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်ဂိုဏ်းဝင် ကျောင်းထိုင်ဘုန်းတော်ကြီးများသည် ကျောင်းသို့ ရောက်လာသော သီတင်းသည် ရဟန်း သာမဏေ ကျောင်းသားများကို တလ လေးသီတင်း နေ့တရား ညဥ့်တရားများ ဟောပြောလေ့ရှိတော်မူကြရန် ဤသံဃာ့အစည်းအဝေးကြီးက ထပ်မံစည်းဝေး ဆုံးဖြတ်တော် မူကြသည်။

၉။ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်ဂိုဏ်းဝင် ကျောင်းထိုင်ဘုန်းတော်ကြီးများသည် ဂိုဏ်းသား အချင်းချင်း အကျိုးကိုလိုလားသော မေတ္တာစိတ်ဖြင့် တိုင်ပင်၍ သာသနာပြုတော်မူကြရန် ဤသံဃာ့ အစည်းအဝေးကြီးက စည်းဝေးဆုံးဖြတ်တော်မူကြသည်။

၁၀။ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်ဂိုဏ်းဝင် ကျောင်းထိုင်ဘုန်းတော်ကြီးများသည် ဝိနယ ကောသလ္လစာအုပ်များကို လက်ကိုင်ထား၍ ဒွေမာတိကာ ခုဒ္ဒသိက္ခာတို့ကို ရ-မိ နက်ထင် အချက်မြင်အောင် လေ့လာ ကခါအဋ္ဌကထာကို အနက်အဓိပ္ပါယ် သိမြင်အောင် အားထုတ်တော်မူကြရန် ဤသံဃာ့ အစည်းအဝေးကြီးက ထပ်မံစည်းဝေး ဆုံးဖြတ်တော်မူကြသည်။

ဂိုဏ်းဝန်ဆောင်
ကြခတ်ဝိုင်းကျောင်းတိုက်၊ ပဲခူးမြို့



ကြခတ်ဝိုင်း စတုတ္ထဆရာတော် ဦးသုမေဓ ပုံတော်
(ဦးဇောတိပါလသည် ပဌမဖြစ်သည်)

**ဆရာတော်ဘုရားကြီးများ ထပ်မံသတိပေးချက်**

၁၃၂၆-ခု၊ ဝါခေါင်လဆုတ် (၅) ရက် သောကြာနေ့၊

ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ကျောင်းထိုင်ပဓာနဆရာတော်များထံ—

၁။ တစုံတရာညွှန်ကြားချက်မရရှိဘဲ မည်သည့်နိုင်ငံရေးအဖွဲ့အစည်းတို့၌မဆို (က) အကြံပေးခြင်း (ခ) ထောက်ခံခြင်း (ဂ) ပါဝင်ခြင်း (ဃ) ဆောင်ရွက်ခြင်းစသည်တို့နှင့်—

၂။ တစုံတခုသော အကြောင်းကြောင့် ဖြစ်ပေါ်လာသော သံဃာတော်များနှင့် မသင့်တော် မလျော်ကန်သော ပါသာဒိကဂုဏ်ကို ထိခိုက်ပျက်ပြားစေတတ်သည့် ကိစ္စအဝဝတို့အတွက် (က) စည်းဝေးခြင်း (ခ) လှုပ်ရှားခြင်း (ဂ) ဆူပူခြင်း (ဃ) အားပေးခြင်း စသည်တို့ကို မပြုလုပ်ကြရန်။ ရွှေကျင်နိကာယ ပြည်လုံးကျွတ်သံဃာ့အစည်းအဝေးကြီးမှ ဆုံးဖြတ်ချက်ရှိပြီးဖြစ်သည်အားလျော်စွာ အထက်ပါအတိုင်း မိမိတို့ကျောင်းတိုက်ရှိ သံဃာတော်များအား ငြိမ်သက်ပိပြားမှုရှိအောင် အထူးကြပ်မတ်ထိန်းသိမ်းစေလိုကြောင်း ထပ်မံသတိပေး မေတ္တာရပ်တော်မူကြပါသည်။

ပါတိမောက္ခံ ဝိသောဓေန္တော၊ အပ္ပေဝ ဇီဝိတံ ဇဟေ။
ပညတ္တံ လောကနာထေန၊ န ဘိန္ဒေ သီလသံဝရံ။ (ဝိသုဒ္ဓိမဂ်)

ပါတိမောက္ခံ၊ ပါတိမောက္ခသံဝရသီလကို၊ ဝိသောဓေန္တော၊ စင်ကြယ်စေလို ပုဂ္ဂိုလ်များဖြင့် ရဟန်းရှင်သည်၊ ဇီဝိတံ အပိ၊ အသက်ကိုသော်လည်း။ ဇဟေ ဧဝ၊ စွန့်ရာသည်သာလျှင်တည်း၊ လောကနာထေန၊ လူသုံးပါးသခင် ဘုရားရှင်သည်။ ပညတ္တံ၊ ဟောကြားမြွက်ဖော် ပညတ်တော်မူအပ်သော။ သီလသံဝရံ၊ စောင့်ရှောက်လေအပ် ကျင့်ဝတ်သီလ သိက္ခာပုဒ်တော်မြတ်ကို။ န ဘိန္ဒေ၊ မချိုးမဖဲ့ မဖျက်မဆီးရာ။

သက်တော် (၈၉)နှစ်၊ မဟာနာယကမင်းကျောင်းဆရာတော် .... ဦးဇနိန္ဒ။
သက်တော် (၈၄) နှစ်၊ အနုနာယက ဆံတော်တွင်းကျောင်းဆရာတော်....ဦးကေလာသ။
သက်တော် (၈၄) နှစ်၊ အနုနာယက ဒီပါရုံကျောင်း ဆရာတော်....ဦးပညာသာမိ။

သာသနာတော်အကျိုး ဆတက်တမ်းပိုးတိုး၍ သည်ပိုးဆောင်ရွက်နိုင်ကြပါစေ

ဂိုဏ်းဝန်ဆောင်
အရညဝါသီရွှေကျင်နိကာယ၊ ပဲခူးခရိုင်

## ၁၃၃၀-ခုနှစ်
## (၉၈)ကြိမ်မြောက် ဝိနယစာပြန် သံဃာ့အစည်းအဝေးကြီးမှ
## ထပ်မံဖြည့်စွက် အတည်ပြုချက်စာတမ်း

၁၂၅၂-ခုနှစ်၊ တန်ဆောင်မုန်းလကွယ်နေ့၌ ပခုက္ကူမြို့ ကျောင်းနီကာယ ရှေးဆရာတော်ဘုရားကြီးများ အညီအညွတ်ပြုလုပ်ခဲ့ကြသည့် ကတိကဝတ်စာတမ်းမှ ထုတ်နုတ်၍ အောက်ပါ ကတိကဝတ်(၃)ခုတို့ကို စာပြန်သံဃာတိုးတက်များပြားစေလိုရေးအတွက် လေးလေးနက်နက် ထပ်မံထောက်ခံ အတည်ပြုကြပါသည်။

ထို့နောက်—

(၁) ကျောင်းထိုင်ပဓာနဆရာတော်များသည် မိမိတို့ကျောင်းရှိ တပည့်ရဟန်းများကို ဘိက္ခုပါတိမောက် နိဒါနုဒ္ဒေသ၊ ပါရာဇိကုဒ္ဒေသ စသည်ပြန်ဆိုနိုင်ရန် နှိုးဆော်တိုက်တွန်းလျက် (၂) ဝါဆိုသံဃာစာရင်းနှင့်တကွ စာပြန်စွမ်းနိုင်မည့် ပုဂ္ဂိုလ်စာရင်းများ ပို့ကြရန်ကို ၁၃၃၀-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ်(၇)ရက်နေ့ ပခုက္ကူမြို့ ကြခတ်ဝိုင်းကျောင်းတိုက် (၉၈)ကြိမ်မြောက် ဝိနည်းစာပြန်ပွဲ မဟာနာယက မင်းကျောင်းဆရာတော်ဘုရားကြီး အမှူးပြု၍ နာယက ကျောင်းထိုင်ပဓာန သံဃာ့အစည်းအဝေးကြီးမှ တညီတညွတ်တည်း ဖြည့်စွက် ကတိကဝတ် ပြုကြသည်။

### ထပ်မံအတည်ပြုသော ကတိကဝတ်(၃)ခု

၁။ ဒွေမာတိကာ ခုဒ္ဒသိက္ခာစသော ဝိနည်းတော်မြတ်ကို နှစ်စဉ်မပြတ် ပြန်ဆိုတော်မူကြသော သံဃာတော်ကြီးငယ်၊ မိမိကျောင်း၌ ပဓာနအားဖြင့် ကျောင်းသီး ကျောင်းခြား ကျောင်းစား ကျောင်းထိုင်ဖြစ်သော ပုဂ္ဂိုလ်တို့သည် နှစ်စဉ်မပြတ် တန်ဆောင်မုန်းလပြည့်ကျော်(၂)ရက်နေ့ နေ့ဆွမ်းမှီ မိမိတို့အညီအညွတ် ပြန်ဆိုနေကြရာဖြစ်သော ကြခတ်ဝိုင်းကျောင်းတိုက်သို့ မိမိတို့ကိုယ်တိုင်လာရောက်၍ ၎င်းဝိနည်း ပညတ် အာဏာတော်မြတ် ဒွေမာတိကာ ပါဠိအနက်စသည်တို့ကို ပြန်ဆိုကြစတမ်း။

၂။ တစ်စုံတရာ နာဖျားမကျန်း မချမ်းသာခဲ့လျှင်၎င်း အကြီးအကျယ် ပြောပလောက်အောင် အကြောင်းထူးကိစ္စရှိခဲ့လျှင်၎င်း အကြောင်းအားလျော်စွာ ကိုယ်တိုင်လာရောက်၍ဖြစ်စေ တပည့်လက်သားကို စေလွှတ်၍ဖြစ်စေ စာလွှာရေးသား၍ဖြစ်စေ မည်သည့်–လ–နေ့–သို့ ကျရောက်သည့်ကာလ ပြန်ဆိုပါမည်ဟူ၍ ဂိုဏ်းဆရာ မထေရ်ကြီးများထံ တောင်းပန်ကြစတမ်း။ နောင် ပြန်ဆိုရမည့်နေ့ရက်စေ့၍ ကိုယ်တိုင်မလာ, ကိုယ်စားလှယ်လည်းမလွှတ်, စာလွှာလည်းမရောက် ဖောက်ပြန်လစ်ဟင်း ချွတ်ယွင်းလွဲသွေခဲ့လျှင်(၁၀)ထက် မပိုသော ရေဒဏ်ကိုထမ်း၍ သံဃာတော်မြတ်တို့အား တောင်းပန် ကန်တော့ကြစတမ်း။

၃။ မိမိတို့ ကျောင်းတိုက်ရှိ (၂)ဝါကစ၍ ဝါရပြီးသော ဦးပဉ္စင်းများကိုလည်း အယုတ်ဆုံး ဘိက္ခုပါတိမောက်ကို လာရောက် ပြန်ဆိုစေကြရမည်၊ အကြောင်းထူးရှိခဲ့လျှင် အကြောင်းအားလျော်စွာ

သံဃာတော်များ စည်းဝေးရာ၌ဖြစ်စေ၊ ဂိုဏ်းဆရာမထေရ်ကြီးများထံ၌ဖြစ်စေ အလေးအစား ပြုသော အားဖြင့် လျှောက်ထားကြစတမ်း။

ဂိုဏ်းဝန်ဆောင်
ပဲခူး အရည္ဂါသီ ရွှေကျင်နိကာယ
၁၃၃၀-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ်(၇)ရက်။

ပဌမကဏ္ဍ ပြီး၏။

# ဒုတိယကဏ္ဍ

၁၃၃၁-ခုနှစ်၊ တော်သလင်းလဆန်း (၃)ရက်၊ (၁၄-၉-၆၉) တနင်္ဂနွေနေ့
နာယကဆရာတော်ဘုရားကြီးများ သံဃာ့အစည်းအဝေး၌
**စာပြန်ရာပြည့်နှင့် ဝိနည်းပိဋကတ် ထွင့်အမြတ် ပူဇော်ပွဲကြီး**
ပြုလုပ်သင့်ကြောင်း ဆုံးဖြတ်ပါသဖြင့်
ကြခတ်ဝိုင်း သာသနာပြုအသင်းကြီး အမှုဆောင်လူကြီးများက
**သာသနာ့ဒါယကာ ခံယူပါကြောင်း**
လျှောက်ထားသည်ကို နာယကဆရာတော်ဘုရားကြီးများက
သာခု (၃)ကြိမ်
ခေါ်တော်မူကြလျက် ဝမ်းမြောက်စွာခွင့်ပြုတော်မူကြပါသည်။



၁၃၃၁-ခုနှစ်၊ တော်သလင်းလဆန်း(၃)ရက်နေ့
၁၃၃၁-ခုနှစ်၊ တော်သလင်းလဆန်း(၃)ရက် (၁၄-၉-၆၉) တနင်္ဂနွေနေ့ သံဃာရောလူပါ ၂-ရပ်ပေါင်း
အစည်းအဝေးကြီး၌ ရာပြည့်ပူဇော်ပွဲကြီး လုပ်သင့်,မသင့် ဝန်ဆောင်ဆရာတော် လျှောက်ထားနေပုံ



ဝန်ဆောင်ဆရာတော်၏ လျှောက်ထားချက်ကို နာယကဆရာတော်ကြီးများနှင့်
ကျောင်းထိုင်ဆရာတော်များ စဉ်းစားဝေဘန်နေကြပုံ




ရာပြည့်ပူဇော်ပွဲကြီး လုပ်သင့်, မလုပ်သင့် ကျယ်ပြန့်သော သံဃာရေ့လူပါ ၂-ရပ်ပေါင်း
အစည်းအဝေးကြီး၌ ဆွမ်းကွမ်းနှင့် အချိုပွဲ အဖျော်ယမကာပါ အပြည့်အစုံ တာဝန်ယူ
ဆက်ကပ်လှူဒါန်းကြသော ကျောင်းအမများအဖွဲ့။

## ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်
## သာသနာပြုအသင်း အမှုဆောင်လူကြီးများ

| | | | | |
|---|---|---|---|---|
| ၁။ | ဦးဘသိန်း | ဥက္ကဋ္ဌ | အငြိမ်းစား (မီးရထားစာတိုက်) | ညောင်ဝိုင်း |
| ၂။ | ဦးရွှေကျောင် | အတွင်းရေးမှူး | အငြိမ်းစား (ကျောင်းဆရာ) | ။ |
| ၃။ | ဦးသူတော် | အမှုဆောင် | သဟာဆေ့ပုံနှိပ်တိုက်ပိုင် | ။ |
| ၄။ | ဦးလှထွန်း | ။ | အငြိမ်းစား (ကျောင်းဆရာ) | ။ |
| ၅။ | ဦးအေးမောင် | ။ | အငြိမ်းစား (အမြှတ်ခွန်ဝန်ထောက်) | ။ |
| ၆။ | ဦးပု | ။ | ကုန်သည် | ။ |
| ၇။ | ဦးဘဇံ | ။ | အပ်ချုပ်ဆိုင် | ။ |
| ၈။ | ဦးတိုး | ။ | ကုန်သည် | ။ |
| ၉။ | ဦးဘသန်းရှိ | ။ | အာမခံကိုယ်စားလှယ် | ။ |
| ၁၀။ | ဦးအုန်း | ။ | ရတနာကုန်သည် | ။ |
| ၁၁။ | ဦးသိန်း | ။ | အထည်ကုန်သည် | ။ |
| ၁၂။ | ဦးစိုးသိန်း | ။ | ကျောင်းဆရာ | ။ |
| ၁၃။ | ဦးလူလေး | ။ | ဆေးဆရာ | ။ |
| ၁၄။ | ဦးချစ် | ။ | ကားပိုင်ရှင် | ။ |
| ၁၅။ | ဦးကျော်စိန် | ။ | ဒိုင်နမိုပြင်ဆရာ | ။ |
| ၁၆။ | ဦးအေးမောင် | ။ | ခိုဖြူဆေးလိပ်ရုံပိုင်ရှင် | ။ |
| ၁၇။ | ဦးစိန်မောင် | ။ | ကားပိုင်ရှင် | ။ |
| ၁၈။ | ဦးသန်းမောင် | ။ | ရတနာကုန်သည် | ။ |
| ၁၉။ | ဦးအေး | ။ | ဝါးကုန်သည် | ။ |
| ၂၀။ | ဦးအေးမောင် | ။ | ကုန်သည် | ။ |
| ၂၁။ | ဦးရွှေဂဲ | ဒု–ဥက္ကဋ္ဌ | ယက်ကန်းအလုပ်ရုံပိုင်ရှင် | သွန်းဘုရား |
| ၂၂။ | ဦးစံရင်လေး | အတွင်းရေးမှူး | လယ်ယာလုပ် | ။ |
| ၂၃။ | ဦးစံရင်ကြီး | အဖွဲ့ဝင် | ဘိနပ်လုပ်ငန်းပိုင်ရှင် | ။ |
| ၂၄။ | ဦးသန်းဖေ | ။ | ယက်ကန်းအလုပ်ရုံပိုင်ရှင် | ။ |
| ၂၅။ | ဦးထွန်းလှိုင် | ။ | လယ်ယာလုပ် | ။ |
| ၂၆။ | ဦးအောင်ရွှေ | ။ | ။ | ။ |
| ၂၇။ | ဦးဟုတ်ကြိုင် | ။ | ဂျိကာဆေးလိပ်ရုံပိုင်ရှင် | ။ |
| ၂၈။ | ဦးသန်း | ။ | ကားပိုင်ရှင် | ။ |
| ၂၉။ | ဦးအောင်စိန် | ။ | သစ်စက်ပိုင်ရှင် | ။ |
| ၃၀။ | ဦးကျော်လှိုင် | ။ | ကုန်စိမ်းပွဲစား | ။ |
| ၃၁။ | ဦးခင် | ။ | အငြိမ်းစား(တောအုပ်) | ။ |



ထိုနေ့ (၁၂)နာရီ သာသနာ့ ဗိမာန်ပေါ်၌ လှူဒကာ/ ဒကာမ များအား ငါးပါးသီလခံယူစေပြီး ရာပြည့်ပူဇော်ပွဲကြီး လုပ်မည်ဖြစ်ကြောင်း မဟာ နာယက ဥက္ကံ ဆရာတော် ဘုရားကြီး ကျေညာ မိန့်ကြားနေပုံ။



အစီအစဉ်အရ ၁၃၃၁-ခုနှစ် (၉၉) ကြိမ်မြောက် စာပြန်ပွဲအတွင်း လဆုတ် (၄) ရက်နေ့ မော်ကွန်းကျောက်စာကို ရန်ကုန်မြို့မှသယ်ယူပြီး ပဲခူးမြို့ထည်းသို့ လှည့်လည်လာပုံ။

| | | | | |
|---|---|---|---|---|
| ၃၂။ | ဦးဘနီ | အဖွဲ့ဝင် | စာရေး(နယ်သစ်ဖွံ့ဖြိုးရေး) | သွန်းဘုရား |
| ၃၃။ | ဦးမောင်လှိုင် | ။ | ကုန်စိမ်းပွဲစား | ။ |
| ၃၄။ | ဦးကျော်စိန် | ။ | အငြိမ်းစား (ဆည်မြောင်းဌာန) | ။ |
| ၃၅။ | ဦးညွန့် | ။ | ရတနာကုန်သည် | ။ |
| ၃၆။ | ဦးဟံစိန် | ။ | ကုန်သွယ်ရေးအမှတ်(၁) | ။ |
| ၃၇။ | ဦးမောင်အို | နာယက | ကုန်သည် | ကျောက်ကြီးစု |
| ၃၈။ | ဦးအုန်းကြည် | အတွင်းရေးမှူး | ကျောင်းဆရာ | ။ |
| ၃၉။ | ဦးစိန်လွင် | အဖွဲ့ဝင် | ကုန်သည် | ။ |
| ၄၀။ | ဦးချစ်အေး | ။ | ကျောင်းဆရာ | ။ |
| ၄၁။ | ဦးအုန်း | ။ | သံဖြူဆရာ | ။ |
| ၄၂။ | ဦးစိုးကြည် | ။ | လျှပ်စစ်စာရေး | ။ |
| ၄၃။ | ဦးစီတင် | ။ | ကုန်သည် | ။ |
| ၄၄။ | ဦးကျော်လွင် | ။ | ကုန်သည် | ။ |
| ၄၅။ | ဦးညဏ် | ။ | ရ၊လ၊က-မှူး | ။ |
| ၄၆။ | ဦးတင်ဦး | ။ | ဘဏ်စာရေး | ။ |
| ၄၇။ | ဦးမောင်ကျင် | ။ | စက်ချုပ် | ။ |
| ၄၈။ | ဦးကျော်သိန်း | ။ | စက်ပြင်ဆရာ | ။ |
| ၄၉။ | ဦးမြမောင် | ။ | သမားတော် | ။ |
| ၅၀။ | ဦးထွန်းကြည် | ။ | နာရီပြင်ဆရာ | ။ |
| ၅၁။ | ဦးသိန်းလွင် | ။ | ချယ်ရီပန်းဆေးလိပ်ရုံပိုင်ရှင် | ။ |
| ၅၂။ | ဦးဘအေး | ။ | ကုန်သည် | ။ |
| ၅၃။ | ဦးရွှေဒွန်း | ။ | ကုန်သည် | ။ |
| ၅၄။ | ဦးထွန်းလှိုင် | နာယက | ဥက္ကဋ္ဌ၊ ပိဋကပါတ်ဆွမ်းလောင်း | ပန်းလှိုင် |
| ၅၅။ | ဦးထွန်းစိန် | အမှုဆောင် | ဒု-ဥက္ကဋ္ဌ၊ ။ | ။ |
| ၅၆။ | ဦးစိန်မောင် | အတွင်းရေးမှူး | အတွင်းရေးမှူး ။ | ။ |
| ၅၇၊ | ဦးချစ်မောင် | အဖွဲ့ဝင် | အငြိမ်းစား (သံဂဟေအလုပ်ဌာန) | ။ |
| ၅၈။ | ဦးလှ | ။ | စာရေးကြီး (သစ်တောရုံး) | ။ |
| ၅၉။ | ဦးသောင်းရွှေ | ။ | ဗလစာပုံနှိပ်တိုက် | ။ |
| ၆၀။ | ဦးစိုးသိန်း | ။ | ကုန်သည် | ။ |
| ၆၁။ | ဦးစံ | ။ | စာရေးကြီး (အလုပ်သမားရုံး) | ။ |
| ၆၂။ | ဦးအောင်မြင့် | ။ | စာရေး (ကုန်သွယ်ရေး) | ။ |
| ၆၃။ | ဦးမြို့ | ။ | ကုန်သည် | ။ |
| ၆၄။ | ဦးတင်ဦး | ။ | ဟံသာဝတီချစ်ပုံနှိပ်တိုက် | ။ |
| ၆၅။ | ဦးဘဌေး | ။ | စက်မှုလုပ်ငန်း | ။ |
| ၆၆။ | ဦးထွန်းစိန် | ။ | ရုပ်ရှင်ကံထရိုက်တာ | ။ |



အနှစ်(၁၀၀)ပြည့်စာပြန်ပွဲကြီးအတွက် မော်ကွန်းကျောက်စာတင် အောင်မြင်ကြောင်း သြဘာစာကို ကျိုက်ဝိုင်း ဦးဣန္ဒက (အဂ္ဂမဟာဓမ္မကထိက) ဆရာတော် ဘုရားကြီး ဖတ်ကြားချီးမြှင့်နေပုံ။



ထိုသြဘာစာကို စကြဝဠာအပေါင်း တိုက်တသောင်းမှ ခညောင်းရောက်လာ နတ်ပြဟ္မာတို့ စောင့်စားနာယူနေကြပုံ။

ကြခတ်ဝိုင်း သာသနာပြု အသင်းမှ
ရာပြည့်ပူဇော်ပွဲကြီးအမှီ ဓမ္မာရုံကြီးတလုံး
အမြန်ဆုံး ကြိုးစားတည်ဆောက်ရန် တာဝန်ခံအဖွဲ့နှင့် အဖွဲ့ဝင်များကို
အောက်ပါအတိုင်း ဖွဲ့စည်းကြပါသည်။

## (၁) ဘဏ္ဍာရေးဆပ်ကော်မီတီ အဖွဲ့ဝင်များ၊

| | | |
|---|---|---|
| ၁။ | ဦးရွှေဂဲ | ဥက္ကဋ္ဌ |
| ၂။ | ဦးသန်း | ဒု-ဥက္ကဋ္ဌ |
| ၃။ | ဦးစံရင်လေး | အတွင်းရေးမှူး |
| ၄။ | ဦးစံရင်ကြီး | ဘဏ္ဍာရေးမှူး |
| ၅။ | ဦးအေးမောင်(၁၀) | အဖွဲ့ဝင် |
| ၆။ | ဦးသူတော် | ။ |
| ၇။ | ဦးဘသန်းရီ | ။ |
| ၈။ | ဦးအောင်ရွှေ | ။ |
| ၉။ | ဦးညွန့် | ။ |
| ၁၀။ | ဦးချစ်မောင် | ။ |
| ၁၁။ | ဦးရွှေကျင် | ။ |
| ၁၂။ | ဦးချစ် | အဖွဲ့ဝင် |
| ၁၃။ | ဦးအောင်စိန် | ။ |
| ၁၄။ | ဦးစိန်မောင် | ။ |
| ၁၅။ | ဦးစိန်လွင် | ။ |
| ၁၆။ | ဦးထွန်းလှိုင် | ။ |
| ၁၇။ | ဦးပု | ။ |
| ၁၈။ | ဦးလှထွန်း | ။ |
| ၁၉။ | ဦးတိုး | ။ |
| ၂၀။ | ဦးအုန်းကြည် | ။ |
| ၂၁။ | ဦးသိန်းလွင် | ။ |

## (၂) ပစ္စည်းဝယ်ယူရေးဆပ်ကော်မီတီ အဖွဲ့ဝင်များ၊

| | | |
|---|---|---|
| ၁။ | ဦးစိန်မောင် | ဥက္ကဋ္ဌ |
| ၂။ | ဦးသိန်းလွင် | အတွင်းရေးမှူး |
| ၃။ | ဦးစံရင်လေး | အဖွဲ့ဝင် |
| ၄။ | ဦးအေးမောင် (၇) | ။ |
| ၅။ | ဦးလူလေး | ။ |
| ၆။ | ဦးသန်း | အဖွဲ့ဝင် |
| ၇။ | ဦးချစ် | ။ |
| ၈။ | ဦးအောင်စိန် | ။ |
| ၉။ | ဦးဘသန်းရီ | ။ |
| ၁၀။ | ဦးရွှေကျင် | ။ |

## (၃) ဆောက်လုပ်ရေး ဆပ်ကော်မီတီအဖွဲ့ဝင်များ

| | | |
|---|---|---|
| ၁။ | ဦးဘသိန်း | ဥက္ကဋ္ဌ |
| ၂။ | ဦးလူလေး | အတွင်းရေးမှူး |
| ၃။ | ဦးထွန်းလှိုင် | အဖွဲ့ဝင် |
| ၄။ | ဦးပု | ။ |
| ၅။ | ဦးအောင်စိန် | ။ |
| ၆။ | ဦးသန်းဖေ | ။ |
| ၇။ | ဦးစိန်မောင် (၈) | ။ |
| ၈။ | ဦးဘထွန်း | အဖွဲ့ဝင် |
| ၉။ | ဦးရွှေဂဲ | ။ |
| ၁၀။ | ဦးမောင်အို | ။ |
| ၁၁။ | ဦးမြမောင် | ။ |
| ၁၂။ | ဦးညွန့် | ။ |
| ၁၃။ | ဦးအုန်းကြည် | ။ |



ရန်ကုန်မြို့မှ သယ်ယူလာသော ဆရာပြည့်မော်ကွန်းကျောက်စာတင် ရထားပျံသည် ဓမ္မာရုံကြီး တည်ဆောက်မည့်နေရာသို့ ဆိုက်ရောက်လာပုံ။



ဆရာပြည့်မော်ကွန်းကျောက်စာ ခေတ္တရပ်နားသော ယာယီဓမ္မာရုံပေါ်မှ ကျိုက်ဝိုင်းဆရာတော်ကြီးမှူးပြီး သယ်ယူလာကြပုံ။

### (၄) ပြန်ကြားရေးနှင့် ဝါဒဖြန့်ချိရေး ဆပ်ကော်မီတီအဖွဲ့ဝင်များ

| | | | |
|---|---|---|---|
| ၁။ ဦးစိန်မောင် (ဂ) | ဥက္ကဋ္ဌ | ၅။ ဦးအုန်း | အဖွဲ့ဝင် |
| ၂။ ဦးမောင်လှိုင် | အတွင်းရေးမှူး | ၆။ ဦးထွန်းစိန် | ။ |
| ၃။ ဦးသိန်း | ဒု-အတွင်းရေးမှူး | ၇။ ဦးရွှေဒွန်း | ။ |
| ၄။ ဦးဘဇံ | အဖွဲ့ဝင် | | |

### (၅) ဓမ္မာရုံကြီး စာရင်းဇယား ပြုစုရေး ဆပ်ကော်မီတီအဖွဲ့ဝင်များ

| | |
|---|---|
| ၁။ ဦးဘနီ | စာရေး (နယ်သစ်ဖွံ့ဖြိုးရေးရုံး) |
| ၂။ ဦးခင် | အငြိမ်းစား (တောအုပ်) |
| ၃။ ဦးလှ | စာရေးကြီး (သစ်တောရုံး) |

ထို ၁၃၃၁-ခုနှစ်၊ တော်သလင်းလဆန်း (၃)ရက် (၁၄-၉-၆၉) တနင်္ဂနွေနေ့ (တာဝန်ယူပြီးသည်) မှစ၍ (က) ဓမ္မာရုံအဟောင်းကိုဖျက်ခြင်း၊ (ခ) အသစ်ကို အချိန်မှီပြီးအောင် ဆောက်ခြင်းစသော - ကိစ္စအဝဝအတွက် အသင်းလူကြီးများ ရက်ဆက်ကြိုးစားနေကြရပေပြီ။



၉၉-ကြိမ်မြောက် စာပြန်ပွဲ၌ အကြိုဓမ္မာရုံကို ဤသို့ မြင်ရသည်။
ယခု ရာပြည့်ဓမ္မာရုံကြီးနေရာတွင် ဖြစ်သည်။



၁၀၀-ကြိမ်မြောက် စာပြန်ပွဲ၌ ရာပြည့်ဓမ္မာရုံကို ဤသို့ မြင်ရသည်။
အနံပေ (၁၀၀)၊ အလျားပေ (၁၅၀) ရှိသည်။

နိုင်ငံကျော် အဂ္ဂမဟာ ဓမ္မကထိက ကျေးဇူးရှင် ကျိုက်ဝိုင်း ဦးဣန္ဒကဆရာတော်
ရေးသားဘတ်ကြားအပ်သော ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်
ဝိနယစာပြန် နှစ် (၁၀၀)ပြည့် အထိမ်းအမှတ် သာသနမဟာပါကာရ ဝိနယုဿဝ ရာပြည့်ဓမ္မာရုံကြီး
အုဌ်မြစ်ချ ကျောက်စာတိုင် စိုက်ထူခြင်း

## အောင် မြင် ကြောင်း ဩ ဘာ စာ

သိဒ္ဓိရတ္ထု။ ။ကုန်းဘောင်ဝံသ၊ ဒသမကဗ္ဗာပိန်၊ အာဟိန်ဓမ္မရာဇ်၊ နေမြစ်နွယ်လာ၊ သာသနာပြုဘုရင်၊ ပဉ္စမသံဂါယနာတင်၊ ဂုဏ်အင်ထင်ရှား၊ မင်းတရားလျှင်၊ တရားဆယ်ဆင့်၊ ကဒဏ်ဖွင့်၍၊ ချီးပင့်အုပ်စိုးရာ၊ ကောဇာသက္ကရာဇ် ၁၂၂၁-ခုမှ၊ ဒွါဒသမမြောက်အကျ၊ ၁၂၃၃-ခု၊ ရတုသရဒ၊ တန်ဆောင်မုန်းလအခါတွင်၊ ရာမညရဋ္ဌ၊ ဟံသာဝတီမဏ္ဍလ၏၊ ပဘာဝမည်ဦး၊ မြို့ပဲခူး၌၊ ကွန့်မြူးယှက်ဖြာ၊ သာသနာဝယ်၊ ရောင်ဝါနေမျှ၊ ထင်ရှားလှသော၊ ကေစာရီ၊ ဝါသီအရည၊ တောရပျော်မှီး၊ ဦးသီလ အရှင်မြတ်ဘုန်းတော်ကြီးသည်၊ အနာဂတ်သာသနာ၊ မြှော်ထောက်ကာဖြင့်၊ သာသနအာယု၊ ရှည်ကြာမှုတွင်၊ ဥဇုဘူတ၊ ရင်းမြစ်ကျသော၊ ဝိနယမည်တွင်၊ စာပြန်ပွဲသဘင်ကို၊ စတင်သတ်မှတ်တော်မူခဲ့လေသည်။

ထိုဝိနယပွဲသဘင်ကို၊ စတင်သတ်မှတ်သော၊ ၁၂၃၃-ခု၊ ကောဇာခေတ်ချိန်အခါကား မဟာဒဂုံစေတီတော်ကြီးအား မင်းတုန်းဘုရင်မင်းကြီးက-ထီးတော်အသစ်-တင်လှူတော်မူခြင်း၊ ပဲခူးတောရဂိုဏ်းဝိနည်းစာပြန်ပွဲကြီးကို၊ (ကြခတ်ဝိုင်းကျောင်းတိုက်အတွင်း၌) စတင်ကျင်းပခြင်း၊ ကျိုက္ကစံဆရာတော်အလောင်း ရဟန်းအဖြစ်သို့ရောက်ခြင်းဟူသော ကောင်းခြင်းသုံးဖြာလက္ခဏာနှင့် ညီညာတိုက်ဆိုင်ခဲ့သော အမိ ပတိနှစ်ထူးနှစ်မြတ်ဖြစ်ပါသတည်း။

ဓမ္မုဿဝ၊ ဝိနယမည်တွင်၊ စာပြန်ပွဲ ဤသဘင်ကား-ဘုန်းအင်ကြီးလှသော၊ ဦးသီလအရှင်မြတ်၏ အာနုဘာဝသတ္တိကြောင့်၊ စွမ်းငြိမထင်၊ မိုးကောင်းကင်ဝယ်၊ တိမ်စင်သော လအလား၊ ယနေ့တိုင်ခန့်ညား၍၊ မားမားစွင့်စွင့်၊ ကြွားကြွားတင့်လျက်ရှိပေသည်။ ဤသို့လျှင် အနှစ်တရာတိုင်တိုင်-ကျောက်စာဝိုင်ကဲ့သို့၊ မယိုင်မနွဲ့-တည်တံ့ခဲ့သည်မှာ၊ ထေရာနုထေရ၊ ပရမ္ပရအဆက်ဆက် ဖြစ်တော်မူကြသော၊ ၁။ ဇိုင်းဂနိုင်းကြီးဆရာတော်၊ ၂။ လိပ်ပြာကန်ဆရာတော်၊ ၃။ ရွှေအောင်ရွှေးဆရာတော်၊ ၄။ ကျိုက္ကစံဆရာတော်၊ ၅။ ပုဗ္ဗာရုံဆရာတော် စသည်တို့နှင့် ယခု-၆။ ဒက္ခိဏာသာခါဆရာတော်၊ ၇။ ဥက္ကံဆရာတော်၊ ၈။ ရွှေကျင်ဆရာတော်၊ ၉။ စမ်းကြီးဆရာတော်၊ ၁၀။ ကလျာဏီဆရာတော် အစရှိသော-သာသန ပါလ သာသန မာမက-ဆရာတော်များ၏ ကြီးမားထက်သန်သော သာသနာပြုသဒ္ဓါဓာတ်ဖြင့် အခါမပြတ် ထိန်းသိမ်းစောင့်ရှောက်တော်မူခဲ့ကြခြင်းကြောင့် ဖြစ်ပါသည်။

ဤသို့လျှင် ဝိနယသဘင်တို့၏မိခင်ဟု ဆိုလောက်အောင် သက်ထောက်ရှည်ကြာခဲ့သော ဤဝိနယပွဲသဘင်၊ စတင်ကျင်းပခဲ့ရာ၊ ဟံသာဝတီမြို့မြတ်-ကြခတ်ဝိုင်း ကျောင်းတိုက်အတွင်း - ပင်ရင်းဌာန၌၊ ထာဝရအထိမ်းအမှတ်အဖြစ်ဖြင့် ရတနာနှင့် တွက်ကိန်း ခြောက်သိန်းကျော်တန် (ရာပြည့်) ဓမ္မာရုံကြီးတည်ဆောက်ရေးအတွက်၊ ပန္နက်ချရန်နှင့်၊ သာသနာတော်နှစ်၊ ငါးထောင်ခေတ်တိုင်တိုင်-မယိုင်မလဲ၊ ခိုင်မြဲတည်တံ့ အရှည်ခန့်စေဘို့၊ ကြည်သန့်သော ကျောက်ပြားတွင်၊ နောက်သားတို့မှတ်ဘွယ်၊ သမိုင်းသစ်ဟု၊ အနှစ်စုကို၊ ဆစ်ဖူကာ ရေးချယ်၍၊ ရွှေးနှယ်မယွင်း ဓမ္မာသောကမင်းကဲ့သို့၊ စိုက်ထူခြင်းပြုရန်



ကြခတ်ဝိုင်း သာသနာပြု အသင်းဥက္ကဋ္ဌကြီးကိုယ်တိုင် အောင်ဆုသြဘာ
မင်္ဂလာခရုသင်းမှုတ်ပြီး အနုမောဒနာပြုနေပုံ။



ရာပြည့်ဓမ္မာရုံကြီးကို တည်ဆောက်ပေးမည့် ပန်းရန်ဆရာကြီး ဦးသန်းကျော်ကိုယ်တိုင်
ကျောက်စာကပ်ပေးနေပုံ။

ရည်သန်ရင်း အာသီသ-အသီးသီး ရှိကြသည့်အတိုင်း (၁၃၃၁-ခု၊ တန်ဆောင်မုန်း လဆုတ်(၄)ရက်၊ နံနက် ၉-နာရီ) ဤအခါတွင် ညီညာဖျဖျ ဓမ္မာရုံကြီးပန္နက်ချ၍ သေလတ္ထမ္ဘ-ဝေါဟာရခန့်ခိုင်၊ ကျောက်စာတိုင်စိုက်ထူ ရှင်လူမကွာ အင်္ဂါရ-အနင်္ဂါရ ရှိသမျှမကြွင်း ဆောင်ရွက်ခြင်းဖြင့် အောင်ခြင်း ဇေယျာ အောင်နဝင်းဝေဖြာလျက် သေအချာပြီးစီး ထမြောက်ပြီး ဖြစ်ပါသတည်း။

မဟီ မေရု သသင္ကောဝ၊ နိဿယော ဇနယံ သဒါ။
ပါကဋံ တံ တထာ ဌာတိ၊ စက္ကန္တံ ကန္တ မောသဋ္ဌာ။

ဩသဋ္ဌာ၊ သတ္တဝါတို့၏ သက်ရာဖြစ်သော။ မဟီ၊ ယူဇနာ နှစ်သိန်းလေးသောင်းရှိသော မြေကြီး သည်။ သဒါ၊ ဝိဝဋ္ဋဋ္ဌာယီ အသင်္ချေယျကပ်ပတ်လုံး။ နိဿယာ၊ သတ္တဝါတို့၏ မှီရာသည်။ ဟုတွာ၊ ဖြစ်၍။ ကန္တံ၊ သတ္တဝါတို့၏ နှစ်သက်ခြင်းကို။ ဝါ၊ ချမ်းသာခြင်းကို။ ဇနယံ၊ ဖြစ်စေလျက်။ ပါကဋံ၊ ထင်ရှားစွာ။ ဌာတိ ဣဝ၊ တည်သကဲ့သို့ရင်း။ ဩသဋ္ဌော၊ သတ္တဝါတို့၏ သက်ရာဖြစ်သော။ မေရု၊ ရှစ်သောင်းလေးထောင် အစောက်ဆောင်သော မြင်းမိုရ်တောင်မင်းသည်။ သဒါ၊ ဝိဝဋ္ဋဋ္ဌာယီ အသင်္ချေယျ ကပ်ပတ်လုံး။ နိဿယော၊ သတ္တဝါတို့၏ တည်ရာသည်။ ဟုတွာ၊ ဖြစ်၍။ ကန္တံ၊ သတ္တဝါတို့၏ နှစ်သက် ခြင်းကို။ ဝါ၊ ချမ်းသာခြင်းကို။ ဇနယံ၊ ဖြစ်စေလျက်။ ပါကဋံ၊ ထင်ရှားစွာ။ ဌာတိ ဣဝ၊ တည်သကဲ့သို့ ရင်း။ ဩသဋ္ဌော၊ သတ္တဝါတို့၏ သက်ရာဖြစ်သော။ သသီ၊ ၄၉-ယူဇနာရှိသော လမင်းသည်။ သဒါ၊ ဝေဋ္ဌဋ္ဌာယီ အသင်္ချေယျကပ်ပတ်လုံး။ နိဿယော၊ သတ္တဝါတို့၏ မှီရာသည်။ ဟုတွာ၊ ဖြစ်၍။ ကန္တံ၊ သတ္တဝါတို့၏ နှစ်သက်ခြင်းကို။ ဝါ၊ ချမ်းသာခြင်းကို။ ဇနယံ၊ ဖြစ်စေလျက်။ (ဇောတယံ)၊ ရပ်ဆယ် မျက်နှာ ယူဇနာကိုးသိန်း ထွန်းပလျက်။ ပါကဋံ၊ ထင်ရှားစွာ။ ဌာတိ ဣဝ၊ တည်သကဲ့သို့ရင်း။ ဩသဋ္ဌော၊ သတ္တဝါတို့၏ သက်ရာဖြစ်သော။ အင်္ကော၊ ယူဇနာ ၅၀-ရှိသော နေမင်းသည်။ သဒါ၊ ဝိဝဋ္ဋဋ္ဌာယီ အသင်္ချေယျကပ်ပတ်လုံး။ နိဿယော၊ သတ္တဝါတို့၏ မှီရာသည်။ ဟုတွာ၊ ဖြစ်၍။ ကန္တံ၊ သတ္တဝါတို့၏ နှစ်သက်ခြင်းကို။ ဝါ၊ ချမ်းသာခြင်းကို။ ဇနယံ၊ ဖြစ်စေလျက်။ ပါကဋံ၊ ထင်ရှားစွာ။ ဌာတိ ဣဝ၊ တည်သကဲ့သို့ရင်း။ တထာ၊ ထိုမြင်းမိုရ်နှင့်မြေ လနှင့်နေတို့ သင်္ချေကပ်လုံး ဆုံးအောင်မှီရာ ထင်ရှားစွာ တည်နေသည်နှင့်အတူ။ ကန္တံ၊ ယူဇနာ လေးသိန်းရှစ်သောင်း အထုရှိသော ရေလျှင် အပိုင်းအခြားရှိသည်ကို။ ကတွာ၊ ပြု၍။ ဩသဋ္ဌော၊ အာဏာတော်၏ အစွမ်းဖြင့် စကြဝဠာ ကုဋေတသိန်းတိုင် ပတ်ဝန်းကျင် သက်ရောက်သော။ အယံ ဓမ္မသဓေါ၊ တောရဆရာတော် ဘုန်းတော် ကြီး ဦးသီလ စတင်တည်တော်မူခဲ့သော။ ဝါ၊ ပန္နက်ချခဲ့သော ဤ အရည်ဝါသီ ရွှေကျင်နိကာယ ဝိနည်းစာပြန်ပွဲသဘင်ကြီးသည်။ အယံ-သေလတ္ထမ္ဘော၊ ကြောင်းရာစုံလင် မော်ကွန်းတင်၍ စီရင် ရေးသား ကျောက်ပြားခံ့ခိုင် ဤကျောက်စာတိုင်သည်။ အယံ ဓမ္မသာလာ၊ တရားလွှတ်ရုံးသဘွယ် ကြီးကျယ်ခမ်းနား ဆန်းပြားဝေဃံ ခြောက်သိန်းကျော် အကုန်ခံသည့် ဗိမာန်ခိုင်ဖြိုး ဤ ရာပြည့် အထိမ်းအမှတ် ဝိနယုဿဝ ဓမ္မာရုံကြီးသည်။ စက္ကန္တံ၊ သာသနာတော်ငါးထောင် မြွားမြောင်တွက်ကြုံး ဆုံးသည့်တိုင်အောင်။ နိဿယော၊ လဇ္ဇီပေသလ-သိက္ခာကာမ ရဟန်းတို့နှင့် သက်ဆိုင်ရာ လူ ဒါယကာ- ဒါယိကာမတို့၏ အားထားမှီခိုရာသည်။ ဟုတွာ၊ ဖြစ်၍။ ကန္တံ၊ အားထားမှီခိုသူတို့၏ နှစ်သက်ခြင်းကို။ ဝါ၊ ချမ်းသာခြင်းကို။ ဇနယံ၊ ဖြစ်စေလျက်။ ပါကဋံ၊ ချပ်ရှစ်မျက်နှာ ထင်ရှားစွာလျှင်။ ဌာတံ-ဌာတု၊ မုချမသွေ တည်ရစ်ပါစေသော်....။



အသင်းဥက္ကဋ္ဌကြီးနှင့် အတွင်းရေးမှူးတို့က ကျိုက်ဝိုင်းဆရာတော်နှင့်
ကြခတ်ဝိုင်းဆရာတော်တို့၏ လက်သို့ ကျောက်စာကပ်နေပုံ။



မော်ကွန်းကျောက်စာ အောင်မြင်စွာ စိုက်ထူပြီးသဖြင့် အသင်းလူကြီးများ
ကျေနပ်ဝမ်းမြောက်နေကြပုံ။

မကြာမီ (၉၉)ကြိမ်မြောက် စာပြန်ပွဲကြီးအတွင်း
တန်ဆောင်မုန်း လဆုတ် (၄)ရက်နေ့၌

**အောက်ပါအတိုင်း မော်ကွန်းကျောက်စာ စိုက်ထူကြသည်။**

ဗုဒ္ဓသာသနံ စိရံ တိဋ္ဌတု။ ။ရှေးရှေးသော သာသနာပြုဆရာတော်ဘုရားကြီးများနှင့် ရှေးရှေးသော သာသနာပြု ဒါယကာ-ဒါယိကာမ အပေါင်းတို့သည် ၁၂၃၃-ခုနှစ်မှစတင်၍ တနှစ်မပျက် အဆက်ဆက် လက်ပြောင်းသယ်ယူ ကျင်းပလာခဲ့ကြသော ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန် အနှစ်တရာ(၁၀၀)ပြည့်၊ ပိဋကကတ်သုံးရပ် ထွင်အမြတ် ပူဇော်ပွဲကြီး၊ သံဃာတော် အပါး (၁၀၀၀) ဖြင့် ကျင်းပည့်ခံနိုင်ရန် စာပြန်ရာပြည့်အထိမ်းအမှတ်မော်ရုံကြီးကို သာသနာ ၂၅၁၃-ခု၊ ကောဇာ ၁၃၃၁-ခု (၂၈-၁၁-၆၉) ၉၉-ကြိမ်မြောက်၊ ရာပြည့်အကြို စာပြန်ပွဲကြီးအတွင်း တန်ဆောင်မုန်းလဆုတ် (၄)ရက် သောကြာနေ့ နံက်(၉)နာရီ အချိန်တွင် မဟာနာယက ဥက္ကဋ္ဌဆရာတော် အမှူးပြုသော နာယက ဆရာ တော်ဘုရားကြီးများက သဗ္ဗသိဒ္ဓိပရိတ်တော်များ ချီးမြှင့်ပြီး သဘာပတိ ကျိုက်ဝိုင်းဆရာတော်ကြီး ကိုယ်တိုင် အုတ်မြစ်ချကာ သီရိမင်္ဂလာဇေယျာဘိသေက သြဘာစာများ ဖတ်ကြားလျက် ကြခတ်ဝိုင်း သာသနာပြု အသင်းကြီးကဦးဆောင်၍ စေတနာရှင်အများကောင်းမှု ပေါင်းစုဆောက်လုပ်လျက် အားတက်ရွှင်ပြ လှူဒါန်းကြကြောင်းကို နှောင်းခေတ်လူသား သူတော်စင်အများတို့ မှတ်သားတိကျ သိရတိုးပွါး အကျိုးများစိမ့်သောငှာ ဝမ်းမြောက်မြော်မြင် ဤကျောက်စာဖြင့် မော်ကွန်းတင်ခဲ့ကြ ပါကြောင်း။

အမှူးဆောင်အဖွဲ့
ကြခတ်ဝိုင်းသာသနာပြုအသင်း
ပဲခူးမြို့။



၉၉-ကြိမ်မြောက် စာပြန်ပွဲကြီးပြီးမှ ရာပြည့်ဓမ္မာရုံကြီးကို ဤသို့ စတင်လာကြသည်၊
အသင်းလူကြီးများ နေ့စဉ်ရောက်နေကြသည် ။



အောင်မြင်မှုလမ်းစကြောင့် ကြခတ်ဝိုင်း သာသနာပြု အသင်းလူကြီးများ ဤသို့ပီတိဖြစ်နေကြပေသည်။

၁၃၃၂-ခုနှစ်၊ ဝါဆိုလဆုတ် (၁၂) ရက်နေ့တွင်
ကြခတ်ဝိုင်း ဗဟိုဌာနၣ်
ပခုက္ကူခရိုင် အရညာဝါသီ ရွှေကျင်နိကာယ ဂိုဏ်းလုံးကျွတ်

**သံဃာ့အစည်းအဝေးကြီးမှ ထောက်ခံပြဋ္ဌာန်းအပ်သော**
**လစဉ်နာယကအစည်းအဝေးမှတ်တမ်းများ။**

ပခုက္ကူခရိုင် ဝိနယစာပြန်ပွဲကြီး၏ အနှစ်တရာပြည့် (ဝိနည်းပိဋကတ် ထွန်းမြတ်) ပူဇော်ပွဲကြီး အမှန်ပြု လုပ်သင့်ကြောင်း ၁၃၃၁-ခုနှစ်၊ တော်သလင်းလဆန်း (၃)ရက်၊ (၁၄-၉-၆၉) တနင်္ဂနွေနေ့ သံဃာရော လူပါ ၂-ရပ်ပေါင်း ကျယ်ပြန့်သော အစည်းအဝေးကြီးမှ ဆုံးဖြတ်ခဲ့ပြီးနောက်—

(၁) ရွှေကျင်နိကာယ(၃)နှစ်ပတ်လည် အစည်းအဝေးကြီးနှင့်မတွဲဘဲ ရာပြည့်ပူဇော်ပွဲ သက်သက် ကိုသာ ကျင်းပရန်။

(၂) သံဃာအရေအတွက်မှာ အနှစ် (၁၀၀)ပြည့် ပူဇော်ပွဲဖြစ်၍ အပါး (၁၀၀၀) ပြည့်အောင် ပင့်ဆောင်ရန်။

(၃) ရာပြည့်ပူဇော်ပွဲသို့ ကြွရောက်တော်မူကြသော ဆရာတော်သံဃာတော်များသည် ထိုပူဇော်ပွဲ ကျင်းပရာဌာနၣ် အမှုဆောင်အဖွဲ့က စီစဉ်ထားသော (က) အာဝါသနှင့် (ခ) ဘောဇနတို့ဖြင့်သာ သုံးဆောင်မျှတ အပြင်သို့မကြွဘဲ ပူဇော်ပွဲကြီး ညီညွတ်၍ သိက္ခာရှိမှုကို ရှေးရှုအဓိက ထားကြရန်။

(၄) စာပြန်ပွဲကြီးအတွင်း၌ ထိုရာပြည့်ပူဇော်ပွဲကို ထည့်သွင်းကျင်းပမည်ဖြစ်ရာ စာပြန်ပွဲကို တန် ဆောင်မုန်းလဆုတ် (၂-၃-၄) ၃-ရက်ဖြင့် ပြီးစေ၍ ပူဇော်ပွဲကို (၅-၆-၇) ၃-ရက် ကျင်းပလျက် ထို(၃) ရက်အတွင်း (က) ဓမ္မသဝနကာလနှင့် (ခ) ဩဝါဒပဋိဂ္ဂဟဏကာလတို့မှတပါး ကျန်သောအချိန်များ၌ ဝိနည်းပါဠိတော် (၅)ကျမ်းလုံးကို အကျော်အလွှားမရှိ နေ့ရောညဉ့်ပါ အသံမစဲ သင့်သလိုတွဲ၍ အလှည့် ကျဖြင့် ရွတ်ဆိုပူဇော်ကြရန်။

(၅) ကြုံတောင့်ကြုံခဲ ထိုရာပြည့်ပူဇော်ပွဲ၌ သံဃာတော်အပါး (၁၀၀၀) လုံးကို (က) တပြိုင်နက် တည်း ဆွမ်းစသည် ကပ်လှူနိုင်ခြင်း၊ (ခ) သဘာပတိ ဆရာတော်ကြီးများ၏ ဩဝါဒများကို တစု တဝေးတည်း ခံယူနိုင်ခြင်း၊ (ဂ) နောင်နှစ်ပေါင်းများစွာ နေရာလောက ပရိသတ်များ စိတ်ချမ်းသာမှု များစွာရကြလျက် ဝမ်းမြောက်ကြည်နူး အထူးအားရ ပီတိသောမနဿ အပြည့်အဝဖြင့် ညစဉ် ဓမ္မသဘင် ကြွဝင်နာယူနိုင်ခြင်းများအတွက် ခိုင်ခန့်သော ဧည့်ခံဓမ္မာရုံကြီး(၁)လုံးကို ဆောက်လုပ်ရန်။

(၆) ရှေးဆရာတော်ကြီးများ ချမှတ်ခဲ့သော ကတိကဝတ်အတိုင်း လုပ်မြဲတိုင်းရက်ကို မရွှေ့ဘဲ တန်ဆောင်မုန်းလဆုတ်(၂)ရက်နေ့ နေ့ဆွမ်းမီအရောက် ကြွ၍ အထက်ပါ အမှတ်(၄) အစီအစဉ်အရ ကျင်းပပြုလုပ်ရန်။

(၇) ဂဏပါမောက္ခ ဂဏနာယက ထေရပ္ပဓမ္မရတို့၏ သီလာဒိဂုဏဒီပက ကထာများနှင့် စတင်ခဲ့သော ၁၂၃၂-ခုနှစ်မှ ၁၃၃၂-ခုနှစ် စာပြန်အနှစ်(၁၀၀) ပြည့်သည်အထိ သာသနာရေးမှတ်တမ်းအနေ "အရညာ ဝါသီ ရွှေကျင်နိကာယသမိုင်း" စာအုပ်တခု ပြုစုရိုက်နှိပ်ရန်။



တန်ဆောင်မုန်းလဆုတ်(၂)ရက် စာပြန်ပွဲအစဖြစ်ရာ၊ ဝါဆိုလပြည့်နေ့အထိ ဤမျှသာရှိသေး၍
အသင်းလူကြီးများ ရင်ပူစ ပြုလေပြီ၊ သို့သော်—



အသင်းလူကြီးများ၏ စီမံပေးချက်အရ ငွေကြေးနှင့် ဘိလပ်မြေ/သံစသော ပစ္စည်းများ အဆင်ပြေပြေ
ရရှိလျက် ဆောက်လုပ်ရေးတာဝန်ခံကြီး ကြိုးစားမှုကြောင့် ဤသို့မြင်ရပြန်သည်။

(၈) ၁၃၃၂-ခုနှစ်တွင် (က) ပဲခူး ဝိနည်းစာပြန်ဌာနရှိ ကျောင်းများ၌ ဝါဆိုသော ရဟန်းတော်အားလုံးနှင့်တကွ (ခ) ပဲခူးခရိုင်အတွင်း ဝိနည်းစာပြန်(၅)ဌာနရှိ ပဓာန ဆရာတော်အားလုံးတို့အား ရာပြည့်ပူဇော်ပွဲသို့ ပင့်ဘိတ်ရန်။

မှတ်ချက်။ ။ထိုရာပြည့်ပူဇော်ပွဲသို့ကြွနိုင်မည်ဖြစ်သော သံဃာစာရင်းများကိုတောင်းလျက် လိုအပ်သလို အမှုဆောင်အဖွဲ့က လျောက်ပတ်အောင် ဆောင်ရွက်နိုင်သည်။

(၉) ပဲခူးခရိုင်မှတပါး အခြားသော ခရိုင်အသီးသီးတို့မှ (က) အဘိဓဇနှင့် (ခ) ပါကဋ (ဂ) နာယကဖြစ်တော်မူကြသော ဆရာတော်ဘုရားကြီးများကို အတူးပင့်ဘိတ်ရန်။

(၁၀) ရှေးရှေးသော သာသနာပြု တောရဆရာတော်ကြီးများ၏ အစဉ်အလာ သစ်ခေါက်ဆိုး အညိုရောင်သင်္ကန်း သပိတ် ယပ် နိသီဒိုင်နှင့်တကွ ဣန္ဒြိယသံယမ ပါသာဒိကဖြစ်အောင် တည်ငြိမ်ခန့်ညားသော အမူအရာ အချိုးကျမှု ပြည့်စုံစွာဖြင့် ကြွလာသီတင်းသုံးတော်မူကြရန်။

အမှာ။ ။ဂိုဏ်းဝန်ဆောင်က ရှင်းလင်းတင်ပြအပ်သော ထိုမှတ်တမ်း(၁၀)ချက်ကို ဂိုဏ်းလုံးသံဃာ့အစည်းအဝေးကြီးမှ ထောက်ခံလျက် ပူဇော်ပွဲကြီး၏ (က) ပုံသဏ္ဌာန်နှင့် (ခ) လုပ်နည်းလုပ်ဟန်အဖြစ် ပြဋ္ဌာန်းတော်မူကြသည်။

ဗုဒ္ဓေါ လောကေ သမုပ္ပန္နော၊ ဟိတာယ သဗ္ဗပါဏိနံ။
ဓမ္မော လောကေ သမုပ္ပန္နော၊ သုခါယ သဗ္ဗပါဏိနံ။
သံဃော လောကေ သမုပ္ပန္နော၊ ပုညက္ခေတ္တံ အနုတ္တရံ။
(သုတ္တနိပါတ ပါရာယနဝဂ္ဂ)

ဂိုဏ်းဝန်ဆောင်
အရညဝါသီ ရွှေကျင်နိကာယ-
ပဲခူးခရိုင်
ဖုန်း (ပဲခူး-၈၂)



စေတနာ့ဝန်ထမ်း ရာပြည့်မမ္မာရုံကြီး ဆောက်လုပ်ရေး အချိန်ပြည့်တာဝန်ခံကြီး
ကြခတ်ဝိုင်းသာသနာပြုအသင်းလူကြီး ဦးလူကလေးဖြစ်သည်။

၁၃၃၂-ခုနှစ်၊ ဝါဆိုလဆုတ်(၁၂)ရက်နေ့
ကြခတ်ဝိုင်း ဗဟိုဌာန
ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဂိုဏ်းလုံးကျွတ်
သံဃာ့အစည်းအဝေးကြီးမှ ပဲခူး စာပြန်ရေပြည့် ဝိနည်းပိဋကတ် ထွဋ်အမြတ်ပူဇော်ပွဲကြီးအတွက်
**ဆောင်ရွက်ရန် ခန့်ထားအပ်သော အပါး(၂၀) ယာယီ သံဃာ့အမှုဆောင်အဖွဲ့ စာရင်း။**

| | |
|---|---|
| ဓမ္မကထိကအဖွဲ့မှ(၂)ပါး | ရန်ကုန်မြို့ ကျိုက်ဝိုင်းဆရာတော် ဦးဣန္ဒက (ဩဝါဒါစရိယ)<br>ကလေး ရေလယ်ဆရာတော် ဦးဉာဏဝံသ |
| နာယကအဖွဲ့မှ(၂)ပါး | ပဲခူး ရွှေကျင်ဓမ္မရိပ်သာဆရာတော် ဦးဝိမလ (ဥက္ကဋ္ဌ)<br>ပဲခူး မဟာကလျာဏီဆရာတော် ဦးဉာဏဝံသ (ဒု-ဥက္ကဋ္ဌ) |
| ဂိုဏ်းဝန်ဆောင် | ပဲခူး ကြခတ်ပိုင်းဆရာတော် ဦးဇောတိပါလ (ဟိတရေ) |
| ကျောင်းတိုက်ဝန်ဆောင်မှ(၁)ပါး | ကြခတ်ဝိုင်းတိုက်အုပ် ဦးသိရိန္ဒာဘိဝံသ (ဒု-ဟိတရေ) |
| နယ်ဝိနည်းပြန်(၅)ဌာနမှ(၅)ပါး | ညောင်လေးပင် တောရကြီးဆရာတော် ဦးဇာဂရ<br>ညောင်ခါးရှည် ရွှေဂူဆရာတော် ဦးသုဝဏ္ဏ<br>ရွှေကျင် ဒက္ခိဏာရာမဆရာတော် ဦးဣန္ဒာစရိယ<br>ကျောက်တန်း မဟာဗောဓိဆရာတော် ဦးပဏ္ဍဝံသ<br>ပြွန်တန်ဆာ သာသနသောဘဏိကာရုံဆရာတော် ဦးဝိသုဒ္ဓ |
| အကျိုးဆောင်(၇)ဌာနမှ(၇)ပါး | ဈေးညောင်ပင် သိမ်ကုန်းဆရာတော် ဦးသောဘဏ<br>သနပ္ပင် ရေကျော်ဆရာတော် ဦးပညာသာမိ<br>ဘုရားကလေး ဥက္ကံတိုက်အုပ်ဆရာတော် ဦးတိလောက<br>ကြို့တက် သိမ်တော်ဆရာတော် ဦးကေတုမာလာ<br>ပဲခူး ပုပ္ဖါရုံဆရာတော် ဦးစန္ဒိမာ<br>ပဲခူး ပဓာနိကာရာမစာချဆရာတော် ဦးတေဇဓမ္မ |
| ပဲခူးမြို့ပေါ်မှ(၁)ပါး | ပဲခူး သာသနာ့မဏ္ဍိုင်ဆရာတော် ဦးပညာဇောတ |
| ပဲခူးနယ်မှ(၁)ပါး | တာဝ ရွှေနန်းရိပ်သာဆရာတော် ဦးဂမ္ဘီရဗုဒ္ဓိ |

သုခေါ ဗုဒ္ဓါန မုပ္ပါဒေါ၊ သုခါ သဒ္ဓမ္မဒေသနာ၊
သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနံ တပေါ သုခေါ။
ဝိဝါဒံ ဘယတော ဒိသွာ၊ အဝိဝါဒဥ္စ ခေမတော၊
သမဂ္ဂါ သခိလာ ဟောထ၊ ဧသာ ဗုဒ္ဓါနုသာသနီ။
(ခုဒ္ဒကနိကာယ၊ ဓမ္မပဒပါဠိတော်)

ဂိုဏ်းဝန်ဆောင်
အရညဝါသီ ရွှေကျင်နိကာယ
ပဲခူးခရိုင်
၁၃၃၂-ခုနှစ်၊ ဝါဆိုလဆုတ်(၁၄)ရက်။
ဖုန်း (ပဲခူး-၈၂)

**ထူးဆန်းသည့်မှိုပွင့်ကြီး**

၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလမှာ (တိုင်းအသီးသီး ခရိုင်အသီးသီးမှ) ဆရာတော် သံဃာတော်အပါး (၁၀၀၀)ဖြင့် စာပြန်အနှစ် (၁၀၀)ပြည့် ပွဲတော်ကြီးနှင့် ဝိနည်းပိဋကတ် ထွင်အမြတ်ပူဇော်ပွဲကြီး ဆင်နွှဲကျင်းပနိုင်ရန် အားသွန်ဆောင်ရွက်နေဆဲ ဝါခေါင်လ၌ ကြခတ်ဝိုင်းကျောင်းတိုက်အလယ် လူမြင်ကွင်း (သာသနာ့ဗိမာန်တောင်ဘက်ရှိ) ယခုထိ ရှင်လျက်ရှိနေသော ဖော်ပြပါ ညောင်ပင်ကြီးအရင်း ပလ္လင်ပေါ်မှ အရောင်အဆင်းနှင့် ပြည့်စုံသော ဝမ်းမြောက်ဖွယ်ရာဘွယ် လှပခန့်ထယ်သော မှိုပွင့်ကြီး ဖော်ပြပါပုံအတိုင်း ထူးဆန်းစွာ ပေါက်လာ၏၊ အဆင့်ဆင့် အပေါ်မှ အောက် ငါး၊ နဂါး၊ လိပ် ကရဝိက် သဏ္ဌာန်ရှိသည်ဟု ဆိုကြ၏၊ ထပ်နေသကဲ့သို့ရှိ၏။ နီးဝေးမလပ် အရပ်ရပ်မှ တအံ့တသြ ရာပြည့်ပူဇော်ပွဲကြီး၏ ထူးကဲသော နိမိတ်တည်း ဟု အချင်းချင်းပြောဆိုသွားကြ၏။ ကြည့်ရှုသူ လူတို့ကား အထူးများပြားလှ၏။ သတင်းစာ၌ ထည့်လိုပါကြောင်း သတင်းထောက်များ အကြိမ်ကြိမ်ခွင့်တောင်းကြ၏၊ ခွင့်မပြုခဲ့။

ထိုမှိုပွင့်ကြီးမှာ အပေါ်ပြင် ၁၀-လက်မ။
အမြင့်စောက် ၁၃-လက်မ။

အချိုက အောက်ပါအတိုင်း ထင်မြင်ချက်ပေး၏၊ (မူအတိုင်း ဖော်ပြပါသည်)။

**စာသင်တိုက်တာ၊ ဝိုင်းဝိဟာ၌**
**ထူးတွေ့တည့်၊ အံ့ရာသော်....**

ပဲခူးမြို့မြေ၊ ဤဌာနေဝယ်၊
လွန်လေရှေးက၊ ဘယ်ကာလမှ၊
ပေါက်ထမရှိ၊ ဆန်းကြယ်ဘိသည့်၊
ရာပြည့်မြော်မှန်း၊ မှိုပွင့်ပန်းကား၊
အံ့ဆန်းတင့်စုံ၊ ဓမ္မာရုံနှင့်၊
တူစုံလက်တွဲ၊ ရာပြည့်ပွဲ၌၊
ဆင်နွှဲပျော်ပျော်၊ သံဃာတော်ကို၊
ဖူးမြော်ဘို့ရန်၊ စိတ်ရည်သန်လျက်၊
အားမာန်တက်၍၊ ပေါ်ထွက်စောင့်ကြိုခဲ့လေပြီ။

ရှေးနည်းအတူ ရာပြည့်ပူဇော်ပွဲကြီးအတွက် အားသွန်ဆောင်ရွက်နေကြဆဲ တော်သလင်းလ၌ ထို ညောင်ပင်ကြီးနှင့် နတ်လမ်းခြားလျက် ယှဉ်ကပ်ရပ်တည်နေသော သရက်ပင်မှ ထို (၁) ပင်တည်း ထူးဆန်းစွာ ပင်လုံးကျွတ် အလွန်ရှင်လန်းဝမ်းမြောက်၊ လက်ပန်းပေါက်ခတ်တီး၊တဟုန်းဟုန်းမြည်ဟည်း သကဲ့သို့ သန့်စွမ်းကြီးမားသော သရက်ပွင့်ကြီးများ တဟုန်တည်း ထူးခြားစွာပွင့်လာ၏။ (အကာလပုပ္ဖ)အခါမဲ့ပွင့်သောပန်းဟု စာကဆို၏။ သာသနာတော်၏အစွမ်းဂုဏ် ရှေးက ပွင့်ဘူးသောပုံများလည်း ရှိခဲ့၏။ သဏ္ဌာန်မှာပူးတွဲပါပုံအတိုင်းပင်ဖြစ်၏။ ကာလအားလျော်စွာ မဖြစ်ဘူးမြဲ ထူးကဲသော(အစ္ဆရိယ၊ အဗ္ဘုတ)သဘာဝကိုကြည့်၍ ရာပြည့်ပူဇော်ပွဲကြီး၏ ပဲခူး မြို့သူမြို့သားများအတွက် သိုက်မြိုက်စည်ကား

မည့် ရှေ့ပြေးအရိပ် ကောင်းသော နိမိတ်တည်းဟု အချို့ကဝေဘန်ပြောဆိုသွားကြ၏။ အချို့ကလည်း "ဤသရက်ပန်းလို လန်းပါစေ"ဟု လိုရာဆန္ဒ ဖော်ပြသွားကြ၏။

ရှေးနည်းအတူ ရာပြည့်ပူဇော်ပွဲကြီးအတွက် အားသွန်ဆောင်ရွက်နေကြဆဲ သီတင်းကျွတ်လ၌ သိမ်တောင်ဘက်ရှိ သရက်ပင်မှ ထို (၁) ပင်တည်း ထူးဆန်းစွာ အဟုန်ပြင်းပြင်း အားမာန်တင်းလျက် မကြောက်မရွံ့ နောက်မတွန့်ဘဲ ဝံ့ဝံ့စားစား သဘာဝကို တော်လှန်သောအားဖြင့် ပဒုမ္မာကြာဖူးများ တော်တော်မျှားမျှား ဖူးလာ၏၊ပူးတွဲပါ ပုံအတိုင်းပင်ဖြစ်၏၊ဤသည်လည်း အံ့ဘွယ်တပါးပင်ဟု ကြည့်ရှုရ၍ ဝိနည်းပိဋကတ် ထွဋ်အမြတ် သံဃာအပါး (၁၀၀၀)ဖြင့် ပူဇော်ကြမည့် ပူဇော်ပွဲကြီးကိုရည်ညွှန်း၍ တအံ့တသြ ပြောဆိုသွားကြ၏၊ လောက၌ ဘာမဆို ဆင်တိုင်းမချော၊ ပြောတိုင်းမဟုတ်၊ လုပ်တိုင်းမဖြစ်— နိုင်သည်ကို ပြန်လည်လက်ခံ၍ "အနှစ်တရာမှာ၊ အဖြစ်တခါသာ"ရှိလာနိုင်သည့် ထွဋ်အမြတ် ပူဇော်ပွဲကြီး ၏ "တန်ခိုးကား ကြီးမားလှပေစွ"ဟု မှတ်ချက်ချမိသည်။



၁၃၃၂-ခုနှစ်၊ ဝါခေါင်လတွင် တဘက်ရှိ
ညောင်ပင်ကြီးမှ လှပခန့်ညားသော မှိုပွင့်ကြီး ဤသို့ဆန်းကြယ်စွာ ပေါ်လာသည်။



မှိုပွင့်ကြီးပေါက်ရာ ညောင်ပင်ကြီးဖြစ်သည်
ညောင်ပင်အရင်း ပလ္လင်ပေါ်၌ ကောင်းစွာမြင်နိုင်သည်။



၁၃၃၂-ခုနှစ်၊ တော်သလင်းလကွယ်နေ့ အချိန်မဟုတ် (အကာလပုပ္ဖ) ဤသို့ရှင်လန်း
သရက်ပန်းများ ပင်လုံးကျွတ်ပွင့်လျက် ရာပြည့်ပူဇော်ပွဲကြီးကို ကြိုဆိုသည့်အသွင် မြင်ကြရသည်။



၁၃၃၂-ခုနှစ်၊ သီတင်းကျွတ်လတွင် ရှေးနည်းအတူ သရက်ပင်မှ ပဒုမ္မာကြာဖူးများ ထင်ရှားစွာ
ဖူးလာပြန်သဖြင့် ကောင်းသောနိမိတ်ဟု အမျိုးမျိုးပြောဆိုဝေဘန်ကြသည်။

## ဝိနည်းစာပြန် အနှစ်တရာပြည့် ပူဇော်ပွဲအတွက် အဘိဓဇ မဟာရဋ္ဌဂုရု စံကင်းဆရာတော်ဘုရားကြီးအထံ ပင့်လျှောက်လွှာ။

၁၃၃၂-ခုနှစ်၊ တော်သလင်းလဆုတ် (၄) ရက်

ရွှေကျင်နိကာယ ဂဏသမုဋ္ဌာပက ဂဏုက္ကဋ္ဌ "အဘိဓဇ မဟာရဋ္ဌဂုရု" သာသနာပိုင် မဟာသက်တော်ရှည် စံကင်းဆရာတော်ဘုရားကြီးထံ ပဲခူးသံဃာ့ကိုယ်စားတပည့် ရှိသေစွာ လျှောက်ထားပါသည် အရှင်ဘုရား။

ကိစ္စ။ ။ပဲခူး ရွှေကျင်နိကာယ ဝိနည်းစာပြန် အနှစ်တရာပြည့် ပူဇော်ပွဲအတွက် ပဲခူးရှိ သံဃာနှင့် ဒါယကာ ဒါယိကာမများ၏ ပင့်လျှောက်ထားခြင်းကိစ္စ။

အကြောင်းအရာ—

(က) ပဲခူးခရိုင် ရွှေကျင်နိကာယဝိနယစာပြန်ပွဲကြီးကို ၁၂၃၃-ခုနှစ်မှ အဦးအစ ပဌမအကြိမ်အနေ စတင်ကျင်းပခဲ့သဖြင့် စာပြန်ပွဲများစွာတို့တွင် အသက်အကြီးဆုံး စာပြန်ပွဲဖြစ်ခြင်း။

(ခ) ထို စာပြန်ပွဲကြီးသည် အသက်အကြီးဆုံးဖြစ်သည်အားလျော်စွာ စာပြန်ရာပြည့် အထိမ်းအမှတ် ဝိနည်းပိဋကတ် ထွဋ်အမြတ် ပူဇော်ပွဲကြီးကို အစဆုံး ကျင်းပရာဖြစ်ခြင်း။

(ဂ) ရှေးရှေးသော ပဲခူးခရိုင်အတွင်း၌ သီတင်းသုံးလျက် ရွှေကျင်သာသနာတော်ကြီးကို ဤမျှကျယ်ပြန့်အောင် စောင့်ရှောက်ထမ်းဆောင်တော်မူသွားကြသည့် (က) ဘုန်းတော်ကြီး ဦးစန္ဒာလင်္ကာရ (ခ) ဘုန်းတော်ကြီး ဦးသုမန (ဂ) ဘုန်းတော်ကြီး ဦးဝဏ္ဏ (ဃ) ဘုန်းတော်ကြီး ဦးသီလစသော တောရဆရာတော်ဘုရားကြီးများ ကျင့်ဝတ်ပဋိပတ်တို့နှင့် အထူးကြပ်မတ်ဆောင်ရွက်ခဲ့သဖြင့် ထိုဆရာတော်ဘုရားကြီးများ၏ ဂုဏ်တော်ကျေးဇူးတော်တို့ကို ပြန်လည်ပွါးများ ဂုဏ်ပြုလိုကြခြင်း၊

(ဃ) ထိုဆရာတော်ဘုရားကြီးများ၏ ပြုစုချမှတ်ထားခဲ့သော ပဲခူးခရိုင်အတွင်းရှိ ဝိနည်းစာပြန်ပွဲကြီး အရိပ်အာဝါသအောက်တွင် ကျောင်းပေါင်း (၂၃၇) ကျောင်းနှင့် ရဟန်းပေါင်း (၁၂၂၃) ပါး၊ သာမဏေပေါင်း (၁၁၀၃)ပါး၊ နှစ်ရပ်ပေါင်း (၂၃၂၆) ပါး ယခုနှစ်ဝါဆိုကြသဖြင့် အားကောင်းသော ဌာနတခုဖြစ်ခြင်း၊

(င) အားကောင်းသည်အားလျော်စွာ ဂိုဏ်းဂဏဝိနည်းစာပြန်ပွဲကြီးများ တနှစ်မပျက် အမြဲကျင်းပလျက် သက်တော်ရှည် သာသနာပိုင်ဆရာတော်ဘုရားကြီး၏ ဩဝါဒအောက်တွင် ငြိမ်သက်သေဝပ်စွာ အမြဲနေထိုင်ကြလျက် ပရိယတ် ပဋိပတ်တို့ကို စွမ်းအားအလျောက် ဆောင်ရွက်အားထုတ်ကာ ဆရာ

တော်ဘုရားကြီးထံ နှစ်စဉ် ဝါဆိုစာရင်းများပို့ခြင်း ပြည်လုံးကျွတ် နဝမအကြိမ်သံဃာ့အစည်းအဝေးကြီးကို တောင်းယူညွှန်ခံခဲ့ခြင်း။

(စ) ပစ္စည်းနေနှင့် ကိုယ်ရေးကိုယ်တာ ကျန်းမာမှုစသည်ပါ အဘက်ဘက်က ဒုဗ္ဗလဖြစ်နေသော ပုဂ္ဂိုလ်များနှင့်တကွ သံဃာရှေလူပါ အားလုံးတို့ ဆရာတော်ဘုရားကြီးအား အဝေးမှ ကြည်ညိုရသည်ထက် နီးနီးစပ်စပ် ချဉ်းကပ်ကာ ဖူးမြော်ကန်တော့လိုကြခြင်း။

(ဆ) ပဲခူးရွှေကျောင်းနိကာယ သံဃာရှေ လူပါ ဆရာတော်ဘုရားကြီး၏ သြဝါဒဓမ္မအသံတော်ကို တပုဒ်တပါဒ တဝါကျလေးဘဲဖြစ်ဖြစ် နာယူမှတ်သားကာ များစွာကုသိုလ်ဖြစ်လိုကြခြင်း။

(ဇ) ရှေးရှေးသောအချိန်ကာလမှစ၍ ဆရာတော်ဘုရားကြီး၏ မေတ္တာနှင့် စေတနာတို့ အလွန်ကြီးမားပုံ ဖြူစင်ပုံတို့ကို တဆင့်စကား အသင့်ကြားလျက် ပဲခူးရာပြည့်ဝိနယစာပြန်ပွဲကြီး၌ ဖူးမြင်နာကြား ကုသိုလ်များရပေတော့မည်ဟု အထူးအားထားကာ မျှော်လင့်အားတက်နေကြခြင်း-ဤသို့စသောအကြောင်းများကြောင့် တပည့်လူကိုယ်တိုင်ရော စာနှင့်ပါ အကြိမ်ကြိမ်လျှောက်ထားခဲ့ဘူးပါသည်။ ယခုလည်း ပဲခူး ရွှေကျောင်းနိကာယဂိုဏ်းလုံးကျွတ် သံဃာ့အစည်းအဝေးမှ အသက်တော် (၈၅)နှစ် သိက္ခာတော် (၆၆)ဝါရှိ အဂ္ဂမဟာနာယက ဒက္ခိဏသာခါရာမဆရာတော်ဘုရားကြီး သဘာပတိအဖြစ် ဆောင်ရွက်ဆုံးဖြတ်ချက်ချလျက် ပင့်ဆောင်ကြပြီဖြစ်ရာ ကျန်းမာမှု အတော်အသင့်ရှိကြောင်း ပြန်ကြားချက်ကိုပင် အလွန်ကြီး ဝမ်းသာအားရ ရှိနေကြပါသည်။

ထို့ကြောင့် ဆရာတော်ဘုရားကြီး၏ ကျန်းမာမှုနှင့် ချမ်းသာမှုများအတွက်—

(၁) လေယာဉ်ပျံ
(၂) မော်တော်ကား
(၃) မီးရထား
(၄) မီးသင်္ဘော

ဤသို့ (၄)မျိုးရှိရာ ဆရာတော်ဘုရားကြီးဆန္ဒရှိသော ခရီးဖြင့်သာ အတည်ပြုဆောင်ရွက်ပေးရန်ဖြစ်၍ အမိန့်ကို စောင့်မျှော်နေကြပါသည်။

အထက်ပါဆရာတော်ဘုရားကြီး၏ ကြွလာရေးနှင့် ပြန်ကြွရေး (အစ + အဆုံး)ကို (တင့်တယ်မှုဖြင့်) ပြုစုဘို့ စီစဉ်နေကြဆဲဖြစ်ပါသည်၊ ဘာနှင့်ဘဲကြွကြွ ဆရာတော်ဘုရားကြီး၏ ကျန်းမာရေး စသည် အတွက် ဆရာဝန်နှင့်တကွ လိုအပ်သမျှ(ပင့်ဆောင်ရေးအထူးအဖွဲ့)က အားလုံးတာဝန်ယူပြီး သက်ဆိုင်ရာ အစိုးရဌာနသို့လည်း (တင်ပြဆွေးနွေး)ထားပြီးဖြစ်ပါသည်။

တန်ဆောင်မုန်းလဆုတ် (၂) ရက်နေ့မှာ အကြိမ် (၁၀၀) မြောက် စာပြန်ပွဲကြီး စတင်ကျင်းပလျက် ၎င်းတန်ဆောင်မုန်းလဆုတ် (၅)ရက်နေ့ နေ့ခင်း(၁)နာရီမှာ ပူဇော်ပွဲကြီး၏ သံဃာအပါး(၁၀၀၀)ဖြင့် ဖွင့်ပွဲပြုလုပ်မည်ဖြစ်ပါ၍ ဆရာတော်ဘုရားကြီးကိုယ်တော်တိုင်—

(က) ပူဇော်ပွဲကြီးကို ဖွင့်လှစ်ကာ
(ခ) ကန်တော့ခံခြင်း
(ဂ) ဩဝါဒပေးခြင်း–

တို့ဖြင့် ချီးမြှင့်တော်မူပါရန် ရိုသေစွာ ထပ်မံပင့်လျှောက်အပ်ပါသည် အရှင်ဘုရား။

ဆရာတော်ဘုရားကြီး၏ ပြန်ကြားရေး နေ့ရက်နှင့် အချိန်နာရီမှာလည်း အမိန့်အတိုင်း တိကျစွာ တာဝန်ယူဆောင်ရွက်ပေးပါမည် အရှင်ဘုရား၊ ထို့ပြင် လိုအပ်သမျှကိုလည်း တပည့်အား ရင်းနှီးစွာ ညွှန်ကြားလျက် ဩဝါဒစကား ရေးသားချီးမြှင့်တော်မူပါဘုရား။

ဆရာတော်ဘုရားကြီး ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာတော်မူလျက် ပဲခူး သံဃာနှင့် ဒါယကာ ဒါယိကာမများအား ကိုယ်တော်တိုင်ကြွရောက် ချီးမြှင့်တော်မူနိုင်ပါစေ အရှင်ဘုရား။

(ဦးဇောတိပါလ)
ကြခတ်ဝိုင်းကျောင်းတိုက်
ပဲခူးမြို့၊



ပဲခူးရွှေကျင်နိကာယ၌ သံဃာတော်များ တန်ဆောင်မုန်းလတိုင်း ဤသို့ ဝိနည်းပါဠိတော်များကို
ပြန်ဆိုကြရသည်၊



ရှေးဆရာတော်ကြီးများ၏ စည်းမျဉ်းအရ မူမပျက်ဘဲ ဤသို့ မိမိဝိုင်း၌ ကိုယ်စီကိုယ်ငှ ပြန်ဆိုကြရသည်၊

အခြားဆရာတော်များထံ ပင့်လျှောက်လွှာ။

နေ့စွဲ—၁၃၃၂-ခုနှစ် သီတင်းကျွတ်လဆန်း(၁)ရက်

ထံတော်သို့

.........................................................

.........................................................

ရှိသေလေးမြတ်စွာ ပင့်လျှောက်အပ်ပါသည်အရှင်ဘုရား၊

**ကိစ္စ။** ။ဆရာတော်ဘုရားကိုယ်တော်တိုင် ပဲခူးမြို့သို့ ကြွရောက်ချီးမြှင့်တော်မူပါရန် ပင့်လျှောက်ခြင်း၊

**အကြောင်းအရာ။** ။ပဲခူးခရိုင် အရညဝါသီရွှေကျင်နိကာယ၌ ယခုနှစ် ဝါဆိုစာရင်းအရ ကျောင်းပေါင်း(၂၃၈) သံဃာတော်ပေါင်း(၂၃၂၆)ပါး ရှိပါသည်၊ ထိုပဲခူးခရိုင် အရညဝါသီရွှေကျင်နိကာယ၏ ဝိနယစာပြန်ပွဲကြီးသည်လည်း ၁၂၃၃-ခုနှစ်မှစတင်၍ တနှစ်မပျက် ကျင်းပခဲ့သဖြင့် ယခု ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလဆုတ် (၂)ရက်နေ့တွင် အနှစ်(၁၀၀)ဖြစ်၍ အကြိမ်(၁၀၀) ပြည့်တော့မည်ဖြစ်ပါသည်။ ထိုတန်ဆောင်မုန်းလဆုတ် (၂)ရက်နေ့မှ စတင်ကျင်းပတော့မည်ဖြစ်သော....

(က) အကြိမ်(၁၀၀)ပြည့် ဝိနယစာပြန်ပွဲကြီးနှင့်

(ခ) အနှစ်တရာမှာ အဖြစ်တခါသာပေါ်လာရန် အခွင့်ရှိသော ရာပြည့်အထိမ်းအမှတ် ဝိနည်းပိဋကတ် ထွတ်အမြတ် ပူဇော်ပွဲကြီးအပြင်

(ဂ) ရွှေကျင်နိကာယ ဓမ္မကထိကအကျော် ဆရာတော်များ၏ ညစဉ် ဓမ္မသဘင်ကြီးများကို ခရိုင်အသီးသီးမှ အဘိဓဇ ပါကဋနှင့် နာယကဖြစ်တော်မူကြသော ဆရာတော်ဘုရားကြီးများအား အမှူးထားလျက် သံဃာတော်အပါး (၁၀၀၀)ကျော်တို့ဖြင့် ကျင်းပရန် ဆုံးဖြတ်၍ စီစဉ်နေကြပြီဖြစ်ရာ ထိုသို့ကျင်းပရာဝယ်—

(က) ဆရာတော်ဘုရားကြီးများကို ဖူးမြော်ကန်တော့လိုကြခြင်း၊

(ခ) ဆရာတော်ဘုရားကြီးများ၏ ဓမ္မကထာများကို မှတ်သားလိုက်နာလိုကြခြင်း၊

(ဂ) ဆရာတော်ဘုရားကြီးများအား ဆွမ်း စသည် ဆက်ကပ်၍ ဒါနစသော ကုသိုလ်ပြုလိုကြခြင်း၊

တို့ကြောင့်—

အထက်ပါ (က၊ ခ၊ ဂ)ကိစ္စကြီးများကျင်းပရာ ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်သို့ ၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ်(၄)ရက် အင်္ဂါနေ့အရောက် အောက်ပါအစီအစဉ်အတိုင်း ကိုယ်တော်တိုင် ကြွရောက်ချီးမြှင့်တော်မူပါရန် ရှိသေလေးမြတ်စွာ ပင့်လျှောက်အပ်ပါသည် အရှင်ဘုရား၊

(က) ရန်ကုန်ဘက်မှ ကြွလာမည်ဖြစ်သော ဆရာတော်များအတွက် ထိုနေ့ မွန်းလွဲ(  )နာရီနှင့် (  )မိနစ် အချိန်၌ရှင်း၊

(ခ) မန္တလေးဘက်မှ ကြွလာမည်ဖြစ်သော ဆရာတော်များအတွက် ထိုနေ့ နံနက်(  )နာရီနှင့် (  )မိနစ် အချိန်၌ရှင်း၊



ဤသို့ တန်ဆောင်မုန်းလဆုတ် (၂)ရက်နေ့မှ စတင်ပြန်ဆိုကြလျက် တနေ့ပြီးသမျှကို စာပြန်ဝိုင်းကြပ် ဆရာတော်များက ရေးမှတ်ထားကြရသည်၊



စေတနာရှင်များက မိမိတို့စေတနာအလျောက် ဤသို့ ကိုယ်ထိလက်ရောက် စီမံ လောင်းလှူကြသည်၊

(ဂ) မော်လမြိုင်ဘက်မှ ကြွလာမည်ဖြစ်သော ဆရာတော်များအတွက် ထိုနေ့ မွန်းလွဲ( )နာရီနှင့် ( )မိနစ်အချိန်၌ငင်း ပဲခူးမီးရထားဘူတာမှ မော်တော်ယာဉ်တို့ဖြင့် ဝန်ဆောင်ဒါယကာများ အသင့်စောင့်ကြိုနေပါလိမ့်မည်။

**မှတ်ချက်။** ။(၅)ရက်နေ့သည် အခမ်းအနားဖွင့် ပူဇော်ပွဲဖြစ်၍ (၇)ရက်နေ့ညမှာ သင်္ဂါယနာတင်ပြီး ပူဇော်ပွဲသိမ်းလျက် (ဂ)ရက်နေ့မှာ ပြန်ကြွနိုင်ပါသည်။ အထူးမှာ မီးရထားဌာနဘက် သက်ဆိုင်ရာတို့က ပဲခူးစာပြန်ရာပြည့်ပူဇော်ပွဲမှ ပင့်သော ဆရာတော်(၁)ပါးနှင့် ကပ္ပိယကာရက (၁) ဦးအတွက် ၂၅/ရာခိုင်နှုန်းလျှော့ပေါ့ရန် ခွင့်ပြုထားပြီးဖြစ်သောကြောင့် ပူဇော်ပွဲမှ ဆက်ကပ်ထားသော ရာပြည့်တံဆိပ်ကပ်ပြားငယ်ကို သက်ဆိုင်ရာ မီးရထားဌာနမှူးသို့ သက်သေခံအဖြစ် တင်ပြပြီး လက်မှတ်ဝယ်ယူရန် ကပ္ပိယကာရကအား ညွှန်ကြားရပါမည်၊ ထို့ကြောင့် ပဲခူးမြို့သို့ ကြွရောက်ချီးမြှင့်ဖြစ်ပါက လက်မှတ်အတွက် ရာပြည့်တံဆိပ်ကပ်ပြားငယ် ဆက်ကပ်နိုင်ရန် (ဘွဲ့တော်၊ အသက်၊ သိက္ခာ၊ လိပ်စာ) အပြည့်အစုံနှင့် ကြွဖြစ်ကြောင်း မိန့်ကြားစာလွှာကို သီတင်းကျွတ်လပြည့်အတွင်း ပေးပို့စေလိုပါသည် အရှင်ဘုရား။

ဖုံး(ပဲခူး—ဂ၂)

ဦးဇောတိပါလ
ကြခတ်ဝိုင်းကျောင်းတိုက်
ပဲခူးမြို့။



ရာပြည့်စာပြန်ပွဲကြီး နာယကများ၊ ဥက္ကဋ္ဌများနှင့် အမှုဆောင်လူကြီးများဖြစ်သည်။



ဤသို့ ပစ္စည်းများကို ရေးမှတ်ထိန်းသိမ်းကြရသည်။

အမှတ် (၂၃၄)သ/ထောက် (၃) ၇၀ (၁၃၁၀)
ပြည်ထောင်စုမြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ
သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
နေ့စွဲ၊ ၁၉၇၀-ခု နိုဝင်ဘာလ (၁၄) ရက်

**အမှာစာ**

**အကြောင်းအရာ။** ။ပဲခူးစာပြန်ရာပြည့် (ဝိနည်းပိဋကတ်၊ ထွင့်အမြတ်) ပူဇော်ပွဲကြီးသို့ ချီးမြှင့်ရန် ကြွရောက်လာသော ဆရာတော်များနှင့် ကပ္ပိယကာရကတို့အတွက် အသွား/အပြန် (က) လေယာဉ် (ခ) မီးသင်္ဘော (ဂ) မီးရထား အခ ၂၅/လျှော့ပေါ့ရေး၊

အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ ပဲခူးစာပြန်ရာပြည့် (ဝိနည်းပိဋကတ်၊ ထွင့်အမြတ်) ပူဇော်ပွဲကြီးသို့ ချီးမြှင့်ရန်အတွက် ၁၉၇၁-ခု နိုဝင်ဘာလ (၁၅)ရက်နေ့မှ ၁၉၇၀-ခု ဒီဇင်ဘာလ (၁၃) ရက်နေ့အတွင်း အနယ်နယ်အရပ်ရပ်မှ ဆရာတော်များနှင့် ကပ္ပိယများ လာရောက်ကြမည် ဖြစ်ပါသဖြင့် ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယဂိုဏ်းလုံးကျွတ် (ကြခတ်ဝိုင်း ဗဟိုဌာန)၏ ပင့်ဘိတ်စာတင်ပြသော ဆရာတော်များနှင့် ကပ္ပိယများအတွက် (က) လေယာဉ် (ခ) မီးသင်္ဘော (ဂ) မီးရထားတို့၏ လက်ရှိနှုန်းထားများအပေါ်တွင် အသွားအပြန် လေယာဉ်ခနှုန်းများကို ၂၅/လျှော့ပေါ့ ကောက်ခံပါရန် မေတ္တာရပ်ခံအပ်ပါသည်၊

၂။ လေယာဉ်ခ လျှော့ပေါ့ရာတွင် လေယာဉ်ဖြင့်သာ ခရီးသွားလာနိုင်သော ဒေသများအတွက်သာ ဖြစ်ပါသည်၊

၃။ ခရိုင်မြို့နယ်များမှ ကြွရောက်ကြမည့် ဆရာတော်များစာရင်း တစောင်စီကို သိသာရန် ပူးတွဲပေးပို့ပါသည်၊

(ပုံ) မျိုးထွဋ်
အတွင်းဝန် (ကိုယ်စား)
(မျိုးထွဋ်၊ အတွင်းဝန်ကလေး)

၁။ ဥက္ကဋ္ဌ မီးရထားအုပ်ချုပ်ရေးအဖွဲ့၊
၂။ ဥက္ကဋ္ဌ ပြည်တွင်းရေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့၊
၃။ ဥက္ကဋ္ဌ မြန်မာနိုင်ငံလေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့၊

မိတ္တူကို သာသနာရေးဝန်ကြီးဌာနသို့ ၁၉၇၀-ခု နိုဝင်ဘာလ (၁၂) ရက် နေ့စွဲပါ ရုံးတွင်းစာအမှတ် ၃၁၀-ဒညာ-၇၀-ကို ရည်ညွှန်းလျက် သိသာရန် ပေးပို့ပါသည်၊

မိတ္တူ-ကို အထွေထွေဆောင်ရွက်ရေးကော်မီတီ ကြခတ်ဝိုင်း သာသနာပြုအသင်းကြီး ပဲခူးမြို့သို့ သိသာရန်နှင့် လိုအပ်သလို အရေးယူဆောင်ရွက်နိုင်ရန် ပေးပို့ပါသည်။



ကျန်းမာ သန့်ရှင်းရေး အဖွဲ့လူကြီးများ။



အထွေထွေ ဆောင်ရွက် ကူညီကြသူများ။



ရာပြည့်ဆောင်ရွက်ရေး ဝန်ဆောင်ဒကာများ
(ဝမ်းမြောက်တက်ကြွ ဆောင်ရွက်ကြသည်။)



ညောင်ဝိုင်းမြောက်ပိုင်း ဦးလှကြည်နှင့် အဖွဲ့သားများ
(စေ့စေ့ငှငှ ဆောင်ရွက်ကြသည်။)

# ဝိနည်းပိဋကတ်တွင်အမြတ်ပူဇော်ပွဲ
# ပင့်လျှောက်လွှာ။




ဆက်ကပ်ရန်၊

ဆရာတော် ................................

ကျောင်းတိုက် ................................

မြို့/ရွာ ................................

ခရိုင် ................................

မှ/

ဦးဇောတိပါလ၊
ကြခတ်ဝိုင်းကျောင်းတိုက် ပဲခူးမြို့၊
ဖုံး (ပဲခူး-၈၂)

ပဲခူးစာပြန်ရာပြည့် ပူဇော်ပွဲကြီးကိစ္စ ဆရာတော်များကို ပင့်လျှောက်ရာတွင် ဤစာအိပ်များဖြင့်သာ အသုံးပြုဆက်ကပ်ပါသည်။



ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်။



ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်။




# ဝိနည်းပိဋကတ်ထွင်အမြွတ်၊

ပူဇော်ပွဲ၊

**အထူးပင့်ဆရာတော်။**

ပဲခူးစာပြန်ရာပြည့်ပူဇော်ပွဲကြီးကိစ္စ ပင့်လွှာနှင့် ပူးတွဲ
ကပ်ပြားငယ်၏ မျက်နှာဖုံး ဖြစ်ပါသည်။

............ဆိုင်............မြို့/နယ်............ရွာ..................ကျောင်းတိုက်

..........................ကျောင်းမှ၊ အသက်တော်........နှစ် သိက္ခာတော်........

ဝရှိ၊ ဆရာတော်....................သည်၊ ပဲခူးခရိုင်၊ အရညဝါသီ ရွှေကျောင်းနိကာယ ဝိနယစာပြန် အနှစ်(၁၀၀) ပြည့်အထိမ်းအမှတ်"ဝိနည်းပိဋကတ်၊ ထွင်အမြွတ်ပူဇော်ပွဲ"မှ အထူးပင့်လျှောက်ချက်အရ(ပဲခူးမြို့-ကြခတ်ဝိုင်းကျောင်းတိုက်သို့)ကြွတော်မူသည်ဖြစ်ကြောင်း။

ဦးဇောတိပါလ၊
ကြခတ်ဝိုင်းကျောင်းတိုက်-ပဲခူးမြို့။
ဖုံး(ပဲခူး-၈၂)။

အိပ်ရာလိပ်နှင့် သပိတ်လိုအပ်ပါသည်ဘုရား။

ထိုကပ်ပြားငယ်၏ အတွင်းလက်ဝဲဘက် စာသားဖြစ်သည်။



ရာပြည့်အမှုဆောင်လူကြီးများအချို့ဖြစ်သည်၊ ကျန်းမာသန့်ရှင်းရေးဌာနကို
လှုပစ္စာ ဤသို့ မြင်ကြရသည်။



ရာပြည့်ပူဇော်ပွဲ၌ ဆောင်ရွက်ကြသော ကျောက်ကြီးစု အလယ်တန်းကျောင်းမှ
ဆရာများနှင့် တပည့်များဖြစ်သည်။

**ပဲခူးမြို့-ကြခတ်ဝိုင်းကျောင်းတိုက်၌ သီတင်းသုံးရန်နှင့် ရထားချိန်၊**

ကျောင်းဆောင်အမည်..................................

အိပ်ရာအမှတ်........................................

တာဝန်မှူး .. ......................................

ပဲခူးမြို့သို့ ရောက်ရပည့်နေ့၊ တံဆောင်မုန်းလဆုတ်(၄)ရက်၊ အင်္ဂါနေ့။

ပဲခူးမြို့သို့ မီးရထားရောက်ချိန် ...... ........................

ဘိုးရထားနံပါတ် (က) ရန်ကုန်ဘက်မှ.........................

(ခ) မန္တလေးဘက်မှ.......... ...........

(ဂ) မော်လမြိုင်ဘက်မှ ......................

(ဃ) ညောင်ခါးရှည်မှ.....................

ထိုကပ်ပြားငယ်၏ အတွင်းလကျ်ာဘက် စာသားဖြစ်သည်။

**ပဲခူး ဝိနယစာပြန် ရာပြည့် ပူဇော်ပွဲ**
**အထူးပင့် ဆရာတော်**

ဘွဲ့တော် ..........................................

သိက္ခာ.............................................

အသက်.............................................

ကျောင်း ...........................................

မြို့/ရွာ............................................

ကျောင်းဆောင် ....................................

အိပ်ရာအမှတ် ......................................

မြန်မာ့ဖိုးသ-ပဲခူး။ ၃၃၀၃

ထုံဆရာတော်၏ အိပ်ရာလိပ် သင်္ကန်းအိတ်စသည်တို့၌ ဤစာကပ်ပြားငယ်လေး မျှားကို တပ်ဆင်လာရန်ပို့ထားသည်၊ သူ၏ တည်းခိုရန်ကျောင်းဆောင် ရှိ အိပ်ရာခုတင်မှာလည်း အသင့်ချိပ်ဆွဲထားပြီးဖြစ်သည်။



ဝန်ဆောင်ဌာနၚ ဤသို့ အသင်းလူကြီးများ အရေးပေါ် ဆွေးနွေးနေကြသည်။




ဝန်ဆောင်ဆရာတော်၏ အလုပ်ဌာနၚ ဆွမ်းကွမ်းဆောင်ရွက်ရေးအဖွဲ့ကို ဤသို့
တွေ့မြင်ကြရသည်။



သံဃာအပါး(၁၀၀၀)ကျော်၏ ကျန်းမာရေးကို အဘိအကျ တာဝန်ယူ ကုသပေးကြသည်။



အချိုပွဲကပ်လှူရန် အလာတွင် အမှတ်တရ ရိုက်ထားကြ၏၊
ဦးဘားမားသိန်း ကြီးမှူးသော ဓမ္မစကြာအဖွဲ့။

## ပဲခူး မြို့
## ကြခတ်ဝိုင်းကျောင်းတိုက်အတွင်းရှိ
## သံဃာတော်အပါး (၁၀၀၀) ကျော်တို့ ရှုပြည့်ပွဲအတွင်း
## နေထိုင်သီတင်းသုံးရန် ကျောင်းဆောင်များ

၁။ ဝိနယပုဿဝ ရှုပြည့်ဓမ္မာရုံတော်
၂။ သာသနာ့ဗိမာန်တော်
၃။ မဏိကုဏ္ဍလိကာရုံ ကျောင်းဆောင်
၄။ မဏိဝံသိကာရုံ ကျောင်းဆောင်
၅။ ဓမ္မဝိဗောဓာရုံကျောင်းဆောင်
၆။ ဓမ္မဝိပုလာရုံ ကျောင်းဆောင်
၇။ အသောကမာလာရုံ ကျောင်းဆောင်
၈။ စမ္ပကမာလာရုံကျောင်းဆောင်
၉။ ပြဟ္မ နိမ္မိတာရုံ ကျောင်းဆောင်
၁၀။ သက္က နိမ္မိတာရုံ ကျောင်းဆောင်
၁၁။ သီလ ဝိသောဓနိကာရုံ ကျောင်းဆောင်
၁၂။ သီလ ဝိဘူသိတာရုံ ကျောင်းဆောင်
၁၃။ စိတ္တ သုခေသိတာရုံ ကျောင်းဆောင်
၁၄။ စိတ္တ ပါသာဒိကာရုံ ကျောင်းဆောင်
၁၅။ ပရိယတ္တိ ဝိဇ္ဇောတာရုံ ကျောင်းဆောင်
၁၆။ ပရိယတ္တိ မူလိကာရုံ ကျောင်းဆောင်
၁၇။ သုတမယ ကျောင်းဆောင် ( ယာယီ)
၁၈။ စိန္တာမယ ကျောင်းဆောင်။
၁၉။ ဘာဝနာမယ ကျောင်းဆောင်။

**မှတ်ချက်။** ။ယာယီ ကျောင်းဆောင်ကြီး (၃) လုံးမှာ ပဲခူးသံဃာငယ်နှင့် ကျောင်းတိုက်သံဃာတော်များ သီတင်းသုံးရန်အတွက်ဖြစ်၍ ကျောင်းဆောင် (၁)လုံးလျှင် သံဃာအပါး(၁၀၀) ဆံ့လျက် (၃) လုံးမှာ (၃၀၀) သီတင်းသုံးနိုင်သည်။

(၁) သံဃာတော်များအတွက် ကုဋီမှာ အုဋ်တိုက် ရေလောင်း ရေဆွဲကုဋီ( ၂၅ )လုံးနှင့် သွတ်မိုးသွတ်ကာ ယာယီကုဋီ ( ၁၀)လုံး ပေါင်း ကုဋီ (၃၅)လုံး ဖြစ်သည်၊

(၂) သံဃာတော်များအတွက် ရေချိုးရန် အုဋ်ရေကန်ကြီး (၆) လုံး ပကတိအမြဲလာနေသော ရေပိုက်ဖြင့် အမြဲရေပြည့်လျက်ရှိသည်၊ တချိန်တည်းချိုးလျှင် သံဃာအပါး (၁၀၀) တပြိုင်တည်း ချိုးနိုင်သည်။

(၃) သံဃာအပါး (၁၀၀၀) ကျော်ဖြင့် အခမ်းအနားကျင်းပနိုင်ရန် ဆွမ်းကို ၀ပြိုင်တည်းကပ်နိုင်ရန် တွက်ပြီး ဆောက်ထားသဖြင့် ထိုဓမ္မာရုံကြီး၌ ဆွမ်းဝိုင်း (၂၀၀)ကျော်ကို တချိန်တည်းပြင်ပြီး တချိန်တည်းကပ်ပါသည်၊ ဓမ္မာရုံကြီးမှာ အနံပေ ၁၀၀၊ အလျားပေ ၁၅၁ ရှိသဖြင့် ဆွမ်းဝိုင်းများအပြင်မှ ပရိသတ်များထိုင်ပြီး ကြည်ညိုမှုပြုနိုင်ပါသေးသည်။

(၄) သံဃာအပါး(၁၀၀၀)ကျော်တို့အား နေ့စဉ် နေ့ (၁)နာရီမှာ ဆရာတော်ဘုရားကြီး တပါးကျ ဩဝါဒပေးလျက် ညဉ့်စဉ်(၂)ပါးကျ ပရိသတ်အားလုံးတို့အား တရားချီးမြှင့်ခြင်းမှာ ထိုဓမ္မာရုံကြီး၌ပင် ဖြစ်ပါသည်။

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်၌
၁၃၃၂-ခုနှစ်၊ အကြိမ်(၁၀၀)မြောက် အနှစ်(၁၀၀)ပြည့် အရညာဝါသီ ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ
**ဝိနယစာတော်ပြန်ပွဲကြီး ပြုလုပ်ရန် ဘိတ်ကြားနှိုးဆော်စာ**

ပဲခူးမြို့ အရညာဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန် ကြခတ်ဝိုင်း သာသနာပြုအသင်းကြီးနှင့် (က) သဒ္ဓမ္မပါလအသင်း၊ (ခ) ပုညကုသလအသင်း၊ (ဂ) ပိဋကပါတ်ဆွမ်းလောင်းအသင်း၊ (ဃ) ဓမ္မာနုဂ္ဂဟအသင်းသူ အသင်းသားအပေါင်းတို့က ကောင်းမြတ်သောစိတ်ထားဖြင့် ဘိတ်ကြားနှိုးဆော်အပ်ပါသည်။

၁၂၃၃-ခုနှစ်မှစ၍ တနှစ်မပျက် အဆက်ဆက် ပြုလုပ်ကျင်းပလာခဲ့ရာ ယခု အကြိမ်(၁၀၀)မြောက် "ပရိယတ္တိဓမ္မဝိနယ" စာဘော်ပြန်ပွဲကြီးကိုလည်း ၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် (၂)ရက်နေ့မှအစ၊ ၎င်း (ဂ) ရက်နေ့အပြီး ပြန်ဆိုပြုလုပ် ကျင်းပမည်ဖြစ်ပါကြောင်း။

သို့ရာတွင် ဝေးနီးမလပ် အရပ်ရပ်တို့မှ ကြွရောက်ပြန်ဆို ပုဂ္ဂိုလ်သခင် ဝိနယဘာဏက ထေရ်အရှင်တို့အား ခဲဘွယ် ဘောဇဉ် ချိုချဉ်ရသာ အဖြာဖြာတို့နှင့် သင်္ကန်း ဘိနပ် ထီး ယပ် စာအုပ် မျက်နှာသုတ် ခဲတံ အစရှိသော လှူဒါန်းရန်တို့ကို ရှေးနှစ်များကဲ့သို့ သိုက်မြိုက်စည်ကားစွာ လှူဒါန်းတော်မူကြပါမည့်အကြောင်း။ သို့မဟုတ် တန်ဆောင်မုန်းလဆုတ် (ဂ)ရက်နေ့ နေ့ (၁၂) နာရီအချိန်တွင် ကိုယ်ထိလက်ရောက် သဘောကျသလို စီမံ၍ လှူဒါန်းနိုင်ပါကြောင်း။

အရုဏ် ဆံပြုတ်နှင့် လဘက်ရည်အချိုပွဲ၊ ခေါက်ဆွဲ မုံ့ဟင်းခါးစသည်တို့ကို လှူဒါန်းဆက်ကပ်လိုသူတို့သည် ရှေးနှစ်များကဲ့သို့ တဦးနှင့်တဦး အထူးလုယက်၍ တမနက်တွင် သုံးလေးဦးထပ်ပြီး ပြတ်လပ်သော နံနက်ခင်းတို့၌မူ အလှူင်းပင်မရှိဟု မဖြစ်ရလေအောင် စာပြန်ပွဲဝန်ဆောင် ဒါယကာများအား ကြိုတင်အကြောင်းကြားပါက နေထားကျ၍ သဒ္ဓါတရား ပွါးများနိုင်အောင် စီစဉ်ပေးမည်ဖြစ်ပါကြောင်း။

စာပြန်ပွဲအတွင်း (၂)ရက်မှ (၇)ရက်နေ့တိုင်အောင် ညဥ့်စဉ်မပြတ် တညဥ့်လျှင် (၂)ပါးကျ၊ ရန်ကုန်မြို့ ကျိုက်ဝိုင်း ဦးဣန္ဒကဆရာတော် မဟာစည်ဆရာတော် အနီးစခန်းဆရာတော် ဝိပဿနာဂန္ဓာရုံဆရာတော်စသော ဓမ္မကထိကအမော် နိုင်ငံကျော် အရှင်မြတ်တို့သည် လောကုတ္တရာတရားများ ဟောကြားတော်မူမည်ဖြစ်ပါကြောင်း။

တန်ဆောင်မုန်းလဆုတ် (၇)ရက်နေ့ ညဥ့်(၇)နာရီအချိန်၌ တခမ်းတနား ဆန်းပြားသော စီစဉ်မှုတို့ဖြင့် အရှင်မဟာကဿပမထေရ်မြတ်နှင့် ပဋိသမ္ဘိဒါပတ္တ ခီဏာသဝသခင် အရှင်ရဟန္တာကြီး (၅၀၀)တို့ကဲ့သို့ သံဃာတော် အပါး(၁၀၀၀)တို့ဖြင့် အာဏာတော်မြတ် ဝိနည်းပိဋကတ်တို့ကို ပြတ်သားပြီပြင် ပေါင်းရွတ် သင်္ဂါယနာ တင်ကြမည်ဖြစ်ပါကြောင်း။

အထူးသတိပြုရန်။ ။တန်ဆောင်မုန်းလဆုတ် (၅-၆-၇) ဤ(၃)ရက်တိုင်တိုင် ယခင်နှစ်များကဲ့သို့ နံနက် (၆)နာရီတိုင်း သံဃာတော်များ ဆွမ်းခံကြွမည်ဖြစ်ပါကြောင်း။

အမှုဆောင်အဖွဲ့
ကြခတ်ဝိုင်း သာသနာပြုအသင်းကြီး
ပဲခူးမြို့။



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်။



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်။

## အနှစ် ၁၀၀-ပြည့်
## ဝိနည်းစာပြန်ပွဲတော်ကြီး
### တရားတော်နာဘိတ်ကြားစာ။

အနှစ် ၁၀၀-မှာ အဖြစ်တခါသာ ပေါ်လာခွင့်ရရှိသော ပခုက္ကူမြို့ ကြခတ်ဝိုင်းကျောင်းတိုက်၌—

(က) ပခုက္ကူခရိုင် အရညဝါသီရွှေကျောင်းနိကာယ အကြိမ် ၁၀၀-မြောက် ဝိနည်းစာပြန်ပွဲကြီးနှင့်

(ခ) ဝိနည်းပိဋကတ် ထွက်အမြတ်ပူဇော်ပွဲကြီး အပြင်

(ဂ) ညစဉ်ညစဉ် ဓမ္မသဘင်ကြီးများကို—

တိုင်းအသီးသီး ခရိုင်အသီးသီးတို့မှ အဘိဓဇနှင့် ပါကဋ နာယကဆရာတော် သံဃာတော်အပါး ၁၀၀၀-ကျော်ဖြင့် ကျင်းပလျက် အောက်ပါအတိုင်း နိုင်ငံကျော် ဓမ္မကထိက ဆရာတော်များကိုယ်တော်တိုင် တရားချီးမြှင့်တော်မူမည်ဖြစ်ပါ၍ နီးဝေးမလပ် အရပ်ရပ်မှ ကလျာဏနွယ်ဝင် သူတော်စင်အပေါင်းတို့သည် (ဓမ္မအနဋ္ဌ မြိုက်ရသ)ကို အားပါးတရ မှတ်သားနာယူနိုင်ကြရန် ကြွရောက်ပါမည့်အကြောင်း ကြိုတင်စွာ ဘိတ်ကြားသိစေအပ်ပါသည်။

### တရားပွဲ အစီအစဉ်
### ၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ်

၂-ရက် ည၌ (က) စစ်ကိုင်းမြို့ ကမ္မဋ္ဌာနာစရိယ ဝိပဿနာ မဟာဂန္ဓာရုံဆရာတော် ဦးဝိမလာစာရ။

" (ခ) ရန်ကုန်မြို့ အဂ္ဂမဟာဓမ္မကထိက ကျိုက်ဝိုင်းဆရာတော် ဦးဣန္ဒက။

၃-ရက် ည၌ (က) စစ်ကိုင်းမြို့ ကမ္မဋ္ဌာနာစရိယ ဝိပဿနာ မဟာဂန္ဓာရုံဆရာတော် ဦးဝိမလာစာရ။

" (ခ) ရန်ကုန်မြို့ အဂ္ဂမဟာဓမ္မကထိက ကျိုက်ဝိုင်းဆရာတော် ဦးဣန္ဒက။

၄-ရက် ည၌ (က) စစ်ကိုင်းမြို့ ဟံသာဂီရိချောင် ဓမ္မာစရိယ ဂဏဝါစက ဦးဉာဏိဿရ။

" (ခ) စစ်ကိုင်းမြို့ အဂ္ဂမဟာပဏ္ဍိတ အနီးစခန်းဆရာတော် ဦးပဏ္ဍိတ။

၅-ရက် ည၌ (က) ရန်ကုန်မြို့ သာသနာ့ရိပ်သာ အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော် ဦးသောဘန။

" (ခ) စစ်ကိုင်းမြို့ အဂ္ဂမဟာပဏ္ဍိတ အနီးစခန်းဆရာတော် ဦးပဏ္ဍိတ။

၆-ရက် ည၌ (က) ရန်ကုန်မြို့ သာသနာ့ရိပ်သာ အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော် ဦးသောဘန။

" (ခ) ရန်ကုန်မြို့ အဂ္ဂမဟာဓမ္မကထိက ကျိုက်ဝိုင်းဆရာတော် ဦးဣန္ဒက။

၇-ရက် ည၌ သင်္ဂါယနာပုစ္ဆက ကျိုက်ဝိုင်းဆရာတော် ဦးဣန္ဒက။
သင်္ဂါယနာဝိသဇ္ဇက ရေလယ်ဆရာတော် ဦးဉာဏဝံသ။
ဩဘာစာနှင့် ရေစက်ချတရားဟော ကျိုက်ဝိုင်းဆရာတော် ဦးဣန္ဒက။



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်၊



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်။

မှတ်ချက်။ ။ညစဉ်(၇)နာရီမှ စတင် ဟောကြားပါလိမ့်မည်၊
(၅)ရက်နေ့၊ နေ့(၁)နာရီ ပူဇော်ပွဲကြီး အခမ်းအနား ဖွင့်ပွဲအစီအစဉ်၌

(က) သြဘာစာ မန္တလေးမြို့ အနောက်ပြင် ဓမ္မာစရိယ ဂဏဝါစက ဇေယမေဒနီဆရာတော် ဦးအင္ဂိယ၊

(ခ) သောမနာ မန္တလေးမြို့ အရှေ့ပြင် ဓမ္မကထိက ဂဏဝါစက ရမည်းသင်းဆရာတော် ဦးဉာဏ၀ံသ။

(ဂ) တရားချီးမြှင့် ညောင်တုံးမြို့ ရွှေဟသ်ာတောရ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဝိမလ။

ရပ်ကွက်ပေါင်းစုံ
ရာပြည့်ပူဇော်ပွဲ ဆောင်ရွက်ရေးအဖွဲ့
ပဲခူးမြို့



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်၊



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်၊

## ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလ
## ပဲခူးဝိနည်းစာပြန် အနှစ်(၁၀၀)ပြည့် အထိမ်းအမှတ်
## ပူဇော်ပွဲအတွင်း
## သံဃာတော် အပါး (၁၀၀၀) ကျော် နေ့စဉ်အစီအစဉ်များ

၁။ နံနက် (၄) နာရီတိတိ တုံးကြီးခေါက်လျှင် တရားနှလုံးသွင်းချိန်ဟု မှတ်တော်မူကြပါဘုရား။

၂။ နံနက် (၅)နာရီ (၁၀)မိနစ်တိတိ အရုဏ်ကပ်ပါမည်ဘုရား။

၃။ နံနက် (၆)နာရီတွင် (၅၊၆၊၇) ၃-ရက် ဆွမ်းခံကြွရပါမည်ဘုရား။

၄။ နံနက် (၇)နာရီ နံနက်ဆွမ်း ကပ်ပါမည်ဘုရား။

၅။ နံနက် (၈)နာရီတွင် ပရိယတ္တိဝိဇ္ဇောတာရုံအပေါ်ထပ်သို့ သာသနာရေး ဆွေးနွေးရန် ကြွရပါမည်ဘုရား။

၆။ နံနက် (၁၀)နာရီ (၃၀)မိနစ်အချိန်တွင် နေ့ဆွမ်းကပ်ပါမည်ဘုရား။

၇။ နေ့ (၁)နာရီတွင် ရာပြည့်ဓမ္မာရုံသို့ကြွ၍ ဩဝါဒခံယူရပါမည်ဘုရား။

၈။ ညနေ (၄)နာရီ ဖျော်ရည်ကပ်ပါမည်ဘုရား။

၉။ ညစဉ့် (၇)နာရီ တရားပွဲ စပါမည်ဘုရား။

၁၀။ ၇-ရက်နေ့ ညဉ့်(၇)နာရီ သင်္ဂါယနာတင်ပါမည်ဘုရား။

၁၁။ အရုဏ်နှင့် နံနက်ဆွမ်း နေ့ဆွမ်းများ ဘုန်းပေးချိန်ကျသည့်အခါ ဝါ(၅၀)မှအထက် ဆရာတော်ဘုရားကြီးများအား ကြေးမောင်းကြီး (၇)ချက်ထိုး၍ငင်း။ ဝါ(၂၀)မှအထက် ဆရာတော်ဘုရားများအား ကြေးမောင်းကြီး (၆)ချက်ထိုး၍ငင်း။ ကျန်နေသေးသော သံဃာတော်များအား ကြေးမောင်းကြီး (၅)ချက်ထိုး၍ငင်း ပင့်လျှောက်သည့်အခါ အစီအစဉ်အတိုင်း ရာပြည့်ဓမ္မာရုံကြီးသို့ ကြွရောက်ဘုဉ်းပေးတော်မူရန်ပါဘုရား။

(ကျောင်းဆောင်တိုင်းနှင့် စကြံလမ်းစသည်၌ အနှံ့ကပ်ထားသည်။)

သံဃာ့အမှုဆောင်အဖွဲ့
ပဲခူးစာပြန်ရာပြည့်ပူဇော်ပွဲ
ပဲခူးမြို့။



ပဲခူး စာပြန်ရာပြည့် အမှုဆောင်လူကြီးများ အချို့ဖြစ်သည်။



ဆေးအလှူရှင် ဆရာကြီးများနှင့် ဝေယျာဝစ္စဆောင်ရွက်သူ
ကလေးများဖြစ်သည်။

ပဲခူးစာပြန် ရာပြည့်ပူဇော်ပွဲကြီးသို့
ကိုယ်တော်တိုင် ကြွရောက်ချီးမြှင့်ကြသော ဆရာတော်ဘုရားကြီး
များတွင် (နေရာမဆန့်ပါ၍) မှန်းဆကြည်ညိုနိုင်ရုံ
အချို့ဆရာတော်ဘုရားကြီးများကိုသာ ဖော်ပြပါမည်။

၁။ ကျွန်းကြီး ဘုရားကျောင်း ဆရာတော် ဦးဇာဂရ မဟာနာယက သံဃသဘာပတိ သိက္ခာ ၆၆
၂။ ပဲခူး ကျောက်တိုင်ကန် ဒက္ခိဏာသာခါဆရာတော် ဦးကဝိဇ ‌အဂ္ဂနာယက သဘာပတိ သိက္ခာ ၆၆
၃။ ဘီးလင်းမြို့ ဇုတ်သုတ်တောရဆရာတော် ဦးဝါယာမ မဟာနာယက သံဃသဘာပတိ သိက္ခာ ၆၅
၄။ ကညွတ်ကွင်းမြို့ နိဂြောဓာရုံဆရာတော် ဦးရာဇိန္ဒ မဟာနာယက ဥက္ကဋ္ဌ သိက္ခာ ၆၁
၅။ ဘီးလင်းမြို့ ပေါက်တော စမ်းအေးမြိုင်ဆရာတော် ဦးပညာဝံသ နာယက ဝိနယဓရ သိက္ခာ ၆၁
၆။ တောင်ငူမြို့ လှသိန်းတန်ဆရာတော် ဦးကုဏ္ဍလ ရဋ္ဌာညူမဟတ္တ နာယက သိက္ခာ ၆၀
၇။ ကော့ကဒွတ် သီဟိုဠ်ကျောင်းဆရာတော် ဦးပဏ္ဍိစ္စ နာယက ဝိနယဓရ သိက္ခာ ၆၀
၈။ မြင်းခြံမြို့ ရသာမဏိကာရုံဆရာတော် ဦးတေဇဝန္တ ဂိုဏ်းချုပ် သိက္ခာ ၅၇
၉။ စစ်ကိုင်းမြို့ ရွှေဟင်္သာတိုက်သစ်ဆရာတော် ဦးပဏ္ဍိတ အဂ္ဂမဟာပဏ္ဍိတ သိက္ခာ ၅၈
၁၀။ မအူပင်မြို့ ရေလဲလေး ရွှေကျင်ကျောင်းဆရာတော် ဦးတေဇဝန္တ ရဋ္ဌညူမဟတ္တ သိက္ခာ ၅၇
၁၁။ ရန်ကုန်မြို့ ကျိုက်ဝိုင်း ဂန္ဓာရုံဆရာတော် ဦးဣန္ဒက အဂ္ဂမဟာဓမ္မကထိက သိက္ခာ ၅၈
၁၂။ ဖြူးမြို့ ရွှေကျင်မြောက်ကျောင်းဆရာတော် ဦးစန္ဒ ဒု-မဟာနာယက သိက္ခာ ၅၇
၁၃။ ဘီးလင်းမြို့ နောင်တော်ကြီးဆရာတော် ဦးဣန္ဒာသဘ ဝိနယဓရ သိက္ခာ ၅၆
၁၄။ မုပ္ပလင်မြို့ ဇေတဝန်ဆရာတော် ဦးနန္ဒဝံသ အနုနာယက ဝိနယဓရ သိက္ခာ ၅၆
၁၅။ ဝင်းကတ် အရှေ့ကျောင်းဆရာတော် ဦးဇာဂရိယ အနုနာယက ဝိနယဓရ သိက္ခာ ၅၆
၁၆။ ညောင်လေးပင်မြို့ တောရကြီးဆရာတော် ဦးဇာဂရ ဝန်ဆောင်နာယက သိက္ခာ ၅၆
၁၇။ ဘုရားကလေး ဥက္ကံဆရာတော် ဦးသီလာစာရ မဟာနာယက သိက္ခာ ၅၈
၁၈။ ပဲခူး ရွှေကျင် ဓမ္မရိပ်သာဆရာတော် ဦးဝိမလ ဥပမဟာနာယက သိက္ခာ ၅၈
၁၉။ ကျောက်တိုင်ကန် စမ်းကြီးတောရဆရာတော် ဦးသိရိန္ဒ နာယက ဝိနယဓရ သိက္ခာ ၅၇
၂၀။ ပဲခူး မဟာကလျာဏီဆရာတော် ဦးဉာဏဝံသ နာယက ဝိနယဓရ သိက္ခာ ၅၆
၂၁။ ခလပ် အရှေ့ကျောင်းဆရာတော် ဦးနာဂိန္ဒ ဝိနယဓရ သိက္ခာ ၅၆
၂၂။ စစ်ကိုင်း မင်းကွန်း ရတနာဂူဆရာတော် ဦးဣန္ဒာသနိ အဂ္ဂမဟာပဏ္ဍိတ သိက္ခာ ၅၅
၂၃။ တံတားမြို့ ခလုပ်ပိဋကတ်တိုက်ဆရာတော် ဦးဇယန္တ ရဋ္ဌညူမဟတ္တ နာယက သိက္ခာ ၅၃
၂၄။ သုံးခွမြို့ ဘုရားကြီးတိုက်ဆရာတော် ဦးဝိဇယ ရဋ္ဌညူမဟတ္တ နာယက သိက္ခာ ၅၅
၂၅။ တောင်ငူမြို့ ဝိသုဒ္ဓါရုံ မြို့ထောင့်ဆရာတော် ဦးစန္ဒမုနိ ရဋ္ဌညူမဟတ္တ နာယက သိက္ခာ ၅၄
၂၆။ မန္တလေးမြို့ ဝိဇိတာရုံဆရာတော် ဦးဝါသန ရဋ္ဌညူမဟတ္တ ဂန္ထကာရက သိက္ခာ ၅၃
၂၇။ စစ်ကိုင်းမြို့ အနီးစခန်းဆရာတော် ဦးပဏ္ဍိတ အဂ္ဂမဟာပဏ္ဍိတ သိက္ခာ ၅၃
၂၈။ ပြွန်တန်ဆာမြို့ ဝိဇိတာရုံဆရာတော် ဦးဆန္ဒပုဏ္ဏ ရဋ္ဌညူမဟတ္တ နာယက သိက္ခာ ၅၃
၂၉။ ကျုံရက် ပုပ္ဖါရုံကျောင်း ဆရာတော် ဦးပညာသိရိ အနုနာယက ဝိနယဓရ သိက္ခာ ၅၄



အချို့က ရာပြည့်ပူဇော်ပွဲကြီး ထပ်လုပ်ချင်သေးတယ်ဟု ပြောကြသည်။



သူတို့ဆောင်ရွက်တာ ပျော်စရာကြီးပင်။



ပဲခူးမြို့ (ဈေးချို) ဈေးကြီးမှ သီးမျိုးစုံပဒေသာပင်ကြီးများဖြင့် ဤသို့တပျော်တပါးကြီး
အားသွန်ဆောင်ရွက်ကြသည်။



သံဃာတော်အပါး(၁၀၀၀)ကျော်၏ ဝေယျာဝစ္စ နေ့စဉ်ကုသိုလ်ပြုကြသည်။



သံဃာတော်များ စာပြန်နေခိုက် ဤသို့ အချိန်ရတုန်း မဏ္ဍပ်ထည်းမှာ နေကြသည်။



သံဃာတော်အပါး (၁၀၀၀)ကျော်တို့အား ဤသို့ဘူးသီးများကြော်ပြီး အရှက်ကပ်ကြသည်။

၉၈။ ပဲခူးမြို့ မင်းကျောင်းဆရာတော် ဦးနိသဘ နာယက သိက္ခာ ၄၄
၉၉။ ဇောင်းတူ သာသနဝေပုလ္လဆရာတော် ဦးဇဋိလ နာယက သိက္ခာ ၄၄
၁၀၀။ ပဲခူးမြို့ ခေမာရုံသီဆရာတော် ဦးဇာဂရ နာယက သိက္ခာ ၄၄
၁၀၁။ မြောက်ဥက္ကလာပမြို့ ရွှေဥမင်တောရဆရာတော် ဦးကေသရ နာယက သိက္ခာ ၄၃
၁၀၂။ အုန်းနဲ့ ဒက္ခိဏာရုံရွှေကျင်တိုက်ဆရာတော် ဦးဂန္ဓမာ တိုက်အုပ် နာယက သိက္ခာ ၄၃
၁၀၃။ ပဲခူးမြို့ ရွှေအတ္တုပ်ဆရာတော် ဦးမင်္ဂလ နာယက သိက္ခာ ၄၃
၁၀၄။ ချောင်းဆုံမြို့ ကျိုက်ဒိုးတောရဆရာတော် ဦးကောသလ္လ နာယက ဓမ္မကထိက သိက္ခာ ၄၂
၁၀၅။ ရန်ကုန်မြို့ ဝိသုဒ္ဓါရုံဆရာတော် ဦးဝါသဝါဘိဝံသ သကျသီဟ နာယက သိက္ခာ ၄၂
၁၀၆။ မြောက်ဥက္ကလာပမြို့ သီရိဝိနယညောင်တုန်းဆရာတော် ဦးသုန္ဒရ ဓမ္မာစရိယ နာယက သိက္ခာ ၄၂
၁၀၇။ ဘီလင်းမြို့ ကျောင်းသစ်ဆရာတော် ဦးကဝိန္ဒ ဝန်ဆောင်နာယက သိက္ခာ ၄၂
၁၀၈။ ဒါးပိန်မြို့ ဇောတိကာရုံဆရာတော် ဦးကုဏ္ဍလ ဗိဿဘာဏက ဂိုဏ်းထောက် သိက္ခာ ၄၂
၁၀၉။ ညောင်လေးပင်မြို့ ကြားတောရဆရာတော် ဦးငါသဝ ဝန်ဆောင် နာယက သိက္ခာ ၄၂
၁၁၀။ ဖောင်တော်သီမြို့ ရတနာဘုံကျော်ဆရာတော် ဦးပဏ္ဍိတ နာယက သိက္ခာ ၄၂
၁၁၁။ ရွှေလှေ့ သိမ်ကံဆရာတော် ဦးဇောတိက နာယက သိက္ခာ ၄၂
၁၁၂။ ရန်ကုန်မြို့ ကျောင်းတော်ရာ သုံးထပ်ဆရာတော် ဦးတိက္ခိန္ဒြိယ ဝန်ဆောင် နာယက သိက္ခာ ၄၁
၁၁၃။ တောင်ငူမြို့ ရွာလယ်ကျောင်းဆရာတော် ဦးကောသလ္လ ဝိနယဓရ သိက္ခာ ၄၁
၁၁၄။ ပြွန်တန်ဆာမြို့ ဇီးဖြူဘုရားကျောင်းဆရာတော် ဦးဇောတိက နာယက သိက္ခာ ၄၁
၁၁၅။ တောကျွဲအင်းမြို့ အဘိဓမ္မာသိပ္ပံဆရာတော် ဦးယုဇန ဂန္ထကာရက သိက္ခာ ၄၁
၁၁၆။ ဓနုဖြူမြို့ မဟာဗောဓိ ရွှေဟင်္သာဆရာတော် ဦးကုဝေရ ဝန်ဆောင် နာယက သိက္ခာ ၄၀
၁၁၇။ တောင်ဥက္ကလာပမြို့ အောင်သပြေဆရာတော် ဦးတေဇ နာယက သိက္ခာ ၄၀
၁၁၈။ ကင်မွန်းချိုမြို့ အသောကာရုံဆရာတော် ဦးသဇ္ဇန ဝိနယဓရ သိက္ခာ ၄၀
၁၁၉။ ကျိုက်ထိုမြို့ ဆိပ်ဖူးကျောင်းဆရာတော် ဦးကေတု ဝိနယဓရ သိက္ခာ ၄၀
၁၂၀။ တောင်စွန်းမြို့ သော်ကမြောင်ဆရာတော် ဦးစက္ကိန္ဒ ဝိနယဓရ သိက္ခာ ၄၀
၁၂၁။ အုန်းနဲ့ ဒက္ခိဏာရုံရွှေကျင်တိုက်ဆရာတော် ဦးဥတ္တမ ဓမ္မကထိက သိက္ခာ ၄၀
၁၂၂။ အထက်တောကြီး ခေမာရုံဆရာတော် ဦးရေဝတ ဝိနယဓရ သိက္ခာ ၄၀
၁၂၃။ ဝင်းကဒတ် ဘုရားကျောင်းဆရာတော် ဦးဇယန္တ နာယက သိက္ခာ ၄၀
၁၂၄။ ပဲခူးမြို့ နိဂြောဓာရုံဆရာတော် ဦးပဏ္ဍိတ နာယက သိက္ခာ ၄၀
၁၂၅။ ပဲခူးမြို့ မျက်နှာတော်ဆရာတော် ဦးနာဂိန္ဒ နာယက သိက္ခာ ၄၀
၁၂၆။ မင်းရွာ ပဏ္ဍိတာရုံဆရာတော် ဦးပဏ္ဍိတ နာယက သိက္ခာ ၄၀
၁၂၇။ ပဲခူးမြို့ ဘာဝနာသုခဆရာတော် ဦးနာရဒ နာယက သိက္ခာ ၄၀
၁၂၈။ ကျွဲဒည်င်းကုန်း ပိဋကတ်မဉ္ဇူဆရာတော် ဦးကေသရ နာယက သိက္ခာ ၄၀
၁၂၉။ ပဲခူးမြို့ ကိုးသိန်းကျောင်းဆရာတော် ဦးနရိန္ဒ နာယက သိက္ခာ ၄၀
၁၃၀။ လှာပကစ် ဓမ္မဂဂ္ဂါရုံဆရာတော် ဦးအရိယဝံသ နာယက သိက္ခာ ၄၀
၁၃၁။ ပဲခူးမြို့ ရွှေဂူကျောင်းဆရာတော် ဦးအာစိဏ္ဏ နာယက သိက္ခာ ၄၀



ရာပြည့်ပူဇော်ပွဲ ကုသိုလ်ရှင်များ အချို့ကို ဤသို့ တွေ့ရသည်။



ရာပြည့်ပူဇော်ပွဲ ကုသိုလ်ရှင်များ အချို့ကို ဤသို့ တွေ့ရသည်။

၁၃၂။ စစ်ကိုင်းမြို့ မဟာဂန္ဓာရုံဆရာတော် ဦးဝိမလာစာရ ကမ္မဋ္ဌာနာစရိယ ဓမ္မကထိက သိက္ခာ ၃၉

၁၃၃။ ရန်ကုန်မြို့ ကျောက်ကုန်း မေဒိနီတောရဆရာတော် ဦးခေမိန္ဒ နာယက သိက္ခာ ၃၉

၁၃၄။ တောင်ငူမြို့ ဝိပဿနာကျောင်းဆရာတော် ဦးတိလောက ဝိနယဓရ သိက္ခာ ၃၉

၁၃၅။ တောင်ငူမြို့ သရက်တောကျောင်းဆရာတော် ဦးခေမာနန္ဒ နာယက သိက္ခာ ၃၉

၁၃၆။ ဟင်္သာတမြို့ ရွှေဟင်္သာဆရာတော် ဦးဂန္ဓ ဝိနယဓရ ဓမ္မကထိက သိက္ခာ ၃၉

၁၃၇။ တောင်စွန်းမြို့ အုဋ်ဖိုကျောင်းဆရာတော် ဦးနာယက နာယက သိက္ခာ ၃၉

၁၃၈။ စစ်ကိုင်းမြို့ ပဌမဂန္ဓာရုံဆရာတော် ဦးသုပညိန္ဒာဘိဝံသ သကျသီဟ သိက္ခာ ၃၈

၁၃၉။ ထားဝယ်မြို့ လောင်းလုံ ညောင်ပင်ကျောင်းဆရာတော် ဦးသုနန္ဒ ဓမ္မာစရိယ သိက္ခာ ၃၈

၁၄၀။ ညောင်တုံးမြို့ တာကွေ့ကျောင်းဆရာတော် ဦးသမ္ဘောဓ နာယက သိက္ခာ ၃၈

၁၄၁။ ရန်ကုန်မြို့ ဗဟန်း နန္ဒဝန်ဥယျာဉ်ဆရာတော် ဦးဝဏ္ဏ နာယက သိက္ခာ ၃၈

၁၄၂။ သန်လျင်မြို့ သပြေကန် ဓမ္မိကာရာမဆရာတော် ဦးအရိယ အနုနာယက သိက္ခာ ၃၈

၁၄၃။ ကျောက်တန်း မဟာဗောဓိ စာသင်တိုက်ဆရာတော် ဦးပဏ္ဍာဝံသ ဂိုဏ်းထောက် သိက္ခာ ၃၈

၁၄၄။ ပဲနွယ်ကုန်းမြို့ တောရကျောင်းဆရာတော် ဦးဇိန နာယက သိက္ခာ ၃၈

၁၄၅။ ရွှေကျင်မြို့ တောင်ဘက် ဒက္ခိဏာရာမ ဆရာတော် ဦးဣန္ဒာစရိယ နာယက သိက္ခာ ၃၈

၁၄၆။ မန္တလေးမြို့ ဝိဇ္ဇာလင်္ကာရဆရာတော် ဦးဇာနေယျ နာယက သိက္ခာ ၃၇

၁၄၇။ စစ်တွေမြို့ မြို့ဟောင်းပညာသီဟာရာမဆရာတော် ဦးပညာသီဟ ဝန်ဆောင် နာယက သိက္ခာ ၃၇

၁၄၈။ ရန်ကုန်မြို့ ကံသာကျောင်းသစ်ဆရာတော် ဦးပညာဇောတ နာယက သိက္ခာ ၃၇

၁၄၉။ စစ်တောင်းမြို့ ကျောက်တိုင်ကျောင်းဆရာတော် ဦးစက္ကိန္ဒ နာယက သိက္ခာ ၃၇

၁၅၀။ သာကေတမြို့ ပညာလင်္ကာရ ဆရာတော် ဦးပညာသိရိ ဝိနယဓရ သိက္ခာ ၃၇

၁၅၁။ ပြွန်တန်ဆာမြို့ မင်းကျောင်းဆရာတော် ဦးပဏ္ဍဝ နာယက သိက္ခာ ၃၇

၁၅၂။ ပြွန်တန်ဆာမြို့ လှည်းဆိပ်ကျောင်းဆရာတော် ဦးပဏ္ဍိစ္စ နာယက သိက္ခာ ၃၇

၁၅၃။ အုဋ်တွင်းမြို့ ကံကနေ့လေးတောရဆရာတော် ဦးဉာဏိက ဝိနယဓရ သိက္ခာ ၃၇

၁၅၄။ တောင်ငူမြို့ ကမ္မဋ္ဌာန်းကျောင်းဆရာတော် ဦးစန္ဒောဘာသ နာယက သိက္ခာ ၃၆

၁၅၅။ သာဝတ္ထိမြို့ ပုပ္ဖါရုံကျောင်းဆရာတော် ဦးကလျာဏ ဝိနယဓရ သိက္ခာ ၃၆

၁၅၆။ ကော့ချဲ ရွှေကျင်ကျောင်းဆရာတော် ဦးသြဘာသ ဓမ္မာစရိယ သိက္ခာ ၃၆

၁၅၇။ မန္တလေးမြို့ ဝိသုဒ္ဓါရုံတိုက်သစ် ဝါဆိုဆရာတော် ဦးအဂ္ဂိယပဏ္ဍိတ ဓမ္မာစရိယ
ဓမ္မကထိက သိက္ခာ ၃၅

၁၅၈။ ရန်ကုန်မြို့ ဗဟန်း သီရိစန္ဒာဆရာတော် ဦးစာရိတ္တ နာယက သိက္ခာ ၃၅

၁၅၉။ ရန်ကုန်မြို့ ရတနာစမ်းချောင်းဆရာတော် ဦးနန္ဒမာလာ နာယက သိက္ခာ ၃၅

၁၆၀။ ရန်ကုန်မြို့ ဗဟန်း သိမ်ဦးကျောင်းဆရာတော် ဦးဒဿန နာယက သိက္ခာ ၃၅

၁၆၁။ သပြု ဥတ္တရာရုံဆရာတော် ဦးဇာနေယျ နာယက သိက္ခာ ၃၅

၁၆၂။ ကျွန်းကြီး ပစ္ဆိမာရုံဆရာတော် ဦးဉာဏိန္ဒ နာယက သိက္ခာ ၃၅

၁၆၃။ ကျိုက်ကော်မြို့ နန္ဒဝန်ကျောင်းဆရာတော် ဦးနန္ဒ နာယက သိက္ခာ ၃၅

၁၆၄။ ရန်ကုန်မြို့ ဗဟန်း ပုပ္ဖါရုံကျောင်းဆရာတော် ဦးဝိဇယာဘိဝံသ ဓမ္မာစရိယ သိက္ခာ ၃၄



လှူဒါန်းကြသော ထီး ဘိနပ် သင်္ကန်း စသည်တို့ကို ဤသို့ ရေးမှတ် ဖြတ်ပိုင်းပေးကြသည်၊



အလှည့်ကျ ဆွမ်းအလှူရှင်များ ဤသို့ တပျော်တပါးကြီး ဝမ်းမြောက်အားတက် ဆောင်ရွက်ကြသည်။

၁၆၅။ ဗိုလ်ကတော် ကျောင်းသစ်ဆရာတော် ဦးစက္ကိန္ဒ နာယက သိက္ခာ ၃၄
၁၆၆။ ဝင်းက ပေါ်တော်မူကျောင်းဆရာတော် ဦးဥက္ကံသ နာယက သိက္ခာ ၃၄
၁၆၇။ ပုဇွန်မြောင်း ညောင်လွန့်တောရဆရာတော် ဦးဝါသုဒေဝ နာယက သိက္ခာ ၃၄
၁၆၈။ ကျောက်မဲမြို့ သီဟိုဠ်ကျောင်းဆရာတော် ဦးပညာဝံသ ဓမ္မာစရိယ သိက္ခာ ၃၃
၁၆၉။ မလှိုင်မြို့ သာသနဝေပုလ္လဆရာတော် ဦးစန္ဒိမာ နာယက သိက္ခာ ၃၃
၁၇၀။ ထားဝယ်မြို့ သင်းကျွန်းတိုက်ကျောင်းဆရာတော် ဦးသီရိသုမန ဓမ္မာစရိယ သိက္ခာ ၃၃
၁၇၁။ မြိတ်မြို့ ဘုရားငါးဆူကျောင်းဆရာတော် ဦးပညောဘာသ နာယက သိက္ခာ ၃၆
၁၇၂။ ရန်ကုန်မြို့ ပုဇွန်တောင် ရွှေကျင်ကျောင်းဆရာတော် ဦးကောသလ္လ ဓမ္မာစရိယ
ဘိအေ သိက္ခာ ၃၃
၁၇၃။ ကျိုက္ကစံ ပညာတံခွန်ကျောင်းဆရာတော် ဦးဥက္ကံသ နာယက သိက္ခာ ၃၃
၁၇၄။ မုပ္ပလင်မြို့ ဒညင်းကုန်းကျောင်းဆရာတော် ဦးအဂ္ဂဝံသ နာယက သိက္ခာ ၃၃
၁၇၅။ မဒေါက်မြို့ သောင်လယ် ဥရုဝေလာရုံဆရာတော် ဦးကေတုဝရ နာယက သိက္ခာ ၃၃
၁၇၆။ မအူပင်မြို့ ဓမ္မာရုံကျောင်းဆရာတော် ဦးပဏ္ဍိတ နာယက ဂိုဏ်းထောက် သိက္ခာ ၃၂
၁၇၇။ သာဝတ္ထိမြို့ ကြာအင်းကျောင်းဆရာတော် ဦးစန္ဒသီရိ နာယက သိက္ခာ ၃၂
၁၇၈။ ဆွာမြို့ ခင်တန်းကျောင်းဆရာတော် ဦးဓမ္မသာရ နာယတ သိက္ခာ ၃၂
၁၇၉။ ကျိုက်ထိုမြို့ တိုက်တောင်ကျောင်းဆရာတော် ဦးသုနန္ဒ ဝိနယဓရ သိက္ခာ ၃၂
၁၈၀။ ဘီလင်းမြို့ ဇေယျာအောင်မြေဆရာတော် ဦးဣန္ဒက ဓမ္မကထိက သိက္ခာ ၃၂
၁၈၁။ ရန်ကုန်မြို့ စော်ဘွားကြီးကုန်း အသောကာရုံဆရာတော် ဦးဉာဏဝရ နာယက သိက္ခာ ၃၂
၁၈၂။ ပဲနွယ်ကုန်း သာသနပဇ္ဇောတာရုံကျောင်းဆရာတော် ဦးတေဇဝန္တ နာယက သိက္ခာ ၃၂
၁၈၃။ ရန်ကုန်မြို့ ဗဟန်းရွှေဟင်္သာဆရာတော် ဦးဇိမလ ဓမ္မကထိက သိက္ခာ ၃၁
၁၈၄။ တောင်ငူမြို့ ကျောင်းသစ်ကျောင်းဆရာတော် ဦးသာသန နာယက သိက္ခာ ၃၁
၁၈၅။ တောင်စွန်းမြို့ သရက်ကုန်းကျောင်းဆရာတော် ဦးသုန္ဒရ နာယက သိက္ခာ ၃၁
၁၈၆။ သက်န်းကျွန်းမြို့ ဓမ္မိကာရုံဆရာတော် ဦးသုမန နာယက သိက္ခာ ၃၁
၁၈၇။ ပြွန်တန်ဆာမြို့ သာသနသောဘဏိကာရုံဆရာတော် ဦးဝိသုဒ္ဓ ဝန်ဆောင် နာယက သိက္ခာ ၃၁
၁၈၈။ ရန်ကုန်မြို့ ကံဘဲ့ရွှေဟင်္သာတိုက်သစ်ဆရာတော် ဦးသုစိတ္တာဘိဝံသ
သ-စ-အ ဓမ္မာစရိယ သိက္ခာ ၃၀
၁၈၉။ သာဝတ္ထိမြို့ ရေလွှဲပေါက်ကျောင်းဆရာတော် ဦးဥတ္တမ နာယက သိက္ခာ ၃၀
၁၉၀။ အေးရွာ ဝေဠုဝန်စာသင်တိုက်ဆရာတော် ဦးပဒုမ နာယက သိက္ခာ ၃၀
၁၉၁။ ဆွာမြို့ ပုပ္ဖာရုံကျောင်းဆရာတော် ဦးသောဘဏ နာယက သိက္ခာ ၂၉
၁၉၂။ ရန်ကုန်မြို့ ဗဟန်းဓမ္မိကာရုံ တောင်စွန်းဆရာတော် ဦးယသ ဓမ္မာစရိယ သိက္ခာ ၂၈
၁၉၃။ ရန်ကုန်မြို့ ဗဟန်း မန်းဦးကျောင်းဆရာတော် ဦးစန္ဒဝံသ နာယက သိက္ခာ ၂၈
၁၉၄။ တောင်ငူမြို့ မြစံငူကျောင်းဆရာတော် ဦးကောဝိဒ နာယက သိက္ခာ ၂၈
၁၉၅။ ဇလွန်မြို့ မြို့မဓမ္မာရုံကျောင်းဆရာတော် ဦးသီလဝန္တာဘိဝံသ ဓမ္မကထိက သိက္ခာ ၂၈
၁၉၆။ စစ်တောင်းမြို့ ဘုရားကြီးကျောင်းဆရာတော် ဦးသုန္ဒရ နာယက သိက္ခာ ၂၈



လျှော်ဖွတ်ရေး နေ့စဉ်ဆိုတော့ ပင်ပန်းစရာပင်၊ အစအဆုံး အားခဲဆောင်ရွက်ကြသည်။



လျှော်ဖွတ်ပြီးတော့ ဤသို့ ခေါက်ပြီး မီးပူတိုက်ရပြန်၏။ (ဇိုင်းဂနိုင်းမြောက်ပိုင်း)

၁၉၇။ ကွင်းဆိပ် မဂ္ဂင်ကျောင်းဆရာတော် ဦးတိလောက နာယက သိက္ခာ ၂၈

၁၉၈။ ရန်ကုန်မြို့ ကံဘဲ့ ကျောက်ကုန်း မေဒိနီတောရ ဝန်ဆောင်ဆရာတော်
ဦးသုန္ဒရ နာယက ဓမ္မာစရိယ သိက္ခာ ၂၇

၁၉၉။ တောင်ငူမြို့ ဝိသုဒ္ဓါရုံ သိမ်ဦးကျောင်းဆရာတော် ဦးဝိသာရဒပဏ္ဍိတ နာယက သိက္ခာ ၂၇

၂၀၀။ တောင်ငူမြို့ ဝိသုဒ္ဓါရုံမြို့ထောင့်စာချဆရာတော် ဦးဥတ္တမဝံသ ဝန်ဆောင် နာယက သိက္ခာ ၂၃

၂၀၁။ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံ ဇီးပင်ဆရာတော် ဦးကောဏ္ဍညာဘိဝံသ သ-စ-အ သိက္ခာ ၂၂

၂၀၂။ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံ ဆိုင်းတန်းဆရာတော် ဦးပညာသီရိဘိဝံသ
သကျသီဟ ပါဠိပါဂူ သိက္ခာ ၂၁

၂၀၃။ ဖျာပုံမြို့ ဇီဝကာရာမဆရာတော် ဦးဉာဏိဿရာဘိဝံသ သကျသီဟ အစိုးရ သိက္ခာ ၂၀

၂၀၄။ မြဝတီမြို့ မိုးကုတ်စကဲဝိုင်းဆရာတော် ဦးအရိယ ဓမ္မာစရိယ သိက္ခာ ၂၀

၂၀၅။ တွံတေးမြို့ စကြံ၊ကျောင်းဆရာတော် ဦးတေဇသန နာယက သိက္ခာ ၂၀

၂၀၆။ ထောက်ကြံ့ ပုပ္ဖါရုံကျောင်းဆရာတော် ဦးကုမာရ ဓမ္မာစရိယ သိက္ခာ ၂၀

၂၀၇။ ရန်ကုန်မြို့ ကံဘဲ့ ကျောက်ကုန်း မေဒိနီတောရ စာချဆရာတော် ဦးဉာဏဝံသ
ဒီဃနိကာယ ဓမ္မာစရိယ ပါဠိပါရဂူ သိက္ခာ ၁၉

၂၀၈။ အောင်ပန်းမြို့ ပစ္စုပ္ပန်ဓမ္မရိပ်သာဆရာတော် ဦးဓနိတ ကမ္မဋ္ဌာနာစရိယ သိက္ခာ ၁၈

၂၀၉။ စစ်ကိုင်းမြို့ ဟံသာဂီရိစာချဆရာတော် ဦးဉာနိဿရ ဓမ္မာစရိယ ဓမ္မကထိက သိက္ခာ ၁၅

၂၁၀။ မော်လမြိုင်မြို့ နတ်ရေတွင်းဆရာတော် ဦးသုမနာစာရ ဓမ္မာစရိယ သိက္ခာ ၁၂

ဤမျှ မြော်မှန်း အာရုံပြု ကုသိုလ်ပွါး၍ရရုံ (၂၁၀)ပါးမျှသော ဆရာတော်များကိုသာ ဖော်ပြလိုက်ပါသည်၊ အရပ်ဝေးမှ အပါး (၃၀၀) အရပ်နီးမှ အပါး (၇၆၄) ပေါင်း (၁၀၆၄) ပါးဖြစ်ပါသည်၊ ဇဟုသုတနှင့် ကြည်ညိုရန်အလို့ငှါ ညွှန်သည်တော်အဖြစ် ကြွလာသော သံဃာတော်များ ဤစာရင်း၌ ဖော်ပြခြင်း မပြုပါ။

စာပြန် ရာပြည့်(၁၃၃၂)ခုနှစ် ပဲခူးခရိုင်
**အရည၀ါသီ ရွှေကျင်နိကာယ ဝါဆိုစာရင်းအကျဉ်းချုပ်**

| ဝိနည်းပြန်ဌာန | ကျောင်းပေါင်း | ရဟန်းပေါင်း | ရှင်ပေါင်း | ၂-ရပ်ပေါင်း |
|---|---|---|---|---|
| ပဲခူးမြို့၊ ကြခတ်ဝိုင်း | ၁၃၃ | ၇၃၄ | ၆၁၆ | ၁၃၅၀ |
| ပြွန်တန်ဆာမြို့၊ သောဘဏကာရုံ | ၁၅ | ၅၉ | ၄၃ | ၁၀၂ |
| ညောင်လေးပင်၊ တောရကြီး | ၂၇ | ၁၄၄ | ၁၃၇ | ၂၈၁ |
| ရွှေကျင်၊ ကျောင်းဝိုင်းကြီး | ၁၉ | ၅၅ | ၄၀ | ၉၅ |
| ကျောက်တန်း၊ မဟာဗောဓိ | ၂၂ | ၁၆၂ | ၉၇ | ၂၅၉ |
| ညောင်ခါးရှည်၊ ရွှေဂူ | ၂၂ | ၆၉ | ၁၇၀ | ၂၃၉ |
| ၆-ဌာနဋ္ဌ | ၂၃၈ | ၁၂၂၃ | ၁၁၀၃ | ၂၃၂၆ |

ပဲခူး စာပြန်ရာပြည့် ပူဇော်ပွဲကြီးကျင်းပသော ၁၃၃၂-ခုနှစ်၌
မန္တလေးမြို့ အနောက်ပြင် မဟာဝိသုဒ္ဓါရုံတိုက်
ဇဟိုဝန်ဆောင်နာယကချုပ် ပိုက်ကျုံးဆရာတော် ထုတ်ပြန်ကျေညာချက်အရ

မြန်မာတပြည်လုံး ရွှေကျင်နိကာယ ဝါဆိုသံဃာစာရင်းအကျဉ်းချုပ်
**အောက်ပါအတိုင်းဖြစ်ပါသည်၊**

| | |
|---|---|
| (က) ကျောင်းပေါင်း | ၁၇၈၇ |
| (ခ) ရဟန်းတော်ပေါင်း | ၆၂၂၆ |
| (ဂ) သာမဏေပေါင်း | ၆၉၁၀ |
| (ဃ) ၂-ရပ်(သံဃာတော်)ပေါင်း | ၁၃၁၃၆ |

ဒုတိယကဏ္ဍ ပြီး၏။

# တတိယကဏ္ဍ

## ပဲခူးခရိုင်၊ အရညဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန်ပွဲအနှစ် (၁၀၀)ပြည့် အထိမ်းအမှတ် တိုင်းအသီးသီး ခရိုင်အသီးသီးတို့မှ သံဃာတော်အပါး (၁၀၀၀) ကြီးမှူးပါဝင်သော ဝိနည်းပိဋကတ် ထွက်အမြွက်ပူဇော်ပွဲကြီး ဖွင့်ပွဲမင်္ဂလာ ဘိတ်ကြားစာ

အနှစ် (၁၀၀)မှာ အဖြစ်တခါသာ ပေါ်လာရန်အခွင့်ရှိသော ကြုံတောင့်ကြုံခဲ စာပြန်ရာပြည့် အထိမ်းအမှတ်“ဝိနည်းပိဋကတ်၊ထွက်အမြွက်”ပူဇော်ပွဲကြီးကို တဘက်ပါ အစီအစဉ်အတိုင်းပြုလုပ်မည်ဖြစ်ပါ၍ ဗုဒ္ဓမြတ်စွာသာသနာတော်ကြီးကို ရိုသေလေးစား ဂုဏ်ပြုသောအနေအားဖြင့် ကြွရောက်ကြပါရန် လေးမြတ်စွာ ဘိတ်ကြားအပ်ပါသည်။

| | |
|---|---|
| ကြွရောက်ရန်ဌာန | ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် “ဝိနယုဿဝ ရာပြည့် ဓမ္မာရုံတော်”။ |
| ကြွရောက်ရန်ရက်နေ့ | ၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၅-ရက်၊ (၁၈-၁၁-၇၀) ဗုဒ္ဓဟူးနေ့။ |
| ကြွရောက်ရန်အချိန် | နေ့ ၁၂-နာရီ။ |

ရပ်ကွက်ပေါင်းစုံ
ရာပြည့်ပူဇော်ပွဲဆောင်ရွက်ရေးဗဟိုအဖွဲ့
ပဲခူးမြို့၊



အခမ်းအနားမှူး ဂိုဏ်းဝန်ဆောင် ကြခတ်ဝိုင်းဆရာတော် ရာပြည့်အစီအစဉ်များကို လျှောက်ထားနေစဉ်။



၆-သိန်းတန် ရာပြည့်မဏ္ဍပ်ရုံကြီးကို ဤသို့ အသုံးပြုနိုင်ပြီ၊ စေတနာရှင်များ အထူးဝမ်းမြောက်ကြသည်။



ရာပြည့်ပွဲ ဇာတ်ပွဲကြီး အောင်မြင်ကြောင်း အထိမ်းအမှတ် ဗူးဖောင်း(၁၀၈)လုံး၊ တင်ကျီးငှက်
(၁၀၈)ကောင်နှင့် ရာပြည့်သာသနအလံတော်ကို လွှတ်တင်လျက် အတွင်းရေးမှူး ဦးစံရင်
အောင်ပြီဟု အားရစွာ အော်နေသည်၊

**မှတ်ချက်။** ။၎င်းအလံတော်ကို ရရှိသူ လာပို့ပါက ငွေ(၁၀၀) ကျပ်ဖြင့် ရွေးယူပါမည့်အကြောင်း
ရေးပေးလိုက်သည်၊ နောင် လာပို့သည်။



အရပ်ဝေးမှ ချီးမြှင့်ကြွရောက်ကြသည့် ဆရာတော်ကြီးများ ဘွဲ့တော်နှင့် နေရပ်စသည်ကို ကျေညာလျှောက်ထားနေစဉ်



ဗဟိုသာသနာရေးဌာန အထူးအရာရှိ ဦးကျော်ညွန့် လျှောက်ထားနေပုံ



အထက်ပါ ရုပ်ပြည့်သာသနာ့အလံတော်ကို ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလဆုတ် (၅)ရက် ဖွင့်ပွဲ၌ လွှတ်တင်၊ပဲခူးခရိုင် အဝိုင်းရွှေပေါ်ကုန်းရွာ လယ်သမားဦးမောင်ချိန် ထင်းခုတ်သွားသဖြင့် လှော်ကားရွာအနောက်ဘက် ကျောက်ခွက်ခေါ် တောထည်း၌ ၁၃၃၂-ခုနှစ် တန်ခူးလဆန်း ၁၂-ရက် နေ့ ၁၂-နာရီအချိန် ၄-လနှင့် ၂၁-ရက်အကြာမှ ရရှိလာအပ်၍ ဆုတော်ငွေ (၁၀၀ိ)ကျပ် ပေးခဲ့ပြီ။

အရညဝါသီ ရွှေကျင်နိကာယသမိုင်း

## ရာပြည့်ပူဇော်ပွဲကြီး
### ဖွင့်ပွဲအခမ်းအနားအစီအစဉ်

၁။ သံဃာ့သဘာပတိဆရာတော်များ‌တင်မြှောက်ပါရန် လျှောက်ထားချက် (အခမ်းအနားမှူး)

၂။ သဘာပတိ သမ္မုတိရ ဆရာတော်ထံမှ (၅) ပါးသီလခံယူရန် (ပရိသတ်အားလုံး)

၃။ အခမ်းအနားဖွင့်ဂါထာ (မန္တလေးမြို့ ဇယမေဒနီဆရာတော်)

၄။ ပဲခူးခရိုင် သံဃာတော်များ၏ လျှောက်ထားချက် (ဒက္ခိဏာသာခါရာမဆရာတော်)

၅။ ရာပြည့်ပူဇော်ပွဲကြီးအတွက် အနုမောဒနာပြုပါကြောင်း(ဦးကျော်ညွန့် ဗဟိုသာသနာရေးဌာန)

၆။ ရာပြည့်ဆောင်ရွက်ရေး အဖွဲ့ပေါင်းစုံ၏ လျှောက်ထားချက် (ဗိုလ်မှူးကြာညွန့် အထွေထွေ ဆောင်ရွက်ရေးအဖွဲ့ဥက္ကဋ္ဌ)

၇။ ပဲခူး ဒကာ ဒကာမများ၏ လျှောက်ထားချက် (ခရိုင် တရားမနှင့် စက်ရှင်တရားသူကြီး ဦးဘဆန်း)

၈။ အဘိဓဇ မဟာရဋ္ဌဂုရု သာသနာပိုင် စံကင်းဆရာတော်ဘုရားကြီး၏ ရာပြည့်သြဝါဒ (ကြိုးခွေဖွင့်)

၉။ ဝိနယစာပြန်ရာပြည့် ဓမ္မဒေသနာ (အဂ္ဂမဟာပဏ္ဍိတ ညောင်တုံးမြို့ ရွှေဟသ်ာတောရ ဆရာတော်)

၁၀။ အာသီသပတ္ထနာဂါထာများ (မန္တလေးမြို့ ရမည်းသင်းဆရာတော်)

၁၁။ တိုးတက်ရောင်ဝါ ရတုပိုဒ်စုံ (သာသနာပြုအသင်းလူကြီး ဦးတိုး)

၁၂။ ကိုးဆင့်ထိန်ဝါ ရတုပိုဒ်စုံ (သုဇာတာ ဒေါ်အေးကြည်)

၁၃။ ရေစက်ချအမျှဝေပြီး သံဃာတော်အပါး (၁၀၀၀) အလှည့်ကျဖြင့် ဝိနည်းငါးကျမ်း ပါဠိတော်ကို အသံမဆိတ် ရွတ်ဆိုတော်မူခြင်းဖြင့် ပဌမနေ့အစီအစဉ်များ ရပ်နားရန်။



အဂ္ဂမဟာပဏ္ဍိတ ရန်ကုန်မြို့ ကမ္ဘာအေး ဇမ္ဗုဒီပဆရာတော်ဘုရားစသည် ကန်တော့ခံနေတော်မူကြပုံ။



အဂ္ဂမဟာနာယက ဒက္ခိဏာသာခါရာမဆရာတော်ဘုရားကြီး၏ လျှောက်ထားချက်ကို ရေလယ်ဆရာတော် ဖတ်ကြားနေပုံ။

## ဝိနည်းပိဋကတ် ထွင်အမြတ်ပူဇော်ပွဲကြီး
## ဖွင့်ပွဲအခမ်းအနား
## သဘာပတိဆရာတော်ဘုရားကြီးများ

၁။ ရတ္တညူမဟာနာယက ပဲခူးခရိုင် ကျွန်းကြီးဘုရားကျောင်းဆရာတော် ဦးဇာဂရ ၆၆ ဝါ
၂။ အဂ္ဂမဟာနာယက ကျောက်တိုင်ကန် ဒက္ခိဏသာခါရာမဆရာတော် ဦးကဝိဇ ၆၆ ဝါ
၃။ ရတ္တညူမဟာနာယက သထုံမြို့ ဇုတ်သုတ်တောရဆရာတော် ဦးဝါယာမ ၆၅ ဝါ
၄။ ရတ္တညူမဟာနာယက သထုံခရိုင် ပေါက်တော စမ်းအေးမြိုင်ဆရာတော် ဦးပညာဝံသ ၆၁ ဝါ
၅။ ရတ္တညူ မဟာနာယက ကညွတ်ကွင်းမြို့ နိဂြောဓာရုံဆရာတော် ဦးရာဇိန္ဒ ၆၁ ဝါ
၆။ ရတ္တညူမဟာနာယက တောင်ငူမြို့ လှသိန်းတန်ဆရာတော် ဦးကုဏ္ဍလ ၆၀ ဝါ
၇။ ရတ္တညူမဟာနာယက ကော့ကဒွတ်သိဟိုဠ်ကျောင်းဆရာတော် ဦးပဏ္ဍိစ္စ ၆၀ ဝါ
၈။ မဟာနာယက ပဲခူးခရိုင် ဥက္ကံဘုရားကလေးဆရာတော် ဦးသီလာစာရ ၅၈ ဝါ
၉။ ဥပမဟာနာယက ပဲခူးမြို့ ရွှေကျင်ဓမ္မရိပ်သာဆရာတော် ဦးဝိမလ ၅၈ ဝါ
၁၀။ ရန်ကုန်မြို့ အဂ္ဂမဟာဓမ္မကထိက ကျိုက်ဝိုင်းဆရာတော် ဦးဥက္ကဋ္ဌ ၅၈ ဝါ
၁၁။ အဂ္ဂမဟာပဏ္ဍိတ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတိုက်သစ်ဆရာတော် ဦးပဏ္ဍိတ ၅၈ ဝါ
၁၂။ ရတ္တညူမဟာနာယက မအူပင်မြို့ ရေလဲကလေးရွှေကျင်ဆရာတော် ဦးတေဇဝန္တ ၅၇ ဝါ
၁၃။ နာယက ဝိနယဓရ ပဲခူးမြို့ စမ်းကြီးတောရဆရာတော် ဦးသီရိန္ဒ ၅၇ ဝါ
၁၄။ နာယက ဝိနယဓရ ပဲခူးမြို့ မဟာကလျာဏီဆရာတော် ဦးဉာဏဝံသ ၅၆ ဝါ
၁၅။ ရတ္တညူမဟာနာယက သထုံမြို့ ဇုတ်သုတ်နောင်တော်ကြီးဆရာတော် ဦးဥက္ကဋ္ဌာသဘ ၅၆ ဝါ
၁၆။ ရတ္တညူမဟာနာယက ညောင်လေးပင်မြို့ တောရကြီးဆရာတော် ဦးဇာဂရ ၅၆ ဝါ
၁၇။ နာယက ဝိနယဓရ ပဲခူးခရိုင် ခလပ်အရှေ့ကျောင်းဆရာတော် ဦးနာဂိန္ဒ ၅၆ ဝါ
၁၈။ ရတ္တညူမဟာနာယက မုပ္ပလင်ဇေတဝန်ဆရာတော် ဦးနန္ဒဝံသ ၅၆ ဝါ
၁၉။ ရတ္တညူမဟာ နာယက သုံးခွမြို့ ဘုရားကြီးဆရာတော် ဦးဝိဇယ ၅၅ ဝါ
၂၀။ အဂ္ဂမဟာပဏ္ဍိတ မင်းကွန်း ရတနာဂူကျောင်းဆရာတော် ဦးဥက္ကဋ္ဌာသနိ ၅၅ ဝါ
၂၁။ ရတ္တညူမဟာနာယက တောင်ငူမြို့ ဝိသုဒ္ဓါရုံမြို့ထောင့်ဆရာတော် ဦးစန္ဒမုနိ ၅၄ ဝါ
၂၂။ ရတ္တညူမဟာနာယက ဝေါမြို့ ကျုံးရက် ပုပ္ဖါရုံဆရာတော် ဦးပညာသီရိ ၅၄ ဝါ
၂၃။ ဂန္ထကာရက ရတ္တညူမဟာနာယက မန္တလေးမြို့ ဝိဇိတာရုံဆရာတော် ဦးဝါသန ၅၃ ဝါ
၂၄။ ရတ္တညူ မဟာနာယက ပြွန်တန်ဆာမြို့ ဝိဇိတာရုံဆရာတော် ဦးဆန္ဒပုဏ္ဏ ၅၃ ဝါ
၂၅။ ရတ္တညူ မဟာနာယက တုံတေးမြို့ ခလုပ်ပိဋကတ်တိုက်ကျောင်းဆရာတော် ဦးဇယန္တ ၅၃ ဝါ
၂၆။ အဂ္ဂမဟာပဏ္ဍိတ စစ်ကိုင်းမြို့ အနီးစခန်းကျောင်းဆရာတော် ဦးပဏ္ဍိတ ၅၂ ဝါ
၂၇။ ရတ္တညူနာယက ပဲခူးမြို့ အရှေ့ရွှေနံ့သာဆရာတော် ဦးပဏ္ဍိစ္စ ၅၂ ဝါ
၂၈။ ရတ္တညူနာယက ပဲခူးခရိုင် မင်းရွာအရှေ့ကျောင်းဆရာတော် ဦးကုဏ္ဍလ ၅၂ ဝါ
၂၉။ ရတ္တညူနာယက ပဲခူးမြို့ ရွှေဘုံဆင့်ဆရာတော် ဦးပဏ္ဍိတ ၅၂ ဝါ
၃၀။ ရတ္တညူမဟာနာယက မအူပင်မြို့ ဓမ္မိကာရုံဆရာတော် ဦးဝဇိရပည ၅၁ ဝါ



သံဃာ့သမ္မုတိရ ညောင်တုံးမြို့ အဂ္ဂမဟာပဏ္ဍိတ
ရွှေဟင်္သာတောရဆရာတော်ဘုရား ရာပြည့်ဖွင့်ပွဲ၌ တရားချီးမြှင့်နေပုံ



ဤသို့တက်နေသော ဗုံးဖောင်းများနှင့် အလံတော်ကို အားရစွာ ဝိုင်းဝန်းကြည့်ရှုနေကြသည်။

၃၁။ အဂ္ဂမဟာပဏ္ဍိတ ရန်ကုန်မြို့ ကမ္ဘာအေး ဇမ္ဗုဒီပဆရာတော် ဦးဉာဏုတ္တရ ၅၁ ဝါ
၃၂။ အဂ္ဂမဟာပဏ္ဍိတ ညောင်တုံးမြို့ ရွှေဟင်္သာတောရဆရာတော် ဦးဝိမလ ၄၇ ဝါ
၃၃။ ရတ္တညူမဟာနာယက ရွှေကျင်မြို့ ကြားတောရဆရာတော် ဦးဉာဏဝံသ ၅၁ ဝါ
၃၄။ ရတ္တညူ မဟာနာယက ရွှေကျင်မြို့ တပ်ကုန်းတောရဆရာတော် ဦးသြဘာသ ၅၁ ဝါ
၃၅။ ရတ္တညူ မဟာနာယက ပဲခူး ဒေးစွန်ပါတောင် ဆင်ပုန်းတောရဆရာတော် ဦးကုဏ္ဍလ ၅၁ ဝါ
၃၆။ ရတ္တညူမဟာနာယက ဝေါမြို့ ညောင်ခါးရှည် ရွှေဂူဆရာတော် ဦးသုဝဏ္ဏ ၅၀ ဝါ
၃၇။ ရတ္တညူမဟာနာယက မယင်း ဓမ္မသိင်္ဂီတိုက်ကျောင်းဆရာတော် ဦးကုသလ ၅၁ ဝါ
၃၈။ ရတ္တညူမဟာနာယက ဝေါမြို့ ကဒွတ်အရှေ့ကျောင်းဆရာတော် ဦးတေဇ ၅၀ ဝါ



ဆရာတော်ကြီးများ၏ ဩဝါဒကို ရာပြည့်ဖွင့်ပွဲတွင် ဤသို့နာယူကြသည်။



ဗဟိုသာသနာရေးဌာန အထူးအရာရှိ ဦးကျော်ညွန့်နှင့် ပရိသတ်များ တရားနာယူနေကြစဉ်။

မလှိုင်မြို့ ကန်ကြီးသိရီသောမာရုံ
(ဘာသန္တရဆောက ဓမ္မာစရိယ ကာဗျဝိဒူ)
ဆရာတော် ဦးစန္ဒာဇောတိ
ရေးသားလျက် မန္တလေးမြို့ နိုင်ငံကျော်ဓမ္မကထိက ဓမ္မာစရိယ
ဇယမေဒနီဆရာတော် ဦးအဂ္ဂိယပဏ္ဍိတ
ဖတ်ကြားဖွင့်လှစ်အပ်သော (အနှစ်တရာပြည့်ပူဇော်ပွဲကြီး)

**အခမ်းအနားဖွင့် လျှောက်ထားလွှာ**

ပါတိမောက္ခသံဝရဂုဏ် ကိုယ်လုံးထုံတော်မူကြသော ရွှေကျင်နိကာယ သာသနာ့ထိပ်ခေါင်တင် ကျေးဇူးရှင် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား—

တပည့်တော်များ၏ ပဲခူးဌာန အရညဝါသီ ရွှေကျင်ဂိုဏ်းကြီး၏ သမိုင်းမြတ်ဖြစ်တော်စဉ် သာသနာဝင် နောက်ကြောင်းကို ပြန်ပြောင်း၍ လျှောက်ထားရပါလျှင် ရှေးဟောင်း အတိတ်ခေတ်အခါက ဤပဲခူးမြို့နယ်နိမိတ်အတွင်း၌ ဂါမဝါသီဂိုဏ်းသား အများစု သံဃာတော်တို့သည်သာ ဦးစွာပဌမ ဂိုဏ်းဂဏသဘော မသက်ရောက်၊ သူ့သဘာဝအလျှောက် တည်ရှိခဲ့ပါသည်ဘုရား။

ထိုအချိန်အခါဝယ် မြန်မာပြည်အထက်ပိုင်းဌာန၌ သာသနာ့ဒါယကာဖြစ်တော်မူသော ပဋ္ဌမ သင်္ဂါယနာတင် ဘဝရှင်မင်းတုန်းမင်းတရားကြီးသည် ကြီးမားသော သမ္မာဆန္ဒတော်ကို ရှေ့ထားပြီးလျှင် သာသနာ့ပါမောက် ရဲရဲတောက် ထူးချွန်တော်မူသော ဇာဂရာဘိဇ ဓမ္မသေနာပတိ ပဌမရွှေကျင် ဆရာတော်ဘုရားကြီး၏ အကူအညီဖြင့် မြန်မာပြည်အရပ်ရပ်တွင် သာသနာ့အညစ်အကြေး သန့်ရှင်းရေး ကိစ္စတို့ကို အကွက်ချဆောင်ရွက်ကာ နောင်သာသနာအဆက်ဆက် ခရီးရောက်အောင် အားပါးတရ ချီးမြှောက်တော်မူခဲ့ငြားသော်လည်း ထိုးမင်းတြားကြီး၏ အာဏာသည် အောက်ပိုင်း မြန်မာပြည်မှာ မသက်ရောက်၊ အထက်ပိုင်း မြန်မာပြည်လောက်တွင်သာ ပြန့်နှံ့လျက်ရှိသောကြောင့် သာသနာပြု မင်းနှင့် အလှမ်းဝေးလျက်ရှိသော မြန်မာပြည်အောက်ပိုင်းဌာနမှာ ရဟန်းသံဃာတော်တို့သည်ကား အကွပ်မရှိသော ကြမ်းပမာကဲ့သို့ ရဟန်းသိက္ခာ အစည်းပြေလျက် ဝိနည်းအနေတွင် အောက်ခြေလွတ် ကာ ရှိနေကြပါသည်ဘုရား။

ယင်းကဲ့သို့ ဂုဏ်ရောင်မှိန်မှေး သာသနာရေးပြော့ကွက်တို့ဖြင့် ပေါ့ပျက်ပျက်ကြီးဖြစ်သော မြန်မာပြည်အောက်ပိုင်း ပဲခူးတိုင်းသာသနာကို အားမလို အားမရအနည်းငယ်မျှ ကျေနပ်ခြင်းမရှိသဖြင့် လေးနက်သန့်ရှင်း ဥပဒေစည်းမျဉ်း အထိန်းအချုပ်ရှိသော လက်ရွေးစင် သံဃာ့အစည်းအဝေးတခုကို မွေးထုတ်ပေးရန် စိတ်စောလျက်ရှိသော အရှင်မြတ်ကြီးသည်ကား အခြားသူမဟုတ်၊ ရဟန္တာတမျှ တပြည်လုံးက အလေးပြုအပ်သော ပဲခူး အရညဝါသီ မဟာထေရ်ထိပ်ခေါင်တင် ကျေးဇူးရှင် ဘုန်းတော်ကြီး ဦးသီလပင် ဖြစ်ခဲ့ပါသည်ဘုရား။

သို့ဖြစ်ပါသောကြောင့် အရှင်မဟာကဿပကဲ့သို့ ပါသာဒိကဂုဏ်မြောက် လျှမ်းလျှမ်းတောက် မြင့်မားတော်မူသော ယင်းဘုန်းတော်ကြီးဦးသီလသည်ကား ပဲခူးမြို့ဌာန သာသနာ့ထိပ်ဦး၌ ဗိုလ်မှူးကြီး ပမာ စိတ်တော်မှာစွဲမြဲလျက် ကွပ်ကဲထိန်းချုပ် သာသနာ့သန့်ရှင်းရေးသရုပ် ဖေါ်ထုတ်တော့မည်ဟူသော



မန္တလေးမြို့၊ အရှေ့ဝိသုဒ္ဓါရုံ ရမည်းသင်းဆရာတော် အာသီသပတ္ထနာ လျှောက်ထားနေပုံ။



မန္တလေးမြို့၊ အနောက်ဝိသုဒ္ဓါရုံ ဇယမေဒနီဆရာတော် ဖွင့်ပွဲဂါထာများ ရွတ်ဖတ်နေပုံ။

သမ္မာဆန္ဒ အာသီသရှေ့ထားပြီးလျှင် ကိုယ်တော်မြတ်နှင့်နီးစပ် မေတ္တာဓာတ်မကင်းသော မဟာထေရ်တို့ အပေါ်၌ပင် မလျော်အရာကို ပယ်ရှားလျက် ပြုပြင်ရေးသမားပီပီ အလဇ္ဇီအဖြစ်မှ လဇ္ဇီအဖြစ်သို့ ပြောင်းလဲမြှင့်တင် လက်ရွေးစင်ဖြစ်အောင် ဖန်တီးတော်မူရာမှ အစပြု၍—

ထောင့်ကျောင်းဆရာတော် ဦးစန္ဒာလင်္ကာရ၊ ခြေတော်ရင်းဆရာတော် ဦးသုမန၊ ကလျာဏီဆရာတော် ဦးဝဏ္ဏ၊ အရှေ့ ရွှေနံ့သာဆရာတော် ဦးသုမန၊ ဇိုင်းဂနိုင်းကြီးဆရာတော် ဦးပုည၊ ရွှေသာလျောင်းဆရာတော် ဦးသုဝဏ္ဏ၊ လိပ်ပြာကန်ဆရာတော် ဦးအာဒိစ္စ-တို့သည်လည်း သန့်ရှင်းသော ပဲခူး အရညဝါသီဂိုဏ်းကြီးကို ဖော်ထုတ်ရာဝယ် ဘုန်းတော်ကြီး ဦးသီလ-၏ သာသနာပြု အပေါင်းအဖော် ရဲဘက်တော် မဟာထေရ်ကြီးများ ဖြစ်တော်မူကြပါသည်ဘုရား။

ထိုအခါမှအစပြု၍ ပဲခူးနယ်နိမိတ်အတွင်း၌ (က) ဂါမဝါသီဂိုဏ်း၊ (ခ) အရညဝါသီဂိုဏ်းဟု ဂိုဏ်း ၂-ဂိုဏ်း ပေါ်ပေါက်၍ ကိုယ့်နည်းဖြင့်ကိုယ် သာသနာကို ချီးမြှောက်လာခဲ့ကြရာ မကြာမီကာလ အတွင်း၌ပင် အောက်ပိုင်းမှ အရညဝါသီဂိုဏ်းနှင့် အထက်ပိုင်းမှ ရွှေကျင်ဂိုဏ်းတို့ သမိုင်းချင်း ရောစပ် ဂိုဏ်းကြီးနှစ်ရပ် ပူးပေါင်းဆက်သွယ်မိပြန်သောကြောင့် ရွှေကျင်လည်း အရညဝါသီ၊ အရညဝါသီလည်း ရွှေကျင် ဟု ရေအပြင် မကွဲပြားသကဲ့သို့ တသားတည်း ဖြစ်လာရပြီးနောက် အရညဝါသီ-ဟူသော စကားလုံးတွင် ရွှေကျင်ဟူသော ဝေါဟာရ စကားတလုံး ထပ်ဆင့်ပြီးလျှင် ရွှေကျင်ဆရာတော် ဘုရားကြီးကိုလည်း ဂုဏ်ပြုသောအားဖြင့်(ပဲခူး အရညဝါသီ ရွှေကျင်ဂိုဏ်း)ဟု သမိုင်းဝင် မော်ကွန်းထိုးခဲ့ကြပြန်ပါသည်ဘုရား။

ပဲခူးအရညဝါသီရွှေကျင်ဂိုဏ်း၏သမိုင်းဝင်မော်ကွန်းအဆက်ကို လျှောက်ထားရပြန်ပါလျှင် ဘာသာတခုကို တည်ထောင်သော ဘာသာရေး ခေါင်းဆောင်တို့သည် မိမိတို့၏ ဘာသာတရား တည်တံ့ရေး အတွက် လေးနက်ကျယ်ပြန့်သော အဘိဓမ္မာတရပ်ဖြင့်သာလျှင် ထိန်းသိမ်းထားရမြဲ ဖြစ်သကဲ့သို့ သန့်ရှင်းသော ဂိုဏ်းအဖွဲ့တခုကို ဖန်တီးကြရသော ဂိုဏ်းဆရာတို့သည်လည်း မိမိတို့၏ ဂိုဏ်းအဖွဲ့ကြီး အရှည်ခန့်ညားရေးအတွက် လေးနက်တည်ငြိမ်သော ဥပဒေစည်းမျဉ်းတို့ဖြင့်သာ ထိန်းသိမ်းထားရမည်မှာ မလွှဲမရှောင်နိုင်သော တာဝန်ကြီးတရပ်ပင် ဖြစ်ပါတော့သည်။ သို့ရာတွင် ဂိုဏ်းအဖွဲ့ကြီး မတိမ်ယိမ်းအောင် ထိန်းသိမ်းထားနိုင်သော စည်းမျဉ်းဥပဒေ ဟူသည်မှာလည်း သာသနာ့ အသက်သွေးကြော ဖြစ်သော ဝိနည်းပိဋကတ်တော်လာ ကျင့်ဝတ်သိက္ခာပုဒ်များပင် ဖြစ်ပါသည်ဘုရား။

သို့ဖြစ်ရာ သာသနာနောင်ရေးကို ခပ်ဝေးဝေးမြှော်ကြည့်လေ့ရှိသော ဘုန်းတော်ကြီးဦးသီလသည် လည်း မိမိ၏ အရညဝါသီရွှေကျင်ဂိုဏ်းကြီး ခိုင်မြဲစည်ပင် နောင်အစဉ် တည်တံ့ရန်အလို့ငှါ ဂိုဏ်းဝင်သံဃာ တိုင်း တနေရာမှ စုရုံးပြီး နှစ်စဉ် ဝိနည်းပြန်ဆိုကြရမည်ဟု သြဝါဒစည်းမျဉ်း ခပ်တင်းတင်း ချမှတ်တော်မူ ကာ ဤ ကြခတ်ဝိုင်း ကျောင်းတိုက်ကြီးကိုပင် ဝိနည်းပြန်ဆိုရာဌာနဟု ထာဝရ သတ်မှတ်တော်မူရုံမက မြန်မာသက္ကရာဇ်(၁၂၃၃)ခုနှစ် တန်ဆောင်မုန်းလဆုတ်(၂)ရက်နေ့၌ ဤ ပဲခူးဌာန ဝိနယစာပြန်ပွဲကြီးကို လည်း စတင်ကျင်းပ အုဋ်မြစ်ချ တည်ဆောက်ခဲ့ပါသည်ဘုရား။

ဤနည်းဖြင့်ပင် ပဲခူး အရညဝါသီရွှေကျင်ဂိုဏ်းသားတို့သည် ကိုယ့်ဆွမ်းကိုယ်ခံ ဆွမ်းတာဝန် မကြီး လေးစေဘဲ သတ်မှတ်ထားသော အချိန်သို့ရောက်တိုင်းပင် ဤ ကြခတ်ဝိုင်းကျောင်းတိုက်တွင် သံဃာထု



ခရိုင်တရားမနှင့် စက်ရှင်တရားသူကြီး ဦးဘဆန်း မြို့လူထုကိုယ်စား လျှောက်ထားနေစဉ်။



ဤသို့ မကြုံဘူးအောင် စည်ကားလှသည်။ တော်တော်ဝေးဝေးမှပင် လာကြသည်။

စုရုံးလျက် တဂိုဏ်းလုံး ဝိနည်းပြန်ဆိုတော်မူကြရန် သာသနာ့စံပြ အာဒိကမ္မိကဖြစ်သော ထိုဝိနည်းပြန်ပွဲကြီးကိုလည်း အတုယူသောအားဖြင့် အခြားအခြားသောမြို့နယ်တို့တွင်လည်း ဝိနည်းပြန်ဌာနများ တိုးချဲ့နိုင်ခဲ့သည်ဖြစ်ပါသောကြောင့် ပဲခူးတောရ အရညဝါသီ ရွှေကျင်ဂိုဏ်းကြီးသည်ကား ဆိုစရာမပေါ် ပေါက်မှဲ့တပြောက် မစွန်းငြိခဲ့သော လက်ရွေးစင်ဂိုဏ်းတခုဟု သမိုင်းပြု မော်ကွန်းတင်စရာဖြစ်ခဲ့ပါသည်ဘုရား။

ထိုမှတဖန် ဘုန်းတော်ကြီးဦးသီလ ဘဝနတ်ထံ ပြန်လွန်တော်မူပြီးနောက်တွင်လည်း အနေကဂန္ထ-ကာရက နိကာယဏ္ဍဝပါရဂူ ဖြစ်တော်မူသော ရွှေကျင်နိကာယဂိုဏ်းဥက္ကဋ္ဌ ဥဿျောင် ကျိုက္ကစံ ဆရာတော် ဦးဥတ္တမနှင့်တကွ သာသနသောဓက သဟာယ ဖြစ်တော်မူကြသော ပုဂံတောင်ဆရာတော် ဦးမာလာ၊ ရွှေအောင်ရွှေဆရာတော် ဦးသုမန၊ မင်းရွာ အရှေ့ကျောင်းဆရာတော် ဦးရေဝတ၊ သနပ္ပင် ရေကျော်ဆရာတော် ဦးမေဓာဝီ စသည်တို့က ဘုန်းတော်ကြီး ဦးသီလ အစတည်ကျင်းပခဲ့သော ပဲခူးမြို့ ဌာန ထိုဝိနယစာတော်ပြန်ပွဲကြီးကိုလည်း တိုးတက်ခိုင်မြဲစေရန်အလို့ငှာ သူဌေးကတော်ကြီး သုဇာတာ၏ နို့ဃဏာ ရွှေခွက်၌ နတ်သြဇာ လေ့ာင်းစွက်သကဲ့သို့ ကောင်းသည်ထက် ကောင်းမွန်စေကြောင်း နည်းလမ်းကောင်း အရပ်ရပ်တို့ဖြင့် အထပ်ထပ် မွမ်းမံ ခြယ်မှုန်းခဲ့သောကြောင့် တောရရွှေကျင်ဂိုဏ်း အလယ်ပိုင်းခေတ်တွင်လည်း ဤ ဝိနည်း စာပြန်ပွဲကြီး ခိုင်ဖြိုးစည်ပင် အလွန်လျှင် မြင့်မားခဲ့ရပါသည်ဘုရား။

ခေတ်(၂)ခေတ်လွန်မြောက် ယခုမျက်မှောက်ဖြစ်သော တတိယ ခေတ်တွင်လည်း ရတ္တညူ အဂ္ဂမဟာနာယက တောရဂိုဏ်း ဥက္ကဋ္ဌဖြစ်တော်မူသော ကျောက်တိုင်ကန် ဒက္ခိဏာသာခါရာမ အသက်တော်ရှည် ဆရာတော်ဘုရားကြီး ဦးကဝိဓဇနှင့်တကွ တွဲဘက်၍ မဟာနာယကဖြစ်တော်မူသော ဥက္ကံဆရာတော် ဦးသီလာစာရ၊ ဥပမဟာနာယကဖြစ်တော်မူသော ရွှေကျင်ဓမ္မရိပ်သာဆရာတော် ဦးဝိမလ၊ နာယကများ ဖြစ်တော်မူကြသော စမ်းကြီးတောရဆရာတော် ဦးသီရိန္ဒ၊ မဟာကလျာဏီဆရာတော် ဦးဉာဏဝံသ စသည်တို့၏ မဆုတ်နစ်သော စွမ်းအားကြောင့် အရညဝါသီ ရွှေကျင်ဂိုဏ်းနှင့် ဝိနည်းစာပြန်ပွဲကြီး တရှိန်တည်း မြင့်တက်ခဲ့ရသည့်ပြင် သံဃာတော်အရှင်မြတ်တို့၏ ဝိနည်းပြန်ဌာနဖြစ်သော ဤ ကြခတ်ဝိုင်း ကျောင်းတိုက်ကြီးသည်လည်း ကောင်းကင်မှ နတ်ဘုံတွေကျလျက် မြေခ,ရာဌာနပင် ဖြစ်လေသလောဟု တွေးတောရလောက်အောင် **"မနောရဋ္ဌန"** အာဝါသ သပ္ပါယဂုဏ်နှင့် ပြည့်စုံတော်မူခဲ့ရပြန်ပါသည်ဘုရား။

ဤနည်းအားဖြင့်ပင် မျက်မှောက်ခေတ်မှဂိုဏ်းစောင့်ဆရာတော်ကြီးများ၏ ကြီးမားသော လုံ့လဝီရိယ အရင်းတည်သော (က) အမြင်ကျယ်မှု၊ (ခ) လုပ်ငန်းစဉ် မှန်ကန်မှု စသည်တို့ကြောင့် ယခုမြင်တွေ့ရသော ပဲခူးအရညဝါသီ ရွှေကျင်ဂိုဏ်းကြီးသည်လည်း ပဲခူးတိုင်းအတွင်း၌ ဝိနည်းပြန် ၆-ဌာန ကျောင်းပေါင်း(၂၃၇)ကျောင်း၊ ဂိုဏ်းဝင်သံဃာ အရေအတွက် (၂၃၀၆)ပါးအထိ စည်ပင်တိုးတက် တန်ခိုးထွက်လာရသည်မှာကား တပည့်တော်များ၏ ဂုဏ်ယူစရာ(မဟာသံမဏိ မှတ်တိုင်ကြီးပင်)ဖြစ်သည်ဟု ဆိုလျှင်လည်း မှားစရာ အကြောင်းမရှိပါဘုရား။

ထိုတွင်မက ၁၃၃၂-ခုနှစ် ၊ နှစ်ဦးပိုင်းတွင်မှ ပန္နက်ချ တည်ထောင်ထားခဲ့သော သာသနောဒယ-ဓမ္မဒါယာဒ ကြခတ်ဝိုင်း သာသနာပြုအသင်းကြီးကလည်း ဦးဇောတိပါလဆရာတော်ကလေး သင်တန်းပေးပို့ချ အစစ ချီးမြှောက်သဖြင့် လူလားမြောက် ထူးချွန်ကြသော (သကျသီဟ ဓမ္မာစရိယ၊ စေတိ



အထွေထွေ ဆောင်ရွက်ရေး ကော်မီတီဥက္ကဋ္ဌ ဗိုလ်ကြာညွန့်
ဆောင်ရွက်ရေး အဖွဲ့များကိုယ်စား လျှောက်ထားနေပုံ။

ယင်္ဂဏ ဓမ္မာစရိယ၊ အစိုးရဓမ္မာစရိယ)များနှင့် ရာပေါင်းများစွာသော စာသင်သားတို့ကို မွေးထုတ်ပေးရာ အမိသာသနာဟု ဆိုအပ်သော ကြခတ်ဝိုင်းကျောင်းတိုက်ကြီး ခိုင်ဖြိုးစည်ပင် အသက်ဝင် လှုပ်ရှားရေးအတွက် အဘက်ဘက်မှ အားပေးချီးမြှောက် စောင့်ရှောက်ဆဲ ရှိကြသည့်ပြင် ဤသက်တော်ရှည် ဝိနည်းစ ျပြန်ပွဲကြီး အနှစ်တရာမြောက် ရောက်ဆဲဂေါစာ မြန်မာသက္ကရာဇ် ၁၃၃၂-ခု၊ တန်ဆောင်မုန်း လဆုတ် ၂-ရက်နေ့မှ အစပြု၍ ၈-ရက်နေ့အထိ ၇-ရက်တိုင်တိုင် ဝိနည်းပြန် ရာပြည့်အထိမ်းအမှတ် ကျင်းပနိုင်ရေးနှင့် ရာပြည့်ဝိနည်းပြန်ပွဲအမီ(၅)သိန်းကျော်တန် ဓမ္မဗိမာန်ကြီး တည်ဆောက်ရေး စသည်တို့ကိုလည်း ခပ်စောစောက ကြိုတင်၍ အမြော်အမြင်ကြီးစွာဖြင့် ကြိုးပန်းဆောင်ရွက်ခဲ့ကြပါသည် ဘုရား။

နိဂုမ်းချုပ်အနေဖြင့် အကျဉ်းရုံးလျှောက်ထားရပါလျှင် ရှေးယခင် အတိတ်ခေတ်တုန်းက မဇ္ဈိမတိုက် သာသနာရေးဆိုင်ရာတွင် ဘုရင်အသောက၏ အချီးအမြှောက် မောဂ္ဂလိပုတ္တမဟာထေရ်၏ စွမ်း

ဆောင်မှုအပြည့်အဝ၊ ဣန္ဒဂုတ္တထေရ်၏ ခြယ်လှယ်မှုစွမ်းအား အကြောင်းသုံးပါးစုံလင်သဖြင့် သာသနာဝင် အထက်တန်းကျပြီး မျက်နှာပန်းလှသည့်ပမာ ဤပဲခူးမြို့ အရညဝါသီ ရွှေကျင်ဂိုဏ်း ဆိုင်ရာတွင်လည်း ပဲခူး ဒကာ-ဒကာမတို့နှင့်တကွ ကြခပ်ဝိုင်း သာသနာပြုအသင်းကြီး၏ အသီးသီးသော အချီးအမြှောက်, ဂိုဏ်းပါမောက် မဟာထေရ်တို့၏ သာသနာအရည်အစွမ်းသတ္တိ, အမှုဆောင် ဆရာတော် အရှင်ဇောတိပါလ၏ ဓမ္မဂရုခြယ်လှယ်မှု ဝိစရဏဉာဏ် အကြောင်းသုံးတန် စုံလင်သောကြောင့် ဂုဏ်တင်စရာ နမူနာမြှော်ရှုသော် ကော်ကနုပန်းကြာင်ုံမှာ ဂန္ဓာရုံအရည်ပြည့်သကဲ့သို့ အတိသုန္ဒရ ထူးခြားလှသော အောင်မြင်မှုတို့ကိုလည်း ရခဲ့ပါသည်ဘုရား။

သို့ဖြစ်ပါ၍ ထို အောင်မြင်မှုမှ ပေါက်ဖွားလာရသော အနှစ်(၁၀၀)ပြည့် ဝိနည်းစာတော်ပြန်အထိမ်းအမှတ်ပွဲကြီးနှင့် သံဃာ ၁၀၀၀-ကျော် ရာပြည့်ပူဇော်ပွဲကြီးကိုလည်း ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၅-ရက်၊ နေ့လည် ၁၂-နာရီအချိန်၌ သုနက္ခတ္တံ-သုမင်္ဂလံ-အောင်သံကြွေးကြော် အခါတော်ဆိုက်ရောက်ပြီဖြစ်ကြောင်း ဖေါ်ပြလတ္တံ့သော အခမ်းအနားဖွင့်ဂါထာဖြင့် သာယာငြိမ့်အေး ကရဝိက်ကိုးကြာ အသံပေးသကဲ့သို့ လေးစားစွာ တင်ဆက်လျှောက်ထားရပါအံ့ဘုရား။

အခမ်း အနားဖွင့် ဓမ္မဂီတိ

ပဲခူးတောရနိကာယဿ၊ အာဏာဂမုဿဝေါ သတံ။
သမ္ပတ္တော တေန နော ကမ္မ၊ သတာနုသာရိတံ သတံ။

ပဲခူးတောရနိကာယဿ၊ သိက္ခာဂုဏ်ရည် နှောင်အရှည် အမြဲထူးသည့် ပဲခူးတောရ ပမာပြဘွဲ့ သာသနာ့ အသက်သွေးဝင်သည့် လက်ရွေးစင်ဖွဲ့စည်း ပဲခူးအရညဝါသီ ရွှေကျင်ဂိုဏ်းကြီး၏။ အာဏာ-ဂမုဿဝေါ၊ ဘုရားအာဏာ ယထာပရာဓ အာဂမသရုပ်ခြုံလျက် နုတ်ငုံပြန်ဆဲ (ဤ) သက်တော်ရှည်ဝိနည်းစာပြန်ပွဲကြီးသည်။ သတံ၊ ယခုတိုင်မကွာရအောင် ကာလရှည်ကြာ အခါတွက်မှန်း ရာသက်တန်းသို့။ သမ္ပတ္တော၊ ပဲခူးသာသနာဝင် ကမ္ဘာတွင်သို့ ရာဇဝင်နောက်ကြောင်း ပြန်ပြောင်းရှုထောက် ဩော်ယခု ရောက်ခဲ့ပါပြီဘုရား။

တေန၊ ထိုသို့ ဝိနည်းပြန်အစဉ်အလာ ကမ္ဘာအသိ တရာပြည့်ခဲ့ပြီ ဖြစ်ပါသောကြောင့်။ နော (မယံ)၊ ပဲခူးတောရ အရညဝါသီဂိုဏ်းသားအများ တပည့်တော်တို့သည်။ သတာနုသာရိတံ၊ ဝိနည်းပြန်ပွဲ ခုရောက်ဆဲခေတ်မှာ အနှစ်တရာရှိပြီဟု မထေရ်တွေကို မပြတ်တလျက် အမှတ်တရ အောက်မေ့စေနိုင်သည်လည်းဖြစ်ပေသော။ သတာနုသာရိတံသတံ၊ ပဲခူးတောရ ဝေါဟာရစာတွင်လျက် သာသနာဝင် ကမ္ဘာသိဘွဲ့ တရာပြည့်ခေါ်ဝေါ် ဤဝိနည်း ပူဇော်ပွဲကြီးကို။ ကမ္မ၊ ယနေ့စတင် ယခုပင် အသင့်ဖြစ်ပြီဟု အခွင့်အသစ် အခါမချို ဩော်....ဖွင့်လှစ်ကြပါကုန်စို့ဘုရား....။



ကြခတ်ဝိုင်း သာသနာပြုအသင်းလူကြီး ဦးတိုး ရတုများ ဖတ်လျှောက်နေပုံ။

## ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ
## သက်တော် (၇၆) နှစ် သိက္ခာတော် (၆၆) ဝါရှိ

### အဂ္ဂမဟာနာယက
### ကျောက်တိုင်ကန် ဒက္ခိဏာသာခါရာမ ဆရာတော်ဘုရားကြီး လျှောက်ထားချက်

သိက္ခာကာမ ဝိနယဂရုက ဂန္ထဓုရ ဗဟုဿုတ စသည်လောက်လုံ ပြည့်စုံတော်မူကြသော ပဲခူး (ရာပြည့်)ပူဇော်ပွဲကြွ ဆရာတော် သံဃာတော်အရှင်မြတ်များဘုရား၊

လျှောက်ထားရန်မှာ—ပဲခူးအရညဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန်ဆိုရာ ကြခတ်ဝိုင်း ကျောင်းတိုက်သို့ (သမဂ္ဂါ သခိလာ ဟောထ) ဟူသော အနုသာသန အာဂမပါဠိ လာရှိသည်အားလျော်စွာ—

(က) သာသနာတော်အရေး အားပေးလိုသောဆန္ဒ ပြင်းပြစွာ အမှန်ရှိတော်မူကြခြင်း၊

(ခ) ဝိနည်းစာပြန်ပွဲ တဌာနနှင့် တဌာန ရင်းနှီးလိုသော အာသီသ များစွာရှိတော်မူကြခြင်း၊

(ဂ) သံဃာတော်အချင်းချင်း တပါးသည် တပါးအား ရှိသေ လေးစားသောအားဖြင့် အာစရိယောဝါဒ နည်းညွှန်ပြသည်ကို ခံယူလိုကြခြင်း၊

(ဃ) အာစရိယပရမ္ပရ သိဿာနုသိဿ ဆင်းသက်၍လာကြပါသဖြင့် တဖသားချင်း ညီရင်းအကိုပမာ မိမိတို့သမဂ္ဂအချင်းချင်း တပါးသည် တပါးအား တွေ့လိုမြင်လို ပြောဆိုခွင့်ရလိုကြခြင်း၊

(င) ပဲခူး ဒါယကာ ဒါယိယာမတို့အပေါ်၌ ကုသိုလ်ကောင်းမှု ပြုနိုင်ခွင့် ရကြစေရန် စေတနာ မေတ္တာစသည် ပြည့်ဝကြီးမားတော်မူကြခြင်း—

အစရှိသော အထက်ပါအကြောင်းများကြောင့် ကိုယ်တော်တိုင် ကြွရောက်ချီးမြှောက် ယနေ့ ပဲခူးမြို့သို့ ရောက်ရှိတော်မူလာကြသည်ကိုငင်း ဆရာတော်ဘုရားများ ကာယစိတ္တ (၂)ပါးသော သုခတို့ဖြင့် သာယာကြည်နူး အထူးပြည့်ဝတော်မူကြသည်ကိုငင်း တွေ့ကြရ မြင်ကြရပါသဖြင့် အထူးပင် ဝမ်းသာအားရ ပီတိသောမနဿ များစွာဖြစ်လှပါသည်ဘုရား၊

ဤရွှေကျင်ဂိုဏ်းကြီးကို စည်းမျဉ်းဥပဒေ အဝဝတို့နှင့်တကွ ဤမျှလောက် ပြန့်ကျယ်ခိုင်ခံ့အောင် အထူးကျန စတင်၍ သာသနာ့အုဋ်မြစ်ကြီးကို ချပေးတော်မူခဲ့သော မူလဘူတ ဂိုဏ်းစီးဥက္ကဋ္ဌ ကျေးဇူးရှင် (ဇာဂရာဘိဓဇ သဒ္ဓမ္မဝံသ ဓမ္မသေနာပတိ အတုလာဓိပတိ သိရီပဝရ မဟာဓမ္မ ရာဇာဓိရာဇဂုရု) ဟူသော သာသနာပိုင်ဘွဲ့တံဆိပ်တော်ရ ရွှေကျင်ဆရာတော်ဘုရားကြီးမှ တစတစ ဆင်းသက်လာရသော ပဲခူးတောရ၌ ပရိယတ္တိဝိသာရဒ ပံသုကူလိက ရုက္ခမူလိက စသည်တေရသ သလ္လေခပဋိပတ်တို့၌ အတိပါကဋ ဝိသိဋ္ဌဖြစ်တော်မူသော ဘုန်းတော်ကြီး ဦးသီလမထေရ်မြတ်သည်—

(က) ဝိနည်းဒေသနာတော်သည် သာသနာတော်၏ အသက်နှင့်တူသည်၊

(ခ) ဝိနည်းတည်မှသာ သာသနာတော်တည်နိုင်သည်၊



သုဇာတာအဖွဲ့ ဒေါ် အေးကြည် လျှောက်ထားနေစဉ်။



သံဃာအပါး (၁၀၀၀)ကျော်ဖြင့် ကျင်းပသော အခမ်းအနား။
(ပွဲခူး၌ အစဆုံးဟု ပြောကြသည်။)

(ဂ) ဝိနည်းဒေသနာတော်အရ လုံခြုံစွာ လိုက်နာအားထုတ်မှ သီလဖြူစင်သည်၊

(ဃ) သီလဖြူစင်သောသူအားသာ သမာဓိ ရင့်သန်မြင့်မားနိုင်သည်၊

(င) သမာဓိရင့်သန်မြင့်မားမှသာ ဝိပဿနာလုပ်ငန်း အထက်တန်းကျနိုင်မည်၊

(စ) အထက်တန်းကျသော ဝိပဿနာပညာဖြင့်သာ ရုပ်နာမ်၏ ဖြစ်ပျက်မှုကို အမှန်မြင်လျက် နိဗ္ဗိန္ဒဉာဏ်စသည် ဖြစ်နိုင်မည်၊

(ဆ) နိဗ္ဗိန္ဒဉာဏ်စသည် ဖြစ်သောသူအားသာ ကိလေသာပြတ် ဖြစ်ပျက်ရပ်သည့် အမတဓာတ် နိဗ္ဗာန်မြတ်ကို မဂ်ဉာဏ် ဖိုလ်ဉာဏ်ဖြင့် မျက်မှောက်ပြုနိုင်မည်၊

ဤသို့စသော အကြောင်းများကြောင့် ဝိနည်းဒေသနာတော်ကို အလေးအစား အရေးထားလျက် ပဲခူးအရညဝါသီ ရွှေကျင်နိကာယ၌ ထိုအခါ မဟာနာယကဖြစ်တော်မူသော ဘုန်းတော်ကြီး ဦးသီလ မထေရ်မြတ်သည် လက်အောက်ဂိုဏ်းသား ဂိုဏ်းစီး ဂိုဏ်းကြပ် အရပ်ရပ်သော သံဃာတော်များနှင့် အကြိမ်ကြိမ်တိုင်ပင်ကာ (၁၂၃၃)ခုနှစ် တန်ဆောင်မုန်းလမှစလျက်....

(က) နှစ်စဉ်မပျက် တန်ဆောင်မုန်းလဆုတ် (၂) ရက်နေ့ နေ့ဆွမ်းမီ ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်း တိုက်သို့ ကိုယ်တိုင်လာရောက်ကြစတမ်း၊

(ခ) ဆွမ်းကွမ်း ဒါယကာမရှိလျှင် ကိုယ်တိုင်သပိတ်ဖြင့် ဆွမ်းခံထွက်ဘုန်းပေးကြလျက် ကျောင်း အဆောက်အဦ ဒါယကာမရှိလျှင် သစ်ပင်အောက်မှာ တည်းခိုတော်မူကြပြီး ဗုဒ္ဓရှင်တော်၏ ဝိနည်း ပညတ် အာဏာဒေသနာတော်မြတ်ဖြစ်သော ဘိက္ခုပါတိမောက် ဘိက္ခုနီပါတိမောက် ခုဒ္ဒသိက္ခာစသည် ပါဠိအနက်တို့ကို မြတ်သားနှုတ်တက် အာဂုံကျက်၍ နှစ်စဉ်ပြန်ဆိုကြစတမ်း။

(ဂ) သံဃာ ကျေနပ် ခွင့်ပြုနိုင်လောက်သော နာဖျားမကျန်း ရှိခဲ့လျှင် (သို့မဟုတ်) အကြီး အကျယ် ပြောပလောက်သော အကြောင်းထူးရှိခဲ့လျှင် မည်သည့်လ,နေ့သို့ကျရောက်သည့်အခါ အဘယ် ဂိုဏ်းဆရာ မထေရ်ကြီးထံ၌ စာပြန်ဆိုပါမည်ဟု ရေလည်စွာစာရေး၍ လျှောက်ထားကြစတမ်း၊

(ဃ) အထက်ပါ ကတိကဝတ်များနှင့်မညီ ချွတ်ယွင်းသွေဖီခဲ့လျှင် ရေဒဏ်အခေါက် (၃၀)ထမ်း၍ သံဃာတော်များအလယ်၌ တောင်းပန်ကန်တော့ကြစတမ်း၊

ဤသို့စသော အထက်ပါ ကတိကဝတ်များဖြင့် တနှစ်မပျက် အဆက်ဆက် ဤဝိနည်းစာပြန်ပွဲကြီးကို လက်ပြောင်းသယ်ယူ၍ ကျင်းပလာခဲ့ပါသည်ဘုရား၊



ဤသို့နေ့စဉ် သံဃာ့အစည်းအဝေး၌ ဩဝါဒများကို ခံယူကြရသည်၊



ဤသို့ ကလေးငယ်လေးများပါ တရားနာယူလေ့ရှိကြသည်၊

ထိုသို့ ပဲခူးခရိုင်၌ ဘုန်းတော်ကြီး ဦးသီလမထေရ်မြတ်၏ မဟာနာယကလက်ထက်မှ တစတစ ရွှေကျင်နိကာယကျယ်ပြန့်လျက် ယခု (၁၃၃၂)ခုနှစ် ဝါဆိုစာရင်းကို ကြည့်ခဲ့လျှင် ပဲခူးခရိုင်အတွင်းတွင် ဝိနည်းစာပြန်ပွဲဌာန (၆)ခုရှိရာ –

| | | | |
|---|---|---|---|
| (က) | ရွှေကျင်မြို့ ဝိနည်းပြန်ဌာန၌ | ကျောင်းပေါင်း | ၁၉ |
| | | သံဃာတော်ပေါင်း | ၉၅ |
| (ခ) | ညောင်လေးပင်မြို့ ဝိနည်းပြန်ဌာန၌ | ကျောင်းပေါင်း | ၂၇ |
| | | သံဃာတော်ခပါင်း | ၂ဂ၁ |
| (ဂ) | ပြွန်တန်ဆာမြို့ ဝိနည်းပြန်ဌာန၌ | ကျောင်းပေါင်း | ၁၅ |
| | | သံဃာတော်ပေါင်း | ၁၀၂ |
| (ဃ) | ကျောက်တန်း ဝိနည်းပြန်ဌာန၌ | ကျောင်းပေါင်း | ၂၂ |
| | | သံဃာတော်ပေါင်း | ၂၅၉ |
| (င) | ညောင်ခါးရှည် ဝိနည်းပြန်ဌာန၌ | ကျောင်းပေါင်း | ၂၂ |
| | | သံဃာတော်ပေါင်း | ၂၃၉ |
| (စ) | ပဲခူးဝိနည်းပြန်ဌာန၌ | ကျောင်းပေါင်း | ၁၃၃ |
| | | သံဃာတော်ပေါင်း | ၁၃၅၀ |

အားလုံးပေါင်း ပဲခူးခရိုင်အတွင်းတွင် ရွှေကျင်နိကာယကျောင်းပေါင်း ၂၃ဂ

သံဃာတော်ပေါင်း ၂၃၂၆ ပါးတို့ ဖြင့်၎င်း

| | | | |
|---|---|---|---|
| (က) | ပရိယတ္တိစာသင်တိုက် | ကြီး | ၂-တိုက် |
| (ခ) | ။ | လတ် | ၃-တိုက် |
| (ဂ) | ။ | ငယ် | ၁၀-တိုက်တို့ဖြင့်၎င်း |

တည်ရှိနေသည်ကို ရာပြည့်သမိုင်းငယ်တခုအနေ ဆရာတော်များ မျက်ဝါးထင်ထင် ယခုမြင်နေကြရပြီး ဖြစ်ပါသည်ဘုရား၊

ထို့ကြောင့်....

ပဲခူးခရိုင်အတွင်းရှိ ရွှေကျင်နိကာယ သံဃာတော်ပေါင်း (၂၃၂၆) ပါးတို့ မြန်မာတပြည်လုံးရှိ တိုင်းအသီးသီး ခရိုင်အသီးသီး မြို့နယ်အသီးသီ့မှ ပဲခူးမြို့ ဤစာပြန် ရာပြည့်ပူဇော်ပွဲကြီးသို့ ကြွရောက် ချီးမြှောက်တော်မူကြ၍ ဆရာတော် သံဃာတော်များနှင့် ယနေ့တွေ့ဆုံခွင့် ပြုစုခွင့် ဖူးမြင်ခွင့် သာသနာ တော်အရေး ဆွေးနွေးခွင့်ရခြင်းသည် ဆရာတော် သံဃာတော်များက ကြွရောက်ချီးမြှင့်ကြလို့သာ ရကြ ပါသဖြင့်အထူးတလည် ဝမ်းမြောက်အားရ ကျေးဇူးတင်လှပါသည်ဘုရား၊

ထို့ပြင်....

(က) မန္တလေးမြို့ အနောက်ပြင် မဟာဝိသုဒ္ဓါရုံ ရွှေကျောင်တိုက် သက်တော် အနှစ် (၁၀၀) သိက္ခာတော် (၈၁)ဝါရှိ "အဘိဓဇ မဟာရဋ္ဌ ဂုရု"သာသနာပိုင် သက်တော်ရှည် စံကင်းဆရာတော်ဘုရားကြီး၊

(ခ) သက်တော် (၈၂)နှစ် သိက္ခာတော် (၆၃)ဝါရှိ ဂဏသမုဋ္ဌာပက ဥပဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ (တွံ့ဘက်သာသနာပိုင်) မြောင်းမြဆရာတော်ဘုရားကြီးတို့ ကျန်းမာအေးချမ်း ဘေးမသန်းဘဲ အမြဲတမ်း ရွှင်လန်းချမ်းမြေ့တော်မူနိုင်ကြပါစေရန် ဆုတောင်းပတ္ထနာပြုကြပါကြောင်းနှင့်—

သံဃာတော်အပါး (၁၀၀၀)ကျော်တို့ဖြင့် ကျင်းပအပ်သော ဤစာပြန် ရာပြည့်ပူဇော်ပွဲကြီး၌—

(က) ဆရာတော်များ လိုအပ်သော အကူအညီကို အမှုဆောင်အဖွဲ့သို့ အမြန်အကြောင်းကြားတော်မူကြပါရန်၊

(ခ) စေတနာထားရင်း ချွတ်ယွင်းမှုရှိသမျှကိုလည်း ကျေနပ်ခွင့်ပြုတော်မူကြပါရန် ပဲခူးခရိုင် သံဃာတော် (၂၃၂၆)ပါးတို့၏ကိုယ်စား ရိုသေလေးမြတ်စွာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော်အရှင်မြတ်များ ဘုရား၊

၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလဆုတ် (၅)ရက်

ရာပြည့်ဆောင်ရွက်ရေးအဖွဲ့များ၏ ကိုယ်စား
အထွေထွေဆောင်ရွက်ရေးအဖွဲ့ ဥက္ကဋ္ဌ "ဗိုလ်ကြာညွန့်" လျှောက်ထားအပ်သော
လျှောက်ထားချက်။

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ဝိနယစာပြန်ပွဲ အနှစ် ၁၀၀-ပြည့် အထိမ်းအမှတ် ပူဇော်ပွဲကြီးသို့ ကြွရောက်ချီးမြှင့်တော်မူကြသော ရွှေကျင်နိကာယ မဟာနာယက သက်တော်ရှည် ဆရာတော်ကြီးများနှင့် သံဃာတော်အရှင်သူမြတ်တို့ဘုရား။

ကံ/ကံ၏ အကျိုးကို ယုံကြည်ကြကုန်သော တပည့်တော်တို့သည် "ပုဗ္ဗေ စ ကတပုညတာ" မင်္ဂလာတရားတော်လာ ရှေးရှေးဘဝက ပြုခဲ့ဘူးသော ကောင်းမှု ရှိခြင်းကြောင့်သာလျှင် ယခုဘဝတွင် ကြုံတောင့် ကြုံခဲလှသော အနှစ်တရာတွင်မှ အဖြစ်တခါသာကြုံရသည့် ရာပြည့်ဝိနယပူဇော်ပွဲတွင် ပါဝင်ပူဇော်ခွင့် လှူဒါန်းခွင့် ဝေယျာဝစ္စကုသိုလ်များကို ဆောင်ရွက်ခွင့် ရရှိကြပါသဖြင့် (ဗုဒ္ဓုပ္ပါဒဒုလ္လဘခေတ်)တွင် လူဖြစ်ရကျိုးနပ်သည်ကို တွေးတော၍ လှိုက်လှဲစွာ ဝမ်းသာမိပါသည်ဘုရား။

ရွှေကျင်နိကာယ မဟာနာယကာ သက်တော်ရှည် ဆရာတော်ဘုရားကြီးများနှင့် သံဃာတော်အရှင်မြတ်များကို စုံစုံလင်လင် ဖူးမြင်ခွင့် ပူဇော်ခွင့် လှူဒါန်းခွင့် ဝေယျာဝစ္စဆောင်ရွက်ခွင့် ရခြင်းမှာ ယခုအကြိမ်သည် တပည့်တော်များတသက်တာတွင် ဒုတိယအကြိမ်မြောက် ဖြစ်ပါသည်ဘုရား။

ပဌမအကြိမ်မှာ ၁၃၁၈-ခုနှစ်၊ တပို့တွဲလက ကြခတ်ဝိုင်းကျောင်းတိုက်၌ပင် ကြခတ်ဝိုင်းဆရာတော် ဦးဇောတိပါလ၏ ကြိုးစားစွမ်းဆောင်မှုဖြင့် ရွှေကျင်ဂိုဏ်း နဝမအကြိမ်မြောက် ရွှေကျင် သာသနာတော်လုံးဆိုင်ရာ ပြည်လုံးကျွတ် သံဃာ့အစည်းအဝေးကြီး ကျင်းပစဉ်က ဖြစ်ပါသည်ဘုရား။

ထိုသံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူကြသော သံဃာတော် ၇၀၀-ကျော်တို့ သီတင်းသုံးရန် ယာယီ ကျောင်းသင်္ခမ်းနှင့် နံနက်ဆွမ်း နေ့ဆွမ်း အချိုပွဲ အဖျော်ယမကာမှစ၍ အစစချမ်းသာမှု ကျန်းမာမှု "သံဃုပဋ္ဌာန သန္နိပါတ ပလိဗောဓ" အဝဝတို့ကို စေတနာရှင် ဒကာ ဒကာမအပေါင်းတို့သည် ငွေကုန်မှု လူပင်ပန်းမှုတို့ကို ပဓာနမထားဘဲ အားခဲ၍ ဝမ်းမြောက်ဝမ်းသာ လှိုက်လှဲထူးကဲသော စေတနာတို့ဖြင့် ပူဇော်ခဲ့သည်များကို စဉ်းစားမိတိုင်း ဝမ်းမြောက်ဝမ်းသာ သာဓုအနုမောဒနာ ပြုရပါသည်ဘုရား။

ထိုစဉ် အစည်းအဝေးကြီး အောင်မြင် ပြီးမြောက်ရေးအတွက် ကော်မီတီငယ် ၁၀-ခုကို ဖွဲ့စည်း၍ ဆောင်ရွက်ခဲ့ကြပါသည်ဘုရား။

ယခု ကျင်းပသည့် ရာပြည့်ပူဇော်ပွဲကြီး အောင်မြင်ထမြောက်ရေးအတွက် (၁) ဘဏ္ဍာရေးအဖွဲ့ (၂) မွမ်းမံပြင်ဆင်ရေးအဖွဲ့ (၃) ကျန်းမာသန့်ရှင်းရေးအဖွဲ့ (၄) ညှော်ခံကြိုဆိုရေးအဖွဲ့ (၅) ဆွမ်းကွမ်းအဖျော်ယမကာဆက်ကပ်ရေးအဖွဲ့ (၆) ပြန်ကြားရေးအဖွဲ့ (၇) အထွေထွေဆောင်ရွက်ရေးအဖွဲ့ဟူ၍ အဖွဲ့ငယ် ၇-ဖွဲ့ကို စံနစ်တကျ ဖွဲ့စည်းပြီး အဖွဲ့အသီးသီး ဆောင်ရွက်ရန် ယေဘုယျလုပ်ငန်းတာဝန်များကို ပါ ခွဲဝေသတ်မှတ် ဆောင်ရွက်ကြပါသည်ဘုရား။



ဓမ္မနန္ဒီအမျိုးသမီး ဥက္ကဋ္ဌကြီး ဒေါ်ပုမနှင့် အဖွဲ့ဝင် စေတနာရှင်များ။



ရာပြည့်ကောင်းမှုရှင်များ အမှတ်တရ မမေ့ကြရန်။

အဖွဲ့အသီးသီးတို့သည် မိမိတို့ဆောင်ရွက်ရမည့် တာဝန်များကို သီးခြား၍တမျိုး ပူးပေါင်း၍တသွယ် အားတက်ဘွယ်ရာ ဆောင်ရွက်ကြပြီးလျှင် ရာပြည့်ပူဇော်ပွဲကြီးသို့ ကြွရောက်တော်မူကြမည့် သံဃာတော် အပါး ၁၀၀၀-ကျော်တို့အတွက် မြို့ပေါ်နှင့် နယ်ပါမကျန် လိုက်လံ၍ နှိုးဆော်ကြရာ စေတနာအလျှောက် "ဝိနယုဿဝ ရာပြည့်ဓမ္မာရုံတော်ကြီး" တည်ဆောက်အောင်မြင်ရေးအတွက်၎င်း၊

သံဃာတော်အပါး ၁၀၀၀-ကျော်အတွက် ဆွမ်း ကွမ်း အိပ်ယာအိပ်ခင်းများအတွက်ပါ နှိုးဆော်လိုက်ရာ ဓမ္မာရုံကြီးအတွက် ဝတ္ထုငွေလှူဒါန်းသူ အလှူရှင်များ သံဃာတော်အပါး ၁၀၀၀-ကျော်အတွက် စေတနာ အလျှောက် ဆွမ်း ကွမ်း အချိုပွဲ အဖျော်ယမကာ အိပ်ယာအိပ်ခင်းပါမကျန် စေတနာထက်သန် သဒ္ဓါ ဗလဝအခြေခံ ကိုယ်ပိုင်ဉာဏ် ကဲမောက်ကြလျက် ရဲရဲတောက်လှူဒါန်းရန် ထွက်ပေါ်ပါဝင်လာကြသော ဒါနရှင်တို့မှာ လိုဒါထက်ပင် ပိုမိုများပြားလျက် ရှိခြင်းကြောင့် လှူဒါန်းလိုသူ၏ စေတနာထူးကို အနူး အညွတ် တောင်းပန်ရသည်အထိ ဖြစ်ရပါသည်ဘုရား။

ယခု ရာပြည့်ပူဇော်ပွဲကြီး ဖြစ်မြောက် အောင်မြင်ရေးအတွက် ပူဇော်ပွဲသို့ ကြွလာတော်မူကြသော သံဃာတော်များနှင့် ကပ္ပိယများကိုပါ မီးရထား မီးသင်္ဘော လေယာဉ်ပျံ ခရီးများအတွက် သတ်မှတ် ထားသော အဘိုးအခ နှုန်းထားများတွင် ၂၅/ရာခိုင်နှုန်း လျှော့ပေါ့လှူဒါန်းသည့်အတွက် သာသနာ ရေးဝန်ကြီးဌာနအား၎င်း၊ သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေး ဌာနအား၎င်း များစွာ ကျေးဇူးဥပကာရ တင်ရှိစွာဖြင့် ကျန်းမာချမ်းသာ ရှင်လန်းကြပါစေဟု ဆုတောင်းမေတ္တာ ပို့ပါသည် ဘုရား။

၎င်းအပြင် ရာပြည့်ပူဇော်ပွဲကြီး ဖြစ်မြောက်ရေးတွင် လိုလေသေးမရှိ ဝိုင်းဝန်း၍ ကူညီကြကုန်သော အစိုးရဌာနအသီးသီးအားလည်း များစွာကျေးဇူးဥပကာရ တင်ရှိစွာဖြင့် သာဓုအနုမောဒနာ ပြုအပ် ပါသည်ဘုရား။

အထက်ပါ လျှောက်ထားခဲ့သည်အတိုင်း သံဃာတော်အရှင်မြတ်တို့၏ သံဃာ့ကိစ္စအဝဝတို့ကို မှူချု ရွက်ဆောင် မလစ်ဟင်းအောင် အဖွဲ့များဖွဲ့၍ ကြိုးစားကြရင်း တပည့်တော်များ၏ မကျွမ်းကျင်မှု ကြောင့် သံဃာတော်များ၏အမြင်မှာ မဖွယ်ရာသော မှားယွင်းချက်များ တွေ့ရှိပါက တပည့်တော်များ အပေါ်၌ အစွယ် အစွယတော ဒိသွာ၊ ကရုဏာရှေ့ထားလျက် ခွင့်လွှတ်တော်မူကြပါရန် ခြေတော်မြတ်အစုံ ပေါ်တွင် ဦးတင်ကာ လျှောက်ထားဝံ့ပါသည်ဘုရား။

နိဂုံးချုပ်အနေဖြင့် ရှိခိုးလျှောက်ထားလိုသည်မှာ ဘုရားရှင်၏ သာသနာတော်သည် အခါလေးမြင့် ငါးထောင် တည်ပါစေသတည်း။

ဆရာတော်သံဃာတော် အရှင်မြတ်တို့သည် ကျန်းမာချမ်းသာစွာဖြင့် သက်တော်ရာကျော် ရှည်တော် မူကြပါစေသတည်း။

သာသနာတော်ကြီး၏အကျိုးစီးပွါးကို ဆတက်တန်ပိုးတိုး၍ဆောင်ရွက်တော်မူနိုင်ကြပါစေသတည်း။

ဘုရားတပည့်တော်များမှာလည်း ရခဲသောလူ့ဘဝကို ကြုံခဲသော ဤရာပြည့်ပူဇော်ပွဲကြီးဖြင့် အမြတ် ထုတ်ကြရသဖြင့် နှစ်သိမ့်ဘွယ်ရာ ဖြစ်ကြရုံမျှမက သာသနာရေးနှင့် စပ်လျဉ်းသော ဆောင်ရွက်ဖွယ်ရာများ ပေါ်ပေါက်လာပါက ဤနည်းမခြား ဤလိုပင်အလားတူ ကျန်းမာချမ်းသာ ကြည်ဖြူစွာဖြင့် ဆောင်ရွက် နိုင်ကြရပါစေကြောင်း ဆုတောင်းလျက်ရှိပါသည် သက်တော်ရှည် ဆရာတော် သံဃာတော်အရှင်သူ မြတ်တို့ဘုရား။

ပဲခူး ဒကာ ဒကာမများ၏ ကိုယ်စား
ခရိုင်တရားမနှင့် စက်ရှင်တရားသူကြီး ဦးဘဆန်း လျှောက်ထားအပ်သော

**လျှောက်ထားချက်။**

ဂဏာစရိယ ဂဏပါမောက္ခ သိက္ခာကာမ ဝိနယဂရုက လဇ္ဇီပေသလ စသည့်ဥဿုံ ကျေးဇူးဂုဏ်တို့နှင့် ပြည့်စုံတော်မူသော ဆရာတော်သခင် အရှင်မြတ်တို့၏ ခြေတော်အစုံကို ခိုလှုံမြတ်နိုး ရှိခိုးဝပ်တွား၍ လျှောက်ထားအပ်ပါသည် အရှင်မြတ်တို့ဘုရား။

ဖူးမြော်ကြည်ညိုခွင့်ရရန် အလွန်တရာ ခဲယဉ်းလှစွာသော ဆရာတော်ဘုရားကြီးများအား ကုသိုလ်ကံ ထောက်မသဖြင့် ဖူးမြော်ကြည်ညိုခွင့် ရခြင်းသည် "သမဏာနဥ္စ ဒဿနံ အတုလံ ဒုလ္လဘဒဿနံ" အရ အလွန်တရာ ဝမ်းမြောက်ဘွယ်ရာသော မင်္ဂလာထက် မင်္ဂလာ, ရတနာထက် ရတနာကြီးများ ဖြစ်ကြရပါသည် ဘုရား။

အနှစ်တရာမှာ အဖြစ်တခါသာ ပေါ်လာရန် အခွင့်သင့်သဖြင့် တသက်တွင် တခါမျှပင် ကုသိုလ်ကံ ပါရမီသမ္ဘာရ အလွန်ရှိကြမှ ကြုံကြိုက်ခွင့်ရသော ဤရာပြည့်ပူဇော်ပွဲ အခမ်းအနားမျိုးတွင် ကြည်ညိုခွင့် ပူဇော်လျှောက်ထားခွင့် ရပါသဖြင့် ဆောင်ရွက်ရေး အဖွဲ့ဝင်တို့အား များစွာ ကျေးဇူးဥပကာရ တင်လှပါသည်ဘုရား။

ဘုရားတပည့်တော်သည် မှီသမျှသော ဉာဏ်အမြင်ဖြင့် ဆင်ခြင်ကြည့်ရာတွင် ယခုနှစ်မှာ ကျင်းပအပ်သော ဤရာပြည့်ပူဇော်ပွဲကြီးသည် အံ့ချီးဘွယ် အင်္ဂါ ၈-သွယ်နှင့် ပြည့်စုံလုံလောက်နေသည့်အကြောင်းကို တွေ့မြင်ပါသဖြင့် ဆက်လက်လျှောက်ထားလိုပါသည်ဘုရား။

အံ့ချီးဘွယ် အင်္ဂါ ၈-ပါးတို့မှာ—

(၁) ကြခတ်ဝိုင်း ဝိနည်းစာပြန်ပွဲကြီးသည် ယခုအချိန်အထိ တနှစ်ကလေးမျှ အပျက်အကွက်မရှိ နှစ်စဉ်နှစ်ဆက် တန်ဆောင်မုန်းလပြည့်ကျော် ၂-ရက်နေ့မှ ၈-ရက်နေ့အထိ အဆက်ဆက်သော ဆရာတော် သံဃာတော်တို့ ခိုင်ခိုင်မြဲမြဲ ကျင်းပခဲ့ကြပါသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း၌ လေယာဉ်ပျံအောက် ဗုံးအမြောက်တို့၏ အသံများအကြားမှ အသက်ဆံဖျား နေကြရသော အချိန်မှာပင် မပျက်ကွက်ဘဲ ဇွဲသန်သန်အားခဲ၍ ဆောင်ရွက်တော်မူခဲ့ကြရာ ယခုနှစ်သည် အကြိမ် ၁၀၀-တင်းတင်းပြည့် ကျင်းပသော စာပြန်ပွဲကြီး ဖြစ်ခြင်းသည် အံ့ချီးဘွယ်ရာအင်္ဂါ တရပ် ဖြစ်ပါသည်ဘုရား။

(၂) ယခု ပူဇော်ပွဲသို့ မန္တလေးမြို့ မဟာဝိသုဒ္ဓါရာမတိုက် အသက်တော် ၁၀၀-နှစ်၊ သိက္ခာတော် ၇၁-ဝါ ရှိတော်မူသော အသက်တော်ရှည် အဘိဓဇမဟာရဋ္ဌဂုရု သာသနာပိုင် စံကင်းဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ဤရာပြည့်ပူဇော်ပွဲအတွက် ဟောကြားကာ ကြိုးခွေဖြင့် အသံသွင်းပေးပို့လိုက်သော ဩဝါဒဒေသနာ မိန့်မှာချက်ကို ကြားနာ ပူဇော်ရခြင်းသည်လည်း အံ့ချီးဘွယ်ရာ အင်္ဂါတရပ်ဖြစ်ပါသည်ဘုရား။

၃။ ရွှေကျင်နိကာယ ဂဏနာယက ဂဏပါလက ဝိနယဓရ အဂ္ဂမဟာပဏ္ဍိတ ကျက်သရေဆောင် ဆရာတော်ဘုရားကြီးများ ယခုပွဲတော်ပွဲ၌ ကြွရောက်ချီးမြှင့် သီတင်းသုံးနေကြခြင်းမှာ တိမ်ကင်းသော လပြည့်ဝန်းတခတွ ဦးပြိုးသောရွှေကဲ့သို့ သန့်စင်မွန်မြတ်သော ကျက်သရေတို့ဖြင့် ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီး၏ ဂုဏ်ရောင်ကိုဆောင်လျက်ရှိတော်မူသည်တို့ကို ဖူးမြော် ကြည်ညိုရခြင်းသည်လည်း အံ့ချီးဝမ်းမြောက်ဘွယ်ရာ အင်္ဂါတရပ်ပင် ဖြစ်ပါသည်ဘုရား။

၄။ ကြခတ်ဒိုင်းကျောင်းတိုက်၏ ပဓာနိဿရိယ ပဲခူးရွှေကျင်ဂိုဏ်းကြီး၏ ဝန်ဆောင်နာယက ဖြစ်တော်မူသော(သာသနဓဇ သိရီပဝရ ဓမ္မာစရိယ၊ ဝိနယာဓိက သိရီပဝရ ဓမ္မာစရိယ)ဆရာတော် ဦးဇောတိပါလ၏ဖြူစင်သော သီလ သမာဓိ ပညာ သိက္ခာသုံးပါး ဂုဏ်တော်များကို ကြည်ညိုလေးစား အားထားကြကုန်သော ဒါယကာ ဒါယိကာမတို့၏ ထက်သန်သောစေတနာ ကြည်လင်သောသဒ္ဓါ မလျော့သောဇွဲလုံ့လတို့ဖြင့် ယခုအနှစ်တရာပြည့် ပွဲတော်ပွဲကြီးကျင်းပပြုလုပ်ရာ ခမ်းနားတင့်တယ် ဝင့်ထယ်မြင့်မားလျက် ကျက်သရေအသွယ်သွယ်တို့နှင့် ပြည့်စုံခိုင်ခံ့လှပသော ဤ(သာသနမဟာပါကာရ ဝိနယုဿဝ ရာပြည့်ဓမ္မာရုံတော်) အဆောက်အဦကြီးကို လအနည်းငယ်အတွင်းမှာ ဤမျှလောက် ခရီးရောက်လျက် ပြီးမြောက်အောင် ဆောက်နိုင်ခြင်းသည်လည်း အံ့ချီးအတုယူဘွယ်ရာ အင်္ဂါတရပ်ပင်ဖြစ်ပါသည်ဘုရား။

၅။ ယခုရာပြည့်ပွဲတော်ပွဲ ကျင်းပသော လအတွင်း၌ပင် အနှစ်(၅၀)မြောက် အမျိုးသားအောင်ပွဲသဘင်နှင့် အနှစ် (၅၀) မြောက် တက္ကသိုလ်ရွှေရတုသဘင်တို့ ဆင်ယင်ကျင်းပသည့် နှစ် လတို့နှင့် တိုက်ဆိုင်နေခြင်းမှာလည်း ထူးခြားအံ့ချီးဘွယ်ရာတရပ်ပင် ဖြစ်ပါသည်ဘုရား။

၆။ အနှစ်(၁၀၀)ပြည့် ပွဲတော်ပွဲအခမ်းအနားသို့ တိုင်းအသီးသီး ခရိုင်အသီးသီး မြို့နယ်အသီးသီးတို့မှ ကြွရောက်တော်မူလာကြသည့် ဆရာတော် သံဃာတော် အပါး(၁၀၀၀)ကျော်တို့အား နေ့စဉ်နေ့တိုင်း အရုဏ်အပြင် နံနက်ဆွမ်း နေ့ဆွမ်းအတွက်နှင့် ညနေဘက်တဖြာ အဖျော်ယမကာပါမကျန် ပြည့်စုံအောင် စီမံဆက်ကပ်လှူဒါန်းနိုင်ခြင်း, ဆရာတော် သံဃာတော်အရှင်မြတ်များ ချမ်းချမ်းသာသာ သီတင်းသုံးနိုင်စေခြင်းငှါ နေရာအိပ်ခင်း ဖျာနှင့် ခေါင်းအုံးစသည်တို့ကို လိုလေသေးမရှိ ပြည့်စုံအောင် စီစဉ်ပေးနိုင်ခြင်းတို့မှာလည်း အံ့ချီးဘွယ်ရာတရပ်ပင်ဖြစ်ပါသည်ဘုရား။

၇။ တန်ဆောင်မုန်းလပြည့်ကျော်(၂)ရက်နေ့ညမှစ၍ (၇)ရက်နေ့ညအထိ ညစဉ် ညစဉ် ဓမ္မကထိကအမော် ပုဂ္ဂိုလ်ကျော်တို့၏ ဆုံးမဟောကြားတော်မူကြမည့် (ကာလေန ဓမ္မဿဝနံ) ဟူသော မင်္ဂလာတရားနှင့်အညီ ဘုရားရှင်၏တရားတော်စစ် အဆီအနှစ်တို့ကို ကြားနာရှင်ပြုံး ဝဝကြီးစားသုံးရခြင်းမှာလည်း အားရနှစ်သက် အံ့ချီးဝမ်းမြောက်ဘွယ်ရာ တရပ်ပင်ဖြစ်ပါသည်ဘုရား။

၈။ ပဲခူးမြို့တွင် ဆံတော်ရှင်မြတ် ကိန်းဝပ်စမ္ပယ်တော်မူရာ ရွှေမော်ဓောစေတီတော်မြတ်၏ လုံးပတ်တော်ကို ရွှေသင်္ကန်းကပ်လှူမည့် အချိန် အခါနှင့် အနှစ် (၁၀၀)ပြည့် ဝိနည်းပိဋကတ်ထွတ်အမြတ်ပွဲတော်ပွဲကြီး ကျင်းပသည့်အချိန်အခါတို့ တိုက်ဆိုင်ခြင်းမှာလည်း မှတ်သားအံ့ချီးဘွယ်ရာ တရပ်ပင်ဖြစ်ပါသည်ဘုရား။



ပြန်ကြားရေးဌာနမှ အမျိုးသမီးကြီးဘဦး နေ့စဉ်လက်နှိပ်စက်ရိုက် လုပ်အား လှူနေသည်။



ဤသို့ ပစ္စည်းများကို တပါးစီကပ်လှူသည်။

ဤသို့ကြုံခဲလှစွာ အံ့ဘွယ်(၈)ဖြာ မင်္ဂလာရတနာအပေါင်းတို့နှင့်ပြည့်စုံသော ပူဇော်ပွဲအခမ်းအနားသို့ ကြွရောက်ချီးမြှောက်တော်မူကြကုန်သော အစိန္တေယျ လောကထွတ်တင် သုံးလူ့ရှင်၏ ရွှေရင်တော်နှစ်သားတော်စစ် ဖြစ်တော်မူကြကုန်သော ဆရာတော်သခင် ကျေးဇူးရှင်အပေါင်းတို့သည် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစွာဖြင့် သာသနာတော်နှင့် လောက နှစ်ဌာနအကျိုး ဆထက်တိုး၍ ဆောင်ရွက်တော်မူနိုင်ကြပါစေသတည်း။

ဘုရားရှင်၏ သာသနာတော်သည်လည်း တက်သစ်စနေအသွင် သော်ကာယာဉ် လပြည့်ဝန်းကဲ့သို့ တလျှမ်းလျှမ်းတဖိတ်ဖိတ် တရိပ်ရိပ်တဖွားဖွား အဆင့်ဆင့်ထွန်းကားပြီး တိုးပွါးတော်မူပါစေသတည်း- ဟု ဆုတောင်းလျှောက်ရှိပါကြောင်း လျှောက်ထားဝံ့ပါသည် ကျေးဇူးတော်သခင် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် (၅) ရက်နေ့။



ရှေ့တန်း။ ။စမ်းကြီးဆရာတော်၊ ရွှေကျင်ဆရာတော်၊ ကျိုက်ဝိုင်းဆရာတော်၊ ဥက္ကံဆရာတော်၊
နောင်တော်ကြီးဆရာတော်၊ ရွှေကျင်တပ်ဦးဆရာတော်၊
နောက်တန်း။ ။ဝိဇိတာရုံဆရာတော်၊ တောရကြီးဆရာတော်၊ ရွှေဂူဆရာတော်၊ မယင်းဆရာတော်၊
ကော့ကဒွတ်ဆရာတော်၊ ရတနာဂူဆရာတော်၊ မင်းရွာဆရာတော်၊
ခလပ်ဆရာတော်၊ ရွှေဘုံဆင့်ဆရာတော်စသည်၊



အဘိဓဇ မဟာရဋ္ဌ ဂုရု
ရွှေကျင်နိကာယသာသနာပိုင် စံကင်းဆရာတော်ဘုရားကြီး၏ အသံသွင်းသြဝါဒကို
သံဃာတော်အပါး(၁၀၀၀)ကျော် ဤသို့နာယူနေကြပါသည်။

ရွှေကျင်နိကာယဥက္ကဋ္ဌ မဟာနာယက
ဓမ္မသေနာပတိ သမ္မုတိသံဃရာဇာ အဘိဓဇ မဟာရဋ္ဌ ဂုရု
သာသနာပိုင် သက်တော်ရှည် ရာကျော် စံကင်းဆရာတော်ဘုရားကြီး၏

## ပခုက္ကူရာပြည့်ပွဲ ကြိုးခွေသြဝါဒ မိန့်ခွန်းတော်

ပခုက္ကူမြို့ အနှစ်(၁၀၀)ပြည့် ဝိနည်းစာပြန်ပွဲတော်ကြီးကို ကိုယ်တိုင်လိုက်မယ်လို့ ကြံစည်စိတ်ကူးထားရာမှ ဇရာဒုဗ္ဗလကြောင့် မလိုက်တော့ဘူးလို့ စာပြန်စေခဲ့တယ်၊ အဲဒီနောက်မှတခါ မန္တလေးမှနေပြီး သြဝါဒပေးပါ၊ တရားစကား နည်းနည်းဖြစ်ဖြစ်ချီးမြှင့်ပါ၊ ဟောပါဆိုပြီး ပခုက္ကူကလဲ စာပေးလျှောက်ထားတယ်၊ အနီးအနားတပည့်ရဟန်းတော်များကလဲ တောင်းပန်လျှောက်ထားနေတယ်၊ ဒါ့ကြောင့်မို့ ခုလိုပြောခွင့်ရတာလဲ ဝမ်းမြောက်ပါရဲ့။

တို့က ၁၂၃၂-ခုမှာ ဖွားမြင်တယ်၊ ဒီစာပြန်ပွဲကြီးက ၁၂၃၃-ခုမှာ စတင်ပြုလုပ်ခဲ့ကြတယ်၊ ယနေ့ ရဟန်းတော်ထဲမယ် ကိုယ်တပါး သက်ရှယ် (၁၀၀) ဆိုတော့ ဒီစာပြန်ပွဲကြီး ရာပြည့်ချိန်မှာ ကိုယ်နဲ့ဟပ်မိနေတယ်-တဲ့၊ တိုက်ဆိုင်ကြုံတွေ့နေတယ်လို့ ခုလို ဘေးကပြောကြဆိုကြနဲ့ ပခုက္ကူသံဃာကရော လူဒကာ ဒကာမတွေကရော သိပ်ကြွစေချင်တယ်လို့ ကြားရတယ်၊ ကိုယ်ကလဲ အလွန်ထူးခြားတဲ့ ပွဲကြီးဘဲဆိုတာ သိလို့ သိပ်လိုက်ချင်ပါတယ်၊ ကိုယ်တိုင်တာဝန်တခုယူပြီး ထမ်းချင်ပါတယ်၊ သံဃာ့အလယ် ဝင်ချင်တယ်၊ သံဃာအများစုအပေါင်းကိုလဲ စိတ်က အားကိုးပါတယ်၊ ခုတော့ မလိုက်နိုင်ဘဲဖြစ်ခဲ့ရလို့ မန္တလေးကနေပြီး မေတ္တာပို့လို့ တွေးပြီးအာရုံပြုပြီးနေပါတယ်။

ဒီလို ဟိုတွေးဒီတွေး တွေးရာကနေ စိတ်ထဲပေါ်လာတယ်၊ ခုလို စာပြန်ပွဲကြီးနဲ့ ပခုက္ကူသံဃာ့စည်းရုံးမှုကြီး ညီညွတ်အောင် စတင်ဦးဆောင်၍ စီစဉ်ပြုလုပ်ခဲ့ကြတဲ့ ရှေးရှေးဆရာတော်များ ဘုန်းတော်ကြီးများကို မြော်မှန်းပြီး လွမ်းမိတယ်၊ သတိရ အောက်မေ့မိတယ်၊ ဂုဏ်ကျေးဇူးတွေကို စိတ်ထဲမှာပေါ်နေတယ်၊ အလွန်ကျေးဇူးကြီးမားတဲ့ ဆရာတော်တွေဘဲလို့ ရာပြည့်ပူဇော်ပွဲကြီးလုပ်မယ်ဆိုမှ ပိုသတိရ ပိုအောက်မေ့ရ ဖြစ်နေတယ်။

ဘုန်းတော်ကြီး ဦးစန္ဒာလင်္ကာရ၊ ဘုန်းတော်ကြီး ဦးသီလ၊ ဘုန်းတော်ကြီး ဦးသုမန၊ ဘုန်းတော်ကြီး ဦးဝဏ္ဏ-တဲ့ အဆက်ဆက်ပေါ်တဲ့လေ၊ ကနေ့အထိ ခေါင်းဆောင်ပါဝင်နေတဲ့ မထေရ်ကြီးတွေရော စာပြန်ဆိုတဲ့ အငယ်ဆုံးသာမဏေလေးအထိပေါ့၊ ကျေးဇူးတင်လို့ မဆုံးနိုင်ပါလားလို့ ကျေးဇူးတင်ပြီး ဝမ်းသာအားတက်မိတယ်၊ ဘုန်းတော်ကြီး ဦးသီလဆိုရင် မြန်မာပြည်တွင်မက ကမ္ဘာတခွင်မှာ ဝိနည်းဘက် အကျင့်ဘက် ပရိယတ် ပဋိပတ် ဘယ်ဘက်မှ မလိုဘဲ အတ္တဟိတ ပရဟိတ အများလူရှင် ဒကာ ဒကာမ သတ္တဝါများအပေါ် မေတ္တာတရားတော် ကရုဏာတရားတော်များကို ဖြန့်မိုးကာ ဒီပခုက္ကူဌာနကြီးကနေပြီး သာသနာ့အကျိုးကို အများဆုံးဆောင်ရွက်တော်မူခဲ့တယ်။

ဒါ့ကြောင့် ပခုက္ကူနယ်တခုလုံးရော နယ်တကာလုံးရှိတဲ့ ဆရာတော် သံဃာတော်တွေရော အားလုံးပါဘဲလေ၊ အထက်ပိုင်းမှာဆိုရင် ပဌမရွှေကျင်ဆရာတော်၊ ပဌမမဟာဝိသုဒ္ဓါရုံဆရာတော်၊ ခု-ဒီနှစ် ဒီလ ဒီရက်တွေရောက်မှ ဆရာတော်တွေအားလုံးကို သတိရနေတယ်။



အဂ္ဂမဟာဓမ္မကထိက ရန်ကုန်မြို့ ကျိုက်ဝိုင်းဆရာတော် ရာပြည့်ပူဇော်ပွဲကြီး အမှုဆောင်အဖွဲ့ နာယက။



သာသနာ့ပြုအသင်း ဘဏ္ဍာရေးအဖွဲ့လူကြီးများ။

ယခု ပဲခူးမှာကျင်းပတဲ့ ရာပြည့် ဝိနည်းစာပြန်ပွဲကြီးဆိုရင် ရှေးဆရာတော်တွေ အဆက်ဆက်ပြုလုပ်လာခဲ့ကြလို့ ဤပွဲကြီး ကျင်းပနိုင်တယ်ဆိုပြီး ရှေးဆရာတော်တွေရဲ့ ကျေးဇူးကို သတိရစေချင်တယ်၊ ဒါ့ကြောင့် ယနေ့ယခု ဝိနည်းစာပြန်ရာပြည့်ပွဲ ဝိနည်းပူဇော်ပွဲကြီးမှာ တို့က အကြီးဆုံးမထေရ်ကြီးအဖြစ်နဲ့ အများကိုယ်စားဆိုပါတော့၊ ရှေးသံဃာ ခုသံဃာ ရှေးဒကာ ခုဒကာတွေအပေါ် ကျေးဇူးတင်စကားကို လူသိနတ်ကြားပြောဆိုလိုက်ပါတယ်၊ နှစ်ထောင်းအားရ ပြောကြားလိုက်ပါတယ်၊ သူတော်ကောင်းတို့ရဲ့ အမှုကိစ္စအလုပ်တာဝန်ကို နှစ်(၁၀၀)တိုင်တိုင် ရှက်ဆောင်ပြုလုပ်ကြပါပေတယ်လို့ ဝမ်းမြောက်စကား ပြောကြားလိုက်ရပါတယ်။

ဘာလို့လဲဆိုတော့ သူတော်ကောင်းတရားကို နှလုံးသွင်းပြီးဖြစ်လို့ သူတော်ကောင်းအလုပ်ကို လုပ်ဆောင်နိုင်တာ သူတော်ကောင်းအမှုကိစ္စကို ဆောင်ရှက်ကြလို့ တို့က သံဃာတော်များက အားလုံးဗုဒ္ဓဘာသာမှန်သမျှက ချီးကျူးကြရတယ်။

ဝိနည်းပြန်ပွဲ ဝိနည်းပြန်ပွဲဆိုတာ သူတော်ကောင်းမှလုပ်နိုင်တာ၊ ဝိနည်းပြန်ပွဲတာဆိုရ ညစဉ်တရားဟောကြ၊ နာကြ၊ ပြောကြဆိုကြနဲ့ အဘိဓမ္မာကလဲ အဆက်မပြတ်ပါနေတာဘဲ၊ပိဋကတ်သုံးသွယ် နိကာယ်(၅)ရပ် ထွတ်အမြတ်ပူဇော်ပွဲကြီး ဖြစ်နေတာပေါ့၊ ပါဝင်ကြည်ညိုကြသူအားလုံး သူတော်ကောင်းတရားသဘော သက်ဝင်ပြီးဖြစ်နေလို့ ဒီအဓိပ္ပါယ်ကို သိကြပေလိမ့်မယ်-လို့ အင်း။

သူတော်ကောင်းတို့ရဲ့ တရားသဘောနဲ့ သူယုတ်မာတို့ရဲ့ တရားသဘောဆိုဒါ "ကောင်းကင်သည် မြေကြီးနဲ့ဝေးသလို မြေကြီးသည် ကောင်းကင်နှင့်ဝေး၏"လို့ ဟို–သုတသောမဇာတ်ပါဠိမှာ....နဘဉ္စ-ဒူရေ ပထဝီ စ ဒူရေ....စသည်ဖြင့် ဟောထားတာရှိတယ်။

အဲဒီ အမျိုးမျိုး လောကရဲ့ မျက်မြင်ကိုယ်တွေ့တွေ ဝေးပီးနေတာထက်....တတော စာဝေ ဒူရတရံ ဝဒန္တိ၊ သတဉ္စ ဓမ္မော အသတဉ္စ ရာဇ....လို့ ဟောတော်မူတဲ့အတိုင်း သူတော်ကောင်းတရားနဲ့ သူယုတ်မာတို့ရဲ့ တရားဟာ ဒူရတရ-အလွန်ဝေး အလွန်ကွာခြားနေတယ်ဆိုတော့ ဒို့အခုလုပ်ဆောင်နေကြတဲ့ ဝိနည်းအရေးတော်ပွဲကြီး၊ ပိဋကတ်ပူဇော်ပွဲကြီးဟာ သူတော်ကောင်းတို့ရဲ့ အမှုကိစ္စဆိုတာ သိကြတဲ့အတိုင်းပေါ့လေ။

သဗ္ဘိရေဝ သမာသေထ-တဲ့၊ အဲဒီ သုတသောမမင်းကြီးကို ကဿပဘုရားရှင်ဟောတဲ့အတိုင်း ဂါထာကို တဆင့်ရွတ်ပြလို့ နန္ဒပုဏ္ဏား-က "သတာရဟ"ဂါထာ ငွေတရာတန်ပါတယ်လို့ သံတော်ဦးတင်တာကို မင်းကြီးက "သဟဿာရဟ" ဂါထာဖြစ်စေရမည်လို့ ငွေတထောင်တန် ဖြစ်စေရမည်၊ ဂါထာတပုဒ်တထောင်တန်စေ-စသည်ဖြင့် ဇာတ်ဝတ္ထုမှာ လာတာတွေထောက်လျှင် သူတော်ကောင်းတရားတွေ သူတော်ကောင်းနှင့်ပေါင်းသင်းဘို့ သူတော်ကောင်းတို့ရဲ့ နိဗ္ဗာန်တရားကို အာရုံပြုဘို့ သိဘို့ နိဗ္ဗာန်ရောက်ကြောင်းအလုပ်တွေ လုပ်ဆောင်ဘို့စသည် ဟောကြားဆုံးမထားတဲ့တရားတွေ အားလုံးသိကြတဲ့အတိုင်း၊ သူတော်ကောင်းတရားကိုသာ အမြဲမသေ့ အားထုတ်ကြစေချင်တယ်၊ သူတော်ကောင်းစိတ်ဓာတ်မွေးမြူဘို့ သူတော်ကောင်းများနဲ့သာ မကွာမလပ်ဆည်းကပ်ပေါင်းသင်းဘို့ သတိပြုစေချင်တယ်။

သူတော်ကောင်းပုဂ္ဂိုလ်များနဲ့ ပေါင်းသင်းပြီး ကိုယ်တိုင်ကလဲ သူတော်ကောင်းတရားကို တိုးတက်ကျင့်သုံးကာ သူတော်ကောင်းတို့သာ ပိုင်ဆိုင်သော နိဗ္ဗာန်တရားကို ကိုယ်စီကိုယ်ငှ လျင်မြန်စွာမျက်မှောက်ပြုနိုင်ကြပါစေကုန်သတည်း။

မန္တလေးမြို့ အရှေ့ဝိသုဒ္ဓါရုံတိုက်
နိုင်ငံကျော် မဓေ့ကထိက ရမည်းသင်းဆရာတော်
အရှင်ဉာဏဝံသထေရ်
ဖတ်ကြားလျှောက်ထားအပ်သော ဝိနယထုတိလ္ဃာ

(၁) သိရီမတာ သမ္ဗုဒ္ဓေန၊ ကရုဏာဝရဉာဏိနာ၊
ပညတ္တော ဝိနယော သော၊ ဝိနေတိ ဝိနယော မတော၊

သိရီမတာ၊ ဘုန်းနှင့်ပညာ ယှဉ်တွဲပါလျက် မင်္ဂလာစုံလင် ကျက်သရေရှင်ကြီးတဆူ ဖြစ်တော်မူထသော။ ကရုဏာဝရဉာဏိနာ၊ သတ္တဝါအများ ရင်ဝယ်သားသို့ သနားကြင်နာ မဟာကရုဏာသခင် ရွှေဉာဏ်ရှင်လည်းဖြစ်တော်မူထသော။ သမ္ဗုဒ္ဓေန၊ ပွင့်လင်းနိုးကြား တရားအမှန် ကေန်သိတတ် ဘုရားရှင်ကိုယ်တော်မြတ်ကြီးသည်။ ဝိနယော၊ အာဏာတော်မြတ် သတ်မှတ်ဖွဲ့ရာ ဝိနည်းပိဋကတ်ဒေသနာကို။ ပညတ္တော၊ သံဃသုဒ္ဓု–စသည်မိန့်ကြား ကျိုး(၁၀)ပါးကို မူထားသတ်မှတ် အာဏာမြတ်ဖြင့် ပညတ်တော်မူအပ်ပါပြီ။ သောပိ ဝိနယော၊ ပညတ်အပ်ပြီး ကျင့်ထုံးနည်းလာ ဤဝိနည်းပိဋကတ်ဒေသနာကို။ ဝိနေတိ၊ ကိုယ်နှင့်စကား မမှားရအောင် ညွှန်ကြားပြသ ဆုံးမတော်မူပါပေ၏။ ဣတိ တသ္မာ၊ ဆုံးမပေတတ် ဤသကတ်ကြောင့်။ ဝိနယော၊ မဂဓတိုင်းသုံး စကားလုံးဖြင့် ခေါ်ထုံးဖော်ပြ "ဝိနယ"ဟူ၍။ မတော၊ ဝိဂ္ဂိုဟ်ဗျုပ္ပတ် ဖွင့်အပ်အညီ အနွတ္ထနာမည်ဖြင့် အတည်သတ်မှတ် သိအပ်ပါပေသတည်း။

(၂) အာယေ့သော ဝိနယော ဗုဒ္ဓ-သာသနဿာတိ ဗျာကရုံ၊
တေနာယ မာယုသဘာတိ၊ အရဟတိ ကထေတဝေ။

သော ဝိနယော၊ ကိုယ်နှုတ်နှစ်ထွေ ယဉ်ကျေးစေဘို့ ဥပဒေသ ညွှန်ပြထုံးနည်း ဤဝိနည်းသည်။ ဗုဒ္ဓသာသနဿ၊ ဗုဒ္ဓမြတ်ရှင် ဉာဏ်သဗ္ဗဉ်ဖြင့် တည်ထွင်ဟောဖော် သာသနာတော်မြတ်ကြီး၏။ အာယု၊ ရှည်ကြာဆက်လက် မပျက်တည်စေ အသက်ပါပေတည်း။ ဣတိ၊ ဤသို့။ ဗျာကရုံ၊ သာသနာနှစ်ဆန်း တစ်ဂဏန်း၌ ကြိုးပမ်းသံဂါယနာ ထေရ်ဆရာတို့ အဖြေရှာဖော် မိန့်ဟ မြွက်ဆိုတော်မူခဲ့ကြလေကုန်ပြီ။ တေန၊ ထို့ကြောင့်။ အယံ သဘာ၊ ပဲခူးဒေသ အရည့ဝါသီ ဂုဏ်ရည်နေသွင် ရွှေကျင်ဂိုဏ်းလုံး စုရုံးဆင်နွှဲ ဤရာပြည့် ဝိနယသဘင်ပွဲကို။ အာယုသဘာတိ၊ ထာဝရ မပျက်ဆင်နွှဲ သာသနာ့အသက်သဘင်ပွဲဟူ၍။ ကထေတဝေ၊ ထောင်ကျော်သံဃာ ဝင်ပါတက်ရောက် မျက်မှောက်ဆင်နွှဲ ယနေ့ပွဲ၌ ဆင့်ကဲပိုမို အဆိုပြုခြင်းငှါ။ အရဟတိ၊ ပါရာဇိကဏ် အဋ္ဌကထာ ကျမ်းရွှေစာ အကိုးပြုလျက်(ရိုးမတဝိုက် သာဓုသံ့ တုံရိုက်အောင်)အမှန်ပင် ထိုက်တန်လှပါပေသတည်း။

(၃) သတ္ထုကပ္ပံ သုဝိနယံ၊ ဓာရေထ ဟာဒယေန တံ၊
ပရမ္ပရဿ ဝါစေထ၊ အာကပ္ပန္တံ စိရာရယံ။

သတ္ထုကပ္ပံ၊ သက်တော်ထင်ရှား ဘုရားတမူ အလားတူသော။ တံ သုဝိနယံ၊ ကျမ်းစာငါးရပ် သတ်မှတ်သေချာ ထိုဝိနည်းမြတ်ဒေသနာကို။ ဟာဒယေန၊ အမြဲစွဲသုံး မိမိ၏အသဲနှလုံးဖြင့်။ ဓာရေထ၊

ဘဏ္ဍာတံတင်း ရတနာသွင်းသို့ ထန်ပြင်းလှုံလ ကျက်ဆောင်ကြပါကုန်လော့။ အာကပ္ပနှံ့၊ ရှည်ကြာ တွက်ရုံး ကမ္ဘာဆုံးသည့်တိုင်အောင်။ စိရာရဟံ၊ ဝိနည်းသာသနာ တည်ကာစဉ်လိုက် ရှည်ကြာထိုက်လေ အောင်။ ပရမ္ပရသာ၊ အရှင်ဥပါလိမှ အရှင်ဒါသက/အရှင်ဒါသကမှ အရှင်သောဏဆိုသလို သာသနာ နွှယ်မပျက် တပည့်အဆက်ဆက်အား။ ဝါစေထ၊ အားကြိုးမာန်တက် ဇွဲဉာဏ်ဘက်၍ နှစ်သက်ရွှင်ပြ ပို့ချကြပါကုန်တော့လော။

မန္တလေးမြို့ ဝိဇိတာရုံတိုက်
ဂန္ထကာရက စာချအကျော် ဆရာတော် ဦးဝါသန
ရေးသားလျက်
**သာသနာပြုအသင်းလူကြီး ဦးတိုး**
**ဖတ်ကြားလျှောက်ထားအပ်သော အာသီသပတ္ထနာ**

**ပိုဒ်စုံ—ရတုစာ**

**တိုးတက်ရောင်ဝါ** ကျွန်းလကျ်ာကား မြတ်စွာဆူဆူ ပွင့်တော်မူ၍ ပြိုင်တူကင်းပ လွန်မြတ်လှကား တောက်ပသာသနာ ပြည်မြန်မာဝယ် ဟံသာဝတီ ရွှေးအမည်နှင့် ခုမည်ကဲထူး မြို့ပဲခူးကား ကြည်နူးဘွယ်ရာ လွန်သာယာတည့် တေဇာမြင့်ကြွား ဆူဆူများသည့် ဘုရားစေတီ ကျောင်းကန်မည်သား စေတီသာမော ရွှေမောဓောကား အံ့ဩမကုန် ဘဝဂ်တုံမျှ သိရ်ကုန်ကျော်ကြား ဘုန်းတောက်ကြွား လျက် ဘုရားမြတ်စွာ သာသနာ၏ ထွန်းရာဌာန ခိုင်မြဲလှသည့် ကိုးရာ့ဆယ်နှစ် သက္ကရာဇ်၌ နန်းသစ် တက်ကာ စိုးစံလာသည့် ဟံသာဘုရင် ဆင်ဖြူရှင်၏ (သီဝလိ)ဟု မည်ရှိထင်ပေါ် သမီးတော်သည် လေးဖော်ပစ္စယ ထောက်ပံ့ရသည့် ပါကဋရှင် ဘုန်းကံလွှင်သည့် အရှင်သုဝဏ္ဏဒီပ တိပိဋကရေနှင့် များလှထေရ်မော် ပုဂ္ဂိုလ်ကျော်တို့ ထွက်ပေါ်ဆက်လာ မပျက်စွာကြောင့် သာသနာရောင်ရွှန်း အရှည်ထွန်းသည် **ပြောင်ဝန်းဖာလ်ဝါ သဘွယ်တည်း။**

**ဖြိုးလက်ပြောင်စွာ** လရောင်ဖြာသို့ မြန်မာရဋ္ဌ မဆင့်ရအောင် သီလသမာ ဓိပညာတို့ ဂုဏ်ဝါလျှံသီး ပြန့်ကျော်ဟီးသည့် ဘုန်းတော်ကြီး ဦးသီလ အဦးစလျက် အရညဝါသီ ရွှေကျောင်ထေရ်တို့ စုံညီဖြိုဖြိုး စုဝေးကြ၍ ကြုံရခဲစွာ သာသနာ၏ ရှည်ကြာမြားမြောင် နှစ်ငါးထောင်ထက် မြင့်ခေါင်တည်ရေး အသက်သွေးကား မြတ်ဘုရား၏ ဟောကြားမိန့်ချေ ပညတ်ပေသည့် ကုဋေကိုးထောင် ကျော်အောင် ရှိပြီး ဤဝိနည်းသာ ပဓာနာမို့ သိဿာဆက်ဆက် နောင်မပျက်ဘဲ ဆောင်ရွက်လိုက်နာ ကျင့်ကြံကာဖြင့် ဖြူစွာသီလ ရှိစေကြဘို့ မြတ်လှစိတ်ကူး မြော်မြင်ထူးဖြင့် ပဲခူးဌာန ဝိနယသဘာ မည်သညာဖြင့် မြန်မာ သက္ကရာဇ် တစ်နှစ်သုံးသုံး တန်ဆောင်မုန်းဟု မြတ်ဆုံးလှမြဲ ကထိန်ပွဲတို့ ခြိမ့်သဲကျင်းပ ဤသည်လဲ၌ ဝိနယသဘင် စတည်ထွင်၍ နှစ်စဉ်ဖော်ညွှန်း ပေါ်လာထွန်းသည် **ရောင်ရွှန်းစန္ဒာ လနှယ်တည်း။**

**မိုးလျက်အောင်သာ** တိုးတက်စွာသား ဂုဏ်ဝါတင့်ကဲ ဝိနည်းပွဲကို ဆင့်ကဲလွန်ကြူး ထူးထက်ထူးကို ပဲခူးနယ်ဝင် ဂိုဏ်းရွှေကျောင်မှ ပေါ်လွင်ပါကဋ ထက်မြက်လှသည့် သီလသမာ ဓိပညာဟု သိက္ခာပြည့်လတ် ထေရ်ရှင်မြတ်တို့ ပြုအပ်ဆက်ဆက် ထိန်းသိမ်းချက်ကြောင့် တိုးတက်သောနှုန်း မြင်မဆုံးတည့် တစ်သုံး သုံးနှစ် သက္ကရာဇ်ကြုံရာ ဤအခါကား တရာတိတိ အကြိမ်ပြည့်ကြောင့် တပည့်ဒကာ မြတ်ဆရာတို့ ညီညာဖြိုဖြိုး ပေါင်းစုကြ၍ ဗုဒ္ဓမြတ်စွာ သာသနာကို ဆင့်ကာကဲမြိုင် ထွန်းတောက်နိုင်လျက် ကြံခိုင် တည်ရေး ရည်မြော်တွေး၍ ဖြူဖွေးသဒ္ဓါ စေတနာနှင့် ဝမ်းသာပီတိ လွန်စွာရှိကြောင့် ရာပြည့်သဘာ ပွဲမဟာကို နွဲကာကျင်းပ ပူဇော်ကြသား ကမ္ဘာ့တခွင် သမိုင်းတင်သည့် ရွှေကျောင်ဝိနယာ ဤသဘာကား သာသနာသက်ညီ ကမ္ဘာတည်အောင် ကြာရှည်ပြောင်ရွှန်း အရှည်ထွန်းမည် **တောင်ကျွန်းလျှံဖြာ မကွယ်တည်း။**

ညောင်တုံးမြို့ ရွှေဟင်္သာတောရတိုက် အဂ္ဂမဟာပဏ္ဍိတ
စာချအကျော် ဆရာတော် ဦးဝိမလ ရေးသားလျက်
သုဇာတာအဖွဲ့ ဒေါ်အေးကြည်
ဖတ်ကြားလျှောက်ထားအပ်သော (ရာပြည့်မင်္ဂလာ)ပွဲကြီးဖွင့်

ရတု—ပိုဒ်စုံ

**ကိုးဆင့်ထိန်ဖြာ** သိန်သမ္ဘာတည့် ဇလ္လန္ဒာသုံး၀ မနုဿနှင့် ဒေ၀ပြဟ္မာ မင်းတကာတို့ ရတနာမကိုဋ် ခြေတော်ဆိုက်လျက် ဦးတိုက်ကြရာ သံဃိန္ဒာဟု အာဏာရဟာ ထွဋ်သကျလျှင် မဟာ့မဟာကရုဏာဖြင့် ချိန်ခါ၀ဋ္ဋ ထောက်မြော်ရှုလျက် စတုပါယ ကြီးဒုက္ခနှင့် အတ္တပရာ အာဒိဖြာသာဘယာစတုက် ကင်းကွာပြုတ်အောင် မိန့်ထုတ်သေကွေ ဥပဒေကား ထူးထွေများလှ နည်းနယနှင့် ကာယ၀ါစာ သိမ်မွေ့ပါအောင် ကောင်းစွာဆုံးမ အနုတ္တကြောင့် ဝိနယသညာ မည်ထူးစွာသည် **မဟာပြစ်ပေါင်း ပျောက်မည်ဘုရား။**

**နှိုးဖွင့်ဇလ္လန္ဒာ** ဝတိံသာက ရှိန်ဝါမြတ်လှ သဟဿဟု နေတ္တပိုင်ရှင် နတ်ဘုရင်လျှင် ချစ်ရှင်မိန့်သံ ရွှေဗျာခံ၍ ကျိုးနွံဂရု လှုံ့ဆော်မှုကြောင့် ဤလူ့နယ်မြေ ဟံသာပြေဟု ဂုဏ်ဝေကွန့်မြူး မြို့ပဲခူး၀ယ် **ထေရ်ထူးမဟာ** ရဟန္တာဟု ထိုခါခေတ်က ကျော်ပေါက်ပြသား သီလမည်တော် မထေရ်မော်လျှင် **ရည်မြော်မှတ်ပိုင်း** ကြခတ်ဝိုင်းဟု ဂုဏ်လှိုင်းရွှေဘုံ သံဃာရုံ၀ယ် မြတ်ဘုံကောဇာ နှစ်တရာကား **သာသနာ့အာယု ရှည်အောင်ပြုလျက်** ဂရုကတ ဉာဏ်မြော်ဆ၍ ဝိနယသဘာ စတင်ပါသည် **ဓမ္မာသစ်လောင်း တောက်ပြီ ဘုရား။**

**ဖြိုးတင့်ရှိန်ဝါ** ထေရိန္ဒာတို့ ချိန်ခါကိုမှ အာဒိစလျက် ဉာဏဝီရိန် သဒ္ဓါရှိန်နှင့် သတိန်မကင်း မမှိန်လင်းအောင် တည်ရင်းသဘာ ဝိနယာဟု မဟာတရု ပင်ပျိုနုကို မြေထုဝိုင်းအုံ ရေသွန်းပုံသို့ လုံးစုံစုစု လိုအပ်မှုဖြင့် ဂရုကြီးစွာ ဝိုင်းညီညာလျက် ရာရာဆိုက်ဆိုက် ချိန်နှင့်ကိုက်အောင် သိုက်မြိုက်ဖြိုးဝေ တိုးတက်စေကြောင်း ခြေနေမျိုးမျိုး နှစ်စဉ်တိုးလျက် မညှိုးမှိုင်စွာ သက်ဆိုင်ရာဟု ဆရာအသင်း ဒကာရင်းတို့ အခင်းလှလှ ရည်သွေးပြသို့ သုံးရာ့သုံးဆယ် နှစ်ခုကယ်သည့် ထောင်ဝယ်သဉ်္ချာ မြန့်ကောဇာတွင် **တရာနှစ်ပေါင်း မြောက်ပြီ ဘုရား။**

ပွဲကြီးဖွင့်—ကေပိုဒ်

ယင်းသို့ရာညီ နှစ်ပြည့်သည်ကို ကြောင်းရည်မြော်ရှု ထိမ်းမှတ်ပြုလျက် ဤလူ့ကောဇာ ထောင့်သုံးရာနှင့် ကဲသာ့ပိုလစ် သုံးဆဲ့နှစ်တွင် ရေကုလစ်တန်ဆောင် စန်းမပြောင်သည့် အမှောင်ပက္ခ ပဉ္စမဟု ဗုဒ္ဓေါ်နေ့ ဆင်မင်းနေ့၀ယ် ချမ်းမြေသာကြည် ဇော်ဃဋ္ဋ်၌ ဤရာပြည့်ပွဲ ခြိမ့်ခြိမ့်သဲကို ဆင်နွှဲဘို့ရာ ဖွင့်လှစ်ပါသည် မင်္ဂလာထောင်သောင်း ပြည့်စေသော်။



ရာပြည့်သဘာပတိ ဆရာတော်ဘုရားကြီးများအား ဤသို့ အားရစွာ ဖူးမြင်ကြရသည်။



အဂ္ဂမဟာပဏ္ဍိတ စစ်ကိုင်း ရွှေဟင်္သာတိုက်သစ်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ စစ်ကိုင်း အနီးစခန်း ဆရာတော်နှင့် အဂ္ဂမဟာပဏ္ဍိတ မင်းကွန်းရတနာဂူဆရာတော်များ ဦးဆောင်၍ အခမ်းအနား မဏ္ဍာပ်ကြီးပေါ်မှ ပြန်ကြွတော်မူလာကြပုံ။

နေ့ခင်း (၁)နာရီတိုင်း ရာပြည့်မွောရုံကြီးသို့ကြွရောက်၍
သဘာပတိဆရာတော်ကြီးများ၏ ဩဝါဒများကို ခံယူကြရပါသည်။

**သံဃသမ္မုတိရ၊ အလှည့်ကျ နေ့စဉ်ဩဝါဒပေးတော်မူကြသော ဆရာတော်ဘုရားကြီးများမှာ**

တန်ဆောင်မုန်းလဆုတ်—

(၄)ရက်နေ့၊ ကညွတ်ကွင်းမြို့ ရတ္တညူမဟာနာယက ဥက္ကဋ္ဌ နိဂြောဓာရုံဆရာတော်

(၅)ရက်နေ့၊ မန္တလေးမြို့ ရတ္တညူမဟာနာယက ဂန္ထကာရက ဝိဇိတာရုံဆရာတော်

(၆)ရက်နေ့ စစ်ကိုင်းမြို့ အဂ္ဂမဟာပဏ္ဍိတ ရွှေဟသ်ာတိုက်သစ်ဆရာတော်

(၇)ရက်နေ့၊ ရန်ကုန်မြို့ အဂ္ဂမဟာပဏ္ဍိဘ ကမ္ဘာအေး ဇမ္ဗုဒီပဆရာတော်

မှတ်ချက်။ ။မြို့ပေါ်ရှိ ကိုယ်ပိုင်မော်တော်ယာဉ်ပိုင်ရှင်တို့အား အသင်းမှမေတ္တာရပ်၍ နေ့စဉ်အလှည့်ကျ သံဃာတော်များသုံးနိုင်ရန် ကားလှူဒါန်းပါသည်၊ ထို့ပြင် (၇)ရက်နေ့ နံက်ပိုင်းကို ဘုရားဖူးသောအချိန်ဟု သတ်မှတ်ပြီး ကြွလိုသော သံဃာတော်အားလုံးတို့အား မြို့ပေါ်ရှိ ဘုရားအားလုံးသို့ ပို့ပေးပါသည်။



နေ့စဉ် ဝိုင်း (၂၁၀)ကျော် ဤသို့ ပြင်ဆင်ကြ၏။



အချို့က ဒီလိုမြိန်မြိန်ဘုဉ်းပေးမှ ဝမ်းသာအားရ ရှိကြသတဲ့။

## ရာပြည့်ပွဲတော်ကြီး၌ ကပ်လှူကြသော ဆွမ်းကွမ်းအချိုပွဲနှင့် အဖျော်ယမကာအလှူရှင်များ

### တန်ဆောင်မုန်းလဆုတ် ၂-ရက်

| | | ကျပ် | ပြား |
|---|---|---|---|
| အရုဏ်။ | ။ဥပါသကာအဖွဲ့ ဇိုင်းဂနိုင်းတောင်ပိုင်း အသားဆန်ပြုတ် | ၂၂၅ | |
| | ဦးစံရင်၊ ဒေါ်ဝက် သွန်းဘုရားလမ်း ခေါက်ဆွဲသုပ် | ၁၅၀ | |
| နံနက်ဆွမ်း။ | ။ဦးဘရီ၊ ဒေါ်ခင်တင့် ညောင်ဝိုင်း ၁၂-လမ်း ဦးချစ်၊ ဒေါ်ကြည် ညောင်ဝိုင်း ၈-လမ်း ပလာတာ၊ လဘက်သုပ် လဘက်ရည်အချို | ၁၁၀၀ | ၅၅ |
| | ဦးခင်၊ ဒေါ်စောသင် ဆိုရှယ်လစ် ၇-လမ်း ရွှေကြည်နန္ဒင်းမကင်း | ၁၀၀ | |
| | ဦးစိုးမောင်၊ ဒေါ်အုံးမေ သွန်းဘုရားလမ်း ကြာဇံသုပ် | ၅၀ | |
| | ဒေါ်စောမြိုင်၊ ရန်ကင်း၊ ရန်ကုန် ကွမ်းဆေးအစုံ | ၁၅ | |
| နေ့ဆွမ်း။ | ။သမဂ္ဂပညာကာရီအဖွဲ့ ကလီကျေးရွာ ပဲခူးခရိုင် ဆွမ်းဟင်းစုံ | ၁၁၃၇ | ၈၅ |
| | ဦးကျန်၊ ဒေါ်သိန်းကြည် ၅၂-လမ်း၊ ရန်ကုန် ကိတ်မုန့် | ၁၀၄ | |
| | ဒေါ်ငွေသင်၊ ဒေါ်နှင်းရင်၊ ဒေါ်တင်အေး (မြူ) ဈေးပိုင်း ၁၉-လမ်း လဘက်သုပ် | ၁၁၀ | |
| | ဒေါ်အေးလှိုင် လိပ်ပြာကန် ၃၁-လမ်း သီးမွှေးငှက်ပျော | ၁၀၀ | |
| | ဒေါ်ကျော့မေ ညောင်ဝိုင်း ၁၀-လမ်း နန္ဒင်းမကင်း | ၃၀ | |
| | ဘားမားသိန်းအဖွဲ့ ညောင်ဝိုင်း ၁၁-လမ်း ရွှေကြည်နန္ဒင်းမကင်း ကျောက်ကျော၊ လဘက်ရည်ချို | ၆၉၇ | ၁၅ |
| | ဦးသန်း၊ ဒေါ်အမာ ညောင်ဝိုင်း ၁၂-လမ်း ကျောက်ဖရုံယို | ၂၆ | ၂၅ |
| | ဦးစိုးမောင်၊ ဒေါ်အုံးမေ သွန်းဘုရား အသက်လွှတ်ဆွမ်း | ၁၀ | |
| | ဆရာမ ဒေါ်အုံးကြည်နှင့် မောင်နှမတစု မြို့တွင်းအနောက် (ခ) ကိတ်မုန့်နှင့် ရေခဲမုန့် | ၅၆၇ | ၅၀ |
| | ဦးအုံးချို၊ ဒေါ်စောဥ ဝက်ဘာလမ်း စမူဆာ | ၉၀ | |
| | ဦးစိုး၊ ဒေါ်ကျင်နု လိပ်ပြာကန် ၃၁-လမ်း သီးမွှေးငှက်ပျော | ၆၅ | |
| | ဦးစိန်ဖေ၊ ဒေါ်သန်း မင်္ဂလာလမ်း နာနတ်ယို | ၁၂၀၀ | |
| ညနေ။ | ။ဦးလူလေး၊ ဒေါ်ရှင် သွန်းဘုရားလမ်း ကြံရည် | ၂၀၀ | |

### တန်ဆောင်မုန်းလဆုတ် ၃-ရက်

| | | ကျပ် | ပြား |
|---|---|---|---|
| အရုဏ်။ | ။ဦးဟုတ်ကြိုင်၊ ဒေါ်မြရင် သွန်းဘုရားလမ်း မုန့်ဟင်းခါး | ၁၁၇၀ | |
| | ဦးစံရင်၊ ဒေါ်ဝက် သွန်းဘုရားလမ်း ပဲပြုတ်နံပြား | ၁၂၆ | |
| | ဒေါ်နှင်းမြိုင်၊ ဒေါ်ပြုံး ညောင်ဝိုင်း ၁၄-လမ်း ငါးမုန့်ကြော် | ၇၀ | |



သံဃာတော်အပါး (၁၀၀၀)ကျော် ဆွမ်းဘုဉ်းပေးနေကြပုံ။



အောက်....မမြဲသော ခန္ဓာကိုယ်ကြီးပါတကား
ဆရာတော် ဦးဥတ္တမ (အုန်းနဲ့ ဒက္ခိဏာရုံ)ဖြစ်သည်။

| | | ကျပ် | ပြား |
|---|---|---|---|
| နံနက်ဆွမ်း။ | ။ဒေါ်တင်ညွန့်နှင့်သားချင်း ဈေးညောင်ပင်ရွာ ဆွမ်း၊ ဟင်းစုံ | ၁၁၃၉ | ၉၅ |
| | ဒေါ်သိန်းနှင့်မိသားစု ညောင်ဝိုင်း ၉-လမ်း ဆတ်ရေသုပ် | ၂၁၆ | |
| | ဒေါ်လှရွှေနှင့် မိသားစု ကျောက်ကြီးစု မြို့ပတ် ကျောက်ကျော | ၇၀ | |
| | ဒေါ်သဲအူနှင့်မိသားစု ညောင်ဝိုင်း ၁၇-လမ်း မြင်းခွါရွက်ကြော် | ၅၀ | |
| | ဦးစိုးမောင်၊ ဒေါ်အုံးမေ သွန်းဘုရားလမ်း စိန်ပန်းသုပ် | ၄၀ | |
| နေ့ဆွမ်း။ | ။ဦးထွန်းတင်၊ ဒေါ်သန်းကြည် စမ်းချောင်း ရန်ကုန် ဒန်ပေါက် ဟင်းစုံ | ၂,၂၅၀ | |
| | ကွယ်လွန်သူ ဒေါ်မြညွန့်မိသားစု ရွှေဘုံသာ ရန်ကုန် သစ်သီးစုံကျောက်ကျော | ၄၀၀ | |
| | ကျောင်းအမ ဒေါ်တင်၊ အဒန်မဆင်လမ်း ရန်ကုန် စလေဘီ | ၂၅၀ | |
| | ဒေါ်စောရီနှင့် သမီး မသန်းကြည် ညောင်ဝိုင်း ၁၄-လမ်း လဘက်သုပ် | ၁၇၅ | |
| | ဦးသောင်း၊ ဒေါ်သိန်းမြ ပြည်တော်သာရပ် လှည်းကူး နန္ဒင်းမကင်း | ၁၁၅ | |
| | ဦးထွန်းခင် မောင်နှမ မင်းလမ်း လှည်းကူး ကျောက်ကျော | ၁၅၀ | |
| | ဒေါ်သန်းရင်နှင့် သားသမီး ညောင်ဝိုင်း ၁၂-လမ်း စမူဆာ | ၁၂၀ | |
| | ဒေါ်စောရင်၊ ဒေါ်အုံးခင်၊ ဇိုင်းဂနိုင်းတောင်ပိုင်း ကျောက်ဖရုံယို | ၄၀ | |
| | ဒေါ်သဲအူနှင့်မိသားစု ညောင်ဝိုင်း ၁၇-လမ်း မြင်းခွါရွက်ကြော် | ၆၀ | |
| | ဒေါ်နု၊ ဒေါ်သန်းရီ ဥဿာ ၁-လမ်း သီးမွှေးငှက်ပျော | ၂၀ | |
| | ဒေါ်ခင်ညွန့် သွန်းဘုရားလမ်း ကွမ်းဆေးအစုံ | ၁၅ | |
| | ဦးအေးမောင်၊ ဒေါ်တင်မေ ညောင်ဝိုင်း ၇-လမ်း နို့အေး | ၂၂၅ | |
| ညနေ။ | ။ဦးသာထွန်းအောင်နှင့် ဦးစောကြူဟုတ် သွန်းဘုရားလမ်း လိမ္မော်ရည် | ၄၂၃ | |
| | ဦးလူကလေး၊ ဒေါ်ကျော့ ညောင်ဝိုင်း ၉-လမ်း သံပုရာဖျော်ရည် | ၂၇ | |

## တန်ဆောင်မုန်းလဆုတ် ၄-ရက်

| | | | |
|---|---|---|---|
| အရုဏ်။ | ။ဦးကျော်စိန်၊ ဦးသာအောင် ဆံတော်တွင်း စက်ပိုင်း မုံ့ဟင်းခါး | ၁၂၀၀ | |
| | ဒေါ်ညွန့်နှင့်မိတ်သင်္ဂဟ အုန်းပင်တန်း ငါးဆန်ပြုပ် | ၄၀၀ | |
| | ဦးထွန်းဇံ၊ ဒေါ်ကျော့ဖြူ နေရှင်နယ် ဆတ်ဆန်ပြုပ် | ၅၀၀ | |
| | ဒေါ်သန်းမြင့်နှင့် မောင်နှမ ကျောက်ကြီးစု ရွှေကြည်နန္ဒင်းမကင်း | ၁၃၀ | |
| | ဦးကျော်ဝါ၊ ဒေါ်တင်လှ ဘော့လုံးကွင်း ကျောက်ကျော | ၅၀ | |
| | ဒေါ်သိန်းနှင့် သမီးမမြကျင် ရှမ်းတန်း နန္ဒင်းမကင်း | ၇၃ | |
| | ဒေါ်မေ ရှမ်းတန်း ကောက်ညှင်းထုပ် | ၄၀ | |
| | ဒေါ်မြကြည် သုခကုန်း နန္ဒင်းမကင်း | ၄၀ | |
| | ဦးထွန်းလှိုင်မိသားစု ရှမ်းတန်း ဂျင်းသုပ် | ၂၇ | |



အချိုပွဲကပ်ရန် ဤသို့စောင့်ရင်းဖြင့် တပျော်တပါး စကားပြောဆိုနေကြသည်။



နီးကပ်လာ၍ ဤသို့မှုံမျှား လှိုးကြ ပြင်ဆင်ကြစဉ်။

| | | ကျပ် | ပြား |
|---|---|---|---|
| | ဒေါ်စိန်တုပ် သုခကုန်း ကောက်ညှင်းထုပ် | ၂၇ | |
| | ဦးထွန်းတင်၊ ဒေါ်မြညွန့် သုခကုန်း နန္ဒင်းမကင်း | ၂၅ | |
| | ဒေါ်စိန်လှ ရှမ်းတန်း မုန့်ဆန်း | ၂၀ | ၂၅ |
| | ဦးဘခက်၊ ဒေါ်ကလီ ဘုရင့်နောင် မုန့်ဆန်း | ၂၀ | |
| | ဦးမောင်၊ ဒေါ်သန်းကြည် ရှမ်းတန်း ပေါင်မုန့်ကြော် | ၇၇ | |
| | ကိုဘကြည်၊ မမြညွန့် ရှမ်းတန်း မုန့်ဆန်း | ၂၀ | |
| | ဒေါ်လှယုံ ဘောဂလုံးကွင်း မုန့်ဆန်း | ၁၉ | ၅၀ |
| | ဦးထွန်းရင်၊ ဒေါ်ငွေသန့် ရှမ်းတန်း မုန့်စို | ၁၄ | |
| | ဦးစံရင်၊ ဒေါ်ဝက် သွန်းဘုရား မြင်းခွါရွက်သုပ် | ၅၀ | |
| နံနက်ဆွမ်း။ | ။ပုညကုသလအသင်း ကျောက်ကြီးစုရပ် ဆွမ်း၊ဟင်းစုံ | ၁၆၃၀ | |
| | ဦးဘိုးရင်နှင့်မိသားစု ဘုရင့်နောင် ပေါင်မုန့်အုန်းနို့ဆန်း | ၁၃၅ | |
| | ဒေါ်စိန်ကြည်၊ ဒေါ်အုန်းညွန့် ညောင်ဝိုင်း ဖ-လမ်း နန္ဒင်းမကင်း | ၆၅ | |
| | ဒေါ်ရင်မြ ဘောဂလုံးကွင်း ရွှေကြည်နန္ဒင်းမကင်း | ၅၇ | |
| | မောင်စံညွန့်၊ မမြရင်မြ ဘောဂလုံးကွင်း ကိတ်မုန့် | ၅၀ | |
| | ဒေါ်စော ဘုရင့်နောင် ကျောက်ကျော | ၆၀ | |
| | ဒေါ်ကြည် မိသားစု အောင်ချမ်းသာ ကျောက်ကျော | ၅၂ | |
| | ကိုနီ၊ မငွေကြည် အောင်ချမ်းသာ မုန့်ဆီကြော် | ၄၀ | |
| | ဦးကြွက်၊ ဒေါ်ရွှေဖုံး အောင်ချမ်းသာ သာကူပြင် | ၃၄ | |
| | ဒေါ်အုံး မိသားစု အောင်ချမ်းသာ မုန့်ဆန်း | ၂၅ | ၂၀ |
| | ကိုထွန်းရှိန် အောင်ချမ်းသာ နန္ဒင်းမကင်း | ၃၀ | |
| | ဦးသစ်မောင် အောင်ချမ်းသာ နန္ဒင်းမကင်း | ၃၀ | |
| | ဦးလွန်းမောင် ဘောဂလုံးကွင်း နန္ဒင်းမကင်း | ၂၅ | |
| | ဒေါ်အုံးကြင် ဆိုရှယ်လစ် နန္ဒင်းမကင်း | ၄၀ | |
| | ဒေါ်တင် ကျောက်တွင်းကုန်း ရွှေထမင်း | ၃၀ | |
| | ဦးကျော်ခေါင်၊ ဒေါ်စောလှ ကျောက်တွင်းကုန်း ပေါင်မုန့်အုန်းနို့ဆန်း | ၄၀ | |
| | ဦးလှမောင်၊ ဒေါ်စောမြ ကျောက်တွင်းကုန်း ရွှေကြည် | ၂၅ | |
| | ဦးထွန်းကျော်၊ဒေါ်သိန်းညွန့် ကျောက်တွင်းကုန်း နန္ဒင်းမကင်း | ၂ | |
| | ဦးမောင်၊ဒေါ်အုန်းမြိုင် ။ ပေါင်မုန့်ကြော် | ၂ | |
| | ဦးမောင်တင်၊ဒေါ်တင်လှ ။ ကိတ်မုန့် | ၂၅ | ၅၀ |
| | ဒေါ်လုံးတင် ဘောဂလုံးကွင်း ရွှေကြည် | ၄၀ | |
| | ဒေါ်စိန်နု ဘုရင့်နောင် ဟာလဝါ | ၁၅ | |
| | ဦးရွှေငို မိသားစု ရှမ်းတန်း ကိတ်မုန့် | ၄၁ | |



သာသနာ့ဗိမာန်တော်အမ ဒေါ်ခင်ကျော့နှင့် သင်္ဂဟတစု
သံဃာတော်များအား ဤသို ကြည်ညို နေကြစဉ်။



သံဃာတော် အပါး(၁၀၀၀)ကျော်စာ ဤသို့ သံဃာ့ဝေယျာဝစ္စ ဆောင်ရွက်ကြသည်။

| | | ကျပ် | ပြား |
|---|---|---|---|
| | ဦးကျော်မောင်၊ဒေါ်ဘုတ် ရှမ်းတန်း နန္ဒင်းမကင်း | ၂၉ | |
| | ဒေါ်အေးကျင် ရှမ်းတန်း သီးမွှေးငှက်ပျော | ၂ | ၅၀ |
| နေ့ဆွမ်း။ | ။ဦးသာဇံ၊ဒေါ်နုနှင့် မိသားစု သနပ္ပင် ဆွမ်း၊ဟင်းစုံ | ၂၁၀၀ | |
| | ဒေါ်ခင်ပုနှင့် ဆွေမျိုးတစု ဗိုင်းဂနိုင်း တောင် ရေခဲမုံ့ | ၁၇၀၀ | |
| | ချယ်ရီပန်း ဆေးလိပ်ရုံ သွန်းဘုရားလမ်း နို့အေး | ၂၄၀ | |
| | ဦးထွန်းဖေ၊ဒေါ်မြရင် ညောင်ဝိုင်း ၁၂-လမ်း စမူဆာ | ၁၅၀ | |
| | ဦးဘစိုးတင်၊ဒေါ်မြတင် ညောင်ဝိုင်း ၁၄-လမ်း ကျောက်ကျော | ၉၀ | |
| | ဦးဘဌေး၊ဒေါ်ကျော့ ။ တို့ဟူးသုပ် | ၁၃၅ | ၅၀ |
| | ဒေါ်လှခင်နှင့် ဦးကျော်အေး ညောင်ဝိုင်း ၁၄-လမ်း လဘက်သုပ် | ၁၁၀ | |
| | ဒေါ်ခင်ညွန့် တူ၊တူမများ | | |
| | ဒေါ်စောညွန့် ညီမတစု ကျည်တော်ကုန်း(ခ) ကျောက်ကျော | ၇၅ | |
| | ဒေါ်မြညွန့် ရှမ်းတန်း ကိတ်မုံ့ | ၂၀ | |
| | ဒေါ်အုန်းကြည် ရှမ်းတန်း ကောက်ညှင်းခေါက်ပ် | ၂၀ | |
| | မောင်ခွေး၊ မတင်စိန် ရှမ်းတန်း ပေါင်မုံ့ကြော် | ၂၇ | |
| | ဦးအောင်ပု၊ ဒေါ်သန်းစိန် ရွာသစ် ဆတ်ရေသုပ် | ၃၀၀ | |
| | ဦးထွန်းစိန်၊ ဒေါ်သိန်းကျော့ ရှမ်းတန်း ကိတ်မုံ့ | ၃၀ | |
| | ဦးအုန်းဖေ၊ ဒေါ်သောင်းရင် ရှမ်းတန်း နန္ဒင်းမကင်း | ၂၃ | ၅၀ |
| | ဦးအေးမောင်၊ ဒေါ်ငွေခင် ရှမ်းတန်း နန္ဒင်းမကင်း | ၃၇ | |
| | ဒေါ်ပိန် သားသမီးတစု ရှမ်းတန်း ကိတ်မုံ့ | ၂၀ | |
| | မအေးရီ၊မစန်းရီ ရှမ်းတန်း သီးမွှေးငှက်ပျော | ၁၀ | |
| | ဦးထွန်းမောင်၊ ဒေါ်ကျော့ခင် ဘော့လုံးကွင်း သီးမွှေးငှက်ပျော | ၁၀၀ | |
| | ဦးသောင်းရွှေ၊ ဒေါ်ချစ်စိန် | | |
| | ဦးသောင်းနှင့် ဘုံအဖွဲ့ ဘော့လုံးကွင်း လဘက်အစုံ | ၅၅ | |
| | ဦးလှမောင်၊ဒေါ်စိန်ဥ ဘော့လုံးကွင်း နန္ဒင်းမကင်း | ၄၂ | ၅၀ |
| | ဦးပဏ္ဍိနှင့် သားသမီးတစု ဘော်လုံးကွင်း ပေါင်မုံ့အုန်းနို့ဆမ်း | ၂၅ | |
| | ကိုကြည်စိန်၊ မစိန်ညွန့် ဘော့လုံးကွင်း ကိတ်မုံ့ | ၂၀ | |
| ညနေ။ | ။ဒေါ်သိန်းနှင့် သင်္ဂဟတစု နတ်ရှင်နောင် ကြံရည် | ၃၀၀ | |
| | ဦးထွန်းရှိန်၊ ဒေါ်ခင်ကြည် ပန်းလှိုင်(၂၆) ဘီးလပ်ရည် | ၂၀၃ | |
| | ဒေါ်သန်းနှင့် သားသမီး သွန်းဘုရားလမ်း လိမ္မော်ရည် | ၁၇၈ | |

## တန်ဆောင်မုန်း လဆုတ် (၅)ရက်

| | | ကျပ် | ပြား |
|---|---|---|---|
| အရုဏ်။ | ။ဦးညွန့်အောင်၊ ဒေါ်ငွေဆင့် ရှင်စောပု မုံ့ဟင်းခါးနှင့် အကြော်စုံ | ၁၇၅၀ | |

| | ကျပ် | ပြား |
|---|---|---|
| ဦးမင်းလုံ၊ ဒေါ်ကြည် | | |
| ဦးစိန်မောင်၊ ဒေါ်အေးစိန် တပင်ရွှေထီး ဒူးရင်းယို | ၂၀၀ | |
| ဒေါ်ကြည်၊ဒေါ်ရီ ညောင်ဝိုင်း ၁၅-လမ်း နန္ဒင်းမကင်း | ၁၅၀ | |
| ဦးကျော့၊ဒေါ်သီ ရွှေလှေ့ ကောက်ညှင်းငချိပ် | ၁၅၀ | |
| ဒေါ်အေးစိန် ရွှေလှေ့ ခင်မှုံ့ | ၉၀ | |
| ကိုသိန်း၊မသိန်းမြင့် ရွှေလှေ့ ခင်မှုံ့ | ၆၃ | |
| ဦးချစ်၊ဒေါ်အုန်းမြ ရွှေလှေ့ ခင်မှုံ့ | ၉၆ | |
| ဦးခွေးပု၊ဒေါ်နှင်းမြ ရွှေလှေ့ နန္ဒင်းမကင်း | ၅၀ | ၆၀ |
| ဦးကျော်၊ဒေါ်သန်း ရွှေလှေ့ ကောက်ညှင်းငချိပ် | ၃၀ | |
| ကိုစံခင်၊မခင် ကျွန်းဦး ခင်မှုံ့ | ၆၀ | |
| ဒေါ်လှရင် အောင်ချမ်းသာ ပေါင်မုန့်ကြော် | ၃၀ | |
| ဦးမောင်၊ဒေါ်သင်းကျေ အောင်ချမ်းသာ မုန့်ဆန်း | ၂၅ | |
| ဒေါ်ကျင်ရွှေ၊ဒေါ်ခင် ဒေါ်ခင်ကြည်၊ | | |
| မရင်အေး၊ အထက်ဇိုင်းဂနိုင်း ခင်မှုံ့ | ၅၁ | |
| မသိန်းကြည် အထက်ဇိုင်းဂနိုင်း ခင်မှုံ့ | ၇၀ | |
| ဒေါ်ပုသင်၊ ဒေါ်ကြည် | | |
| ဒေါ်မြင့်စိန်၊ဒေါ်အေးမြင့် အထက်ဇိုင်းဂနိုင် ခင်မှုံ့ | ၅၄ | ၆၀ |
| ဦးစံရင်၊ဒေါ်ဝက် သွန်းဘုရားလမ်း ယိုစုံ | ၃၀၀ | |
| နံနက်ဆွမ်း။ ။ဒေါ်ပုမ ကြီးမှူး၍ ဓမ္မနန္ဒီအသင်း ဇိုင်းဂနိုင်းမြောက် ဆွမ်း၊ ဟင်းစုံ | ၂၅၀၀ | |
| ဦးထွန်းခင်၊ဒေါ်ခင်ကြွယ် ဈေးပိုင်း ဂုံညှင်းယို | ၃၅၀ | |
| ဦးစံရင်၊ဒေါ်မြခင် သွန်းဘုရားလမ်း ကြက်ဖပေါင်သီးသနပ် | ၁၀၀ | |
| ဒေါ်အုန်း ကြုံတကံ ကောက်ညှင်းငချိပ် | ၂၂ | ၅၀ |
| ဦးသိန်း၊ဒေါ်ခင်ညွန့် ညောင်ဝိုင်း(၁၀) မုန့်ဆန်း | ၅၉ | ၆၅ |
| ဝမ်းဘဲဆေးလိပ်ရုံ အမျိုးသမီးများ ဆိုရှယ်လစ်ပေါင်မုန့်ကြော် | ၂၃၀ | |
| ဦးထွန်းရင်၊ဒေါ်အေးတင့် ရန်ကုန် မအူကုန်း ဆတ်ရေသုပ် | ၆၅၀ | |
| ဦးကံညွန့်၊ဒေါ်ခင်နု ပန်းဘဲတန်း ကျောက်ကျော | ၁၅၀ | |
| ဦးထွန်း၊ဒေါ်တင်ကြည် အောင်ချမ်းသာ ပသျှူးမုန့် | ၃၁ | |
| ဒေါ်သန်းရင်နှင့် ကိုတင်ဝင်း၊မကျင်နု အောင်ချမ်းသာ သာကူပြင် | ၈ | |
| ဦးသောင်းနှင့် ဘုံအဖွဲ့ ဘော့လုံးကွင်း လဘက်အစုံ | ၅၅ | |
| ဦးစိန်ဖေနှင့် စုပေါင်းအဖွဲ့ အောင်ချမ်းသာ မုန့်ဆန်း | ၂၅ | ၅၀ |
| ဦးလူမောင်၊ဒေါ်အုန်းခင် ။ သာကူပြင် | ၂၈ | |
| ဦးတင်မောင်၊ဒေါ်ငွေမှီ ။ ခင်မှုံ့ | ၅၁ | ၅၅ |
| ဦးကျော်၊ဒေါ်တင့် ။ မုန့်ဆန်း | ၂၇ | |
| ဦးလွန်း၊ဒေါ်အေးညို ။ ကိတ်မုန့် | ၁၅ | |

| | | ကျပ် | ပြား |
|---|---|---|---|
| နေ့ဆွမ်း။ | ။ဒေါ်ပုမ ကြီးမှူး၍ ဓမ္မနန္ဒီအသင်း ဇိုင်းဂနိုင်းမြောက် ဆွမ်း၊ဟင်းစုံ | ၃၀၀၀ | |
| | ပိဋကပါတ်အသင်းမှကြီးမှူး၍ စုပေါင်းစေတနာရှင်များ ပန်းလှိုင် ကိတ်မုံ့၊ရေခဲမုံ့နှင့် ကျောက်ကျော | ၁၁၅၀ | |
| | မဟာနာယက ဥက္ကဋ္ဌဆရာတော်နှင့် ဒကာ-ဒကာမများ ဘုရားကလေး ကျောက်ကျော | ၃၀၀ | |
| | ဒေါ်ခင်ညွန့်နှင့် ပါရမီအဖွဲ့ နိဗ္ဗာန် ဖိုးပိုက်ဆံမုံ့ | ၃၇၀ | |
| | ဦးကံညွန့်၊ဒေါ်ခင်နု ပန်းဘဲတန်း လဘက်ရည်အချို | ၈၅၂ | ၅၀ |
| | ဦးမြမောင်၊ ဒေါ်ခင်သိန်း တပင်ရွှေထီး စမူဆာ | ၂၀၀ | |
| | ဆရာတော်ဦးနရိန္ဒနှင့် ဒကာ ဒကာမများ တောင်ငူ ကင်မွန်းချို သုံးပြန်ကြော်မရွေးခွက်၊ အုန်းဖာလူတာ | ၁၀၀၀ | |
| | ဒေါ်ဂေါက် ဇိုင်းဂနိုင်းကြီး ခင်မုံ့ | ၁၃၀ | |
| | ကိုကြည်စိန်၊မစိန်ညွန့် ဘော့လုံးကွင်း ကိတ်မုံ့ | ၂၀ | |
| | ဒေါ်မြရွှေနှင့်လုပ်သားတစု အုန်းပင်တန်း နန္ဒင်းမကွင်း | ၆၄၉ | |
| | ဒေါ်သိန်းကျော့ ညောင်ဝိုင်း (၁၅) လဘက်သုပ် | ၆၀ | |
| | ဒေါ်စောရင်၊ ဒေါ်အုံးတင် ဇိုင်းဂနိုင်းတောင် ကျောက်ကျော | ၅၀ | |
| | ဦးကျော်သာ၊ ဒေါ်ဖွားဥ ဝမ်းဘဲအင်း မုံ့ဆန်း | ၇၀ | |
| | ဒေါ်သင်းမေ ညောင်ဝိုင်း(၁၃) ကိတ်မုံ့ | ၂၀ | |
| | ဒေါ်လွန်း ။ ။ | ၂၃ | |
| | ဦးလှမောင်၊ဒေါ်ခင်မြ ညောင်ဝိုင်း(၁၆) သီးမွှေးငှက်ပျော | ၁၀၀ | |
| | ဒေါ်ငွေသင်၊ဒေါ်နှင်းရင် | | |
| | ဒေါ်တင်အေး (မြူ) ဈေးပိုင်း ကျောက်ကျော | ၃၉၀ | |
| | ဦးချစ်၊ဒေါ်ရင် ပန်းလှိုင် ကျောက်ကျော | ၄၀ | |
| | ဦးမောင်ညွန့်၊ဒေါ်လှညွန့် ပေါက်တော ကျွဲနို့ | ၂၀ | |
| | ဒေါ်ပြုံး၊ဒေါ်ခင်သိန်း ဇိုင်းဂနိုင်းမြောက် ရှောက်ယို | ၁၂၀ | |
| | ဦးဘခင်၊ အောင်ချမ်းသာ ကျောက်ကျော | ၅၀ | |
| | ဒေါ်လှရင် ။ ပေါင်မုံ့ကြော် | ၃၀ | |
| ညနေ။ | ။ဦးထွန်းအင်၊ဒေါ်စိန်အေး သွန်းဘုရား သံပုရာဖျော်ရည် | ၂၅၀ | |
| | အမိဒေါ်သိန်းညွန့်နှင့် ဦးကြူးဟုန် ဒေါ်ကြည်အေး မိသားစု ပဲခူးမြို့ ဆီ(၁)ပုံး၊ စတုမဓု၊ ရှောက်သီးဆေးပြား | ၁၅၀၀ | |
| | ဦးအေးမောင်၊ ဒေါ်သန်းခင်၊ ဦးဝင်းစိန်၊ ဒေါ်လှင်လှင်၊ ဦးသိန်းကြည်၊ ဒေါ်ရင်ရင်မြင့် ညီမ ဒေါ်မူမူ၊ သွန်းဘုရားလမ်း သံပုရာဖျော်ရည် | ၁၅၀ | |




ရာပြည့် ပူဇော်ပွဲကြီးအတွင်း၌ ပုဂ္ဂိုလ်မရွေး ဤသို့ ဆေးဆရာကြီးများ
ကိုယ်တိုင် ကြပ်မတ် ကုသပေးကြသည်။




ညီညွတ်မှ ငြိမ်းချမ်းကြောင်း သတိပြုသင့်သည်၊ အစအဆုံး
ပုဂ္ဂိုလ်မရွေး ကုသပေးကြသည်။

## တန်ဆောင်မုန်းလဆုတ် (၆) ရက်

| | | | ကျပ် | ပြား |
|---|---|---|---|---|
| အရှေ့ဏ်။ | ။ကိုဘရင်ဦးစီးသော ပဲခူးလိပ်ပြာကန် သနပ်ပင် စိန်အဖွဲ့ မုံ့ဟင်းခါး | | ၁၂၇၄ | ၇၀ |
| | ဦးအေးမောင်၊ ဒေါ်ခင်မြ၊ ဦးခင်မောင်၊ ဒေါ်လှချစ်၊ ဦးငြိမ်းမောင်၊ ဒေါ်မြသွေး၊ ဉာဏ်ကျွန်းရွာ ပေါင်မုံ့အုန်းနို့ဆမ်း | | ၁၃၀၀ | |
| | ဦးအုန်းမောင်၊ ဒေါ်စောကြည်၊ ဦးအေးဖေ၊ ဒေါ်တင်မေ၊ ဒေါ်မြနှင့် မောင်ထွန်းညွန့်မိသားစု သွန်းဘုရား | ကျောက်ကျော | ၃၅၀ | |
| | ဒေါ်စိန်နှင့် ဆရာဦးကျော်ထွန်း၊ ဒေါ်နုနု၊ မလှကြည်၊ မခင်သိန်း၊ သွန်းဘုရား | ကျောက်ကျော | ၃၅၀ | |
| | ဒေါ်ပြုံး သာဂလရွာ မုံ့ဆန်း | | ၅၂ | |
| | ဒေါ်လှိုင်၊ ဒေါ်မြနှစ် ရွှေသာလျောင်းပိုင်း နန္ဒင်းမကင်း၊ | ကျောက်ကျော | ၁၈၅ | |
| | ဦးပါ၊ ဦးထွန်းကြည်၊ ဦးလှဝင်း ဆိုရှယ်လစ် နန္ဒင်းမကင်း | | ၁၂၅ | |
| | ဒေါ်ခင်သိန်း၊ ဒေါ်ပြုံး ညောင်ဝိုင်း ၁၁-လမ်း ရှောက်ယို | | ၁၂၀ | |
| | ဒေါ်စိန်ထွေး၊ ဒေါ်သိန်းမေ၊ ဒေါ်ပုခင်၊ ဒေါ်ညွန့်၊ ဇိုင်းဂနိုင်းကြီး | ခင်မုံ့ | ၈၅ | |
| | ဦးသာရ၊ ဒေါ်သောင်းညွန့် ရွှေလှေရွာ | ။ | ၁၅၀ | |
| | ဒေါ်စိန်အေး ညောင်ဝိုင်း ၁၅-လမ်း | ။ | ၁၆၀ | |
| | ဒေါ်သိန်းခင်၊ ဦးဟန်၊ ဒေါ်ဆွယ်၊ ဦးရ၊ ဒေါ်စောတင်၊ ဦးချစ်ဖေ၊ ဒေါ်ငွေသီ အောင်ပန်းမြို့ ထောပတ်သီး လိမ္မော်သီး၊ လဘက်ခြောက် | နို့ဆီ၊ သကြား | ၁၅၀၀ | |
| | ဦးကံညွန့်၊ ဒေါ်ခင်နု ပန်းဘဲတန်း | ကျောက်ကျော | ၁၀၀ | |
| | မငွေကျင်၊ မသန်းကြည် သာဂလရွာ | နန္ဒင်းမကင်း | ၄၀ | ၃၀ |
| | ဦးပန်းညို၊ ဦးကျော်လေး၊ ဦးဘကြိုင်၊ ဦးထွန်းတင်၊ ဒေါ်အုန်းစိန် အထက်ဇိုင်းဂနိုင်း | ခင်မုံ့ | ၈၅ | |
| | ဒေါ်လှရင် ကျိုက္ကစင်ရွာ | ကောက်ညှင်းချိပ် | ၃၅ | |
| | ဒေါ်အုန်းစိန်၊ ဒေါ်စိန်မြိုင် လှာပကစ် | | | |
| | ဒေါ်သိန်းညွန့်၊ ဒေါ်အေးကျေ့ ကမာစဲ | ကျောက်ဖရုံယို | ၃၅ | |
| | မမလေးထမင်းဆိုင် ရွှေသာလျောင်းရှေ့ | မုံ့ဆီကြော် | ၃၀ | |
| | ဦးစံရင်၊ ဒေါ်ဝက် သွန်းဘုရားလမ်း | မြင်းခွါရွက်သုပ် | ၁၀၀ | |
| နန်နက်ဆွမ်း။ | ။ဦးအုန်းခင်း ဒေါ်ခင်ကျော့ လိပ်ပြာကန် | ဆွမ်း၊ ဟင်းစုံ | ၁၅၀၀ | |
| | ဦးသန်း၊ ဒေါ်သန်းညွန့် ထပ်ခနိမ်ရွာ | သကြားလုံး | ၂၅ | |
| | ဦးညွန့်မောင်၊ ဒေါ်တင်ညွန့် မှော်ကန် | သီးမွှေးငှက်ပျော | ၆၀ | |
| | ဦးရွှေဂဲနှင့် အဒေါ်ဒေါ်အိ မိသားစု သွန်းဘုရားလမ်း | ဗူးသီးကြော် | ၃၁၅ | |



အချို့ပွဲကောင်းမှုရှင်များ ပြင်ဆင်နေကြစဉ်။



သူတို့လည်း ပျော်စရာ ပြင်ဆင်နေကြသည်။

| | | | ကျပ် | ပြား |
|---|---|---|---|---|
| | ဦးသာညွှန့်၊ ဒေါ်စိန်ရင်။ ဦးတင်ဦး၊ ဒေါ်တင်မြင့်။ ဦးစံဝင်း၊ ဒေါ်အုန်းကြင်၊ ထပ်ခနိမ်ရွာ | နန္ဒင်းမကင်း | ၂၁၀ | |
| | ဒေါ်မြစိန်မိသားစု ညောင်ဝိုင်း (၁၅) | နန္ဒင်းမကင်း | ၁၅ | ၅၅ |
| | ဒေါ်အေးစိန် ညောင်ဝိုင်း (၁၅) | ကျောက်ကျော | ၁၆၀ | |
| | ဦးသန်းမောင်၊ ဒေါ်သန်းမြင့် ညောင်ဝိုင်း(၈) | ။ | ၁၂၀ | |
| | ဒေါ်စိန်ရင်၊ ဒေါ်စိန်တင်၊ ဒေါ်စိန်ခင်၊ မွန်စု | နန္ဒင်းမကင်း | ၁၇၅ | |
| နေ့ဆွမ်း။ | ။ဦးအုန်းခင်၊ ဒေါ်ခင်ကျော့ လိပ်ပြာကန် | ဆွမ်း၊ဟင်းစုံ | ၁၉၃၈ | ၇၀ |
| | ဦးဘိုးအိုသားသမီးတစု ဇိုင်းဂနိုင်းတောင် | ကျောက်ကျော | ၂၅၀ | |
| | မောင်သိန်း၊ မခင်မြင့်မိသားစု ညောင်ဝိုင်း (၁၂) | စမူဆာ | ၂၀၀ | |
| | ကိုအေးမောင်၊ မတင်အုန်း၊ မမြမြ ညောင်ဝိုင်း (၁၆) | သီးမွှေးငှက်ပျော | ၁၇၅ | |
| | ဦးဘလှ၊ ဒေါ်အေး သွန်းဘုရားလမ်း | လဘက်သုပ် ဂျင်းသုပ် | ၁၅၀ | |
| | ဒေါ်စိန်မိသားစု ဇိုင်းဂနိုင်းတောင် မုံ့ဆန်း | | ၁၅၀ | |
| | ဦးကျော်သိန်း ဆွေမျိုးတစု ဟသ်ာကုန်း(၁၉)မုံ့ဆီကြော် | | ၂၅ | |
| | ဦးထွန်းအုံ၊ ဒေါ်ခင်စောမြင့် ဇိုင်းဂနိုင်းမြောက် ဆိတ်သားမုံ့ | | ၄၅၀ | |
| | ဦးဘသော်၊ ဒေါ်စောရွှေ။ဦးစိုးမောင်၊ ဒေါ်မမကြီး။ဦးလုံး၊ဒေါ်တင်လှ။ ညာဏ်ကျွန်းရွာ ရေခဲမုံ့၊ ကိတ်မုံ့ | | ၁၈၆၄ | |
| | ဦးထွန်းမောင်၊ ဒေါ်ညွှန့်လှိုင်။ မောင်စိုးလှိုင်၊ မခင်မေ။ ကိုတင်မောင်၊ မသိန်းကြွယ်၊ ဒေါ်လှိုင်၊ မမြနှစ် ရွှေသာလျောင်း | နန္ဒင်းမကင်း ကျောက်ကျော | ၃၀၀ | |
| ညနေ။ | ။ဦးလံဘား၊ ဒေါ်ကျင်မှို သားမြေးတစု ညောင်ဝိုင်း (၁၇) | ကြံရည် | ၄၁၅ | |
| | ဒေါ်စောရှင်၊ ဒေါ်နီ၊ ဒေါ်သိန်းခင် ဈေးပိုင်း (၁၈) | လိုင်းမကြူး | ၂၃၉ | ၅၀ |

## တန်းဆောင်မုန်းလဆုတ်(၇)ရက်နေ့

| | | | ကျပ် |
|---|---|---|---|
| အရုဏ်။ | ။ဦးစံရင်၊ ဒေါ်ဝက် သွန်းဘုရားလမ်း | ဂျင်းသုပ် | ၁၀၀ |
| | ဒေါ်မမ၊ဦးဘကျော် ကျောက်ကြီးစု | မုံ့ဟင်းခါး | ၂၀၀၀ |
| | ဒေါ်အေးကြည် ကျောက်ကြီးစု | ငါးရံ့ခြောက် | ၁၁၅ |
| | ဒေါ်မြရင် သွန်းဘုရားလမ်း | ငါးရံ့ခြောက် | ၅၀ |
| | ဒေါ်သိန်း သမီး မကြည် သနပ်ပင်၊ ကော့ပြတ် | လိမ္မော်သီး | ၈၈၀ |
| | ဦးတင်မောင်၊ ဒေါ်အုံး ဇိုင်းဂနိုင်းတောင် | ကျောက်ကျော ထိုးမုံ့ | ၉၅၀ |
| | ဒေါ်ဝိလာသီနှင့် ဓမ္မမိတ်ဆွေ အသောကာရုံ | နန္ဒင်းမကင်း | ၁၃၀ |
| | ဒေါ်ရွှေမှိုင်မိသားစု ရွှေလှေ | ကောက်ညှင်းငချိပ် | ၁၅၅ |
| | ဒေါ်သန်းရှင်၊ ဒေါ်ကြေးမုံ ဘုရားကလေး | ပသျှူးမုံ့ | ၁၅ |
| | ဒေါ်သန်းစိန် ညောင်ဝိုင်း (၁၂) | ကျောက်ကျော | ၁၁၀ |



ခုံခင်းလက်သုတ်ပုဝါဘို့ကို နေ့စဉ် ဤသို့လျှော်ဖွပ် မီးပူတိုက် ကြသည်။



သံဃာတော် အပါး (၁၀၀၀)ကျော်အတွက် အချိုပွဲအလှူရှင်များ။
ညဏ်ကျွန်းရွာ သနပ္ပင်မြို့နယ်

| | | | ကျပ် | ပြား |
|---|---|---|---|---|
| | ဦးစိန်ဝင်း၊ ဦးမောင်သင် ကြီးမှူး၍ ပုညကာရီအဖွဲ့ တောင်ပို့တရာ | ဂျင်းသုပ် | ၉၀ | |
| | ဒေါ်လှရင်၊ သမီး မခင်မြင့် ရစ်ကန်ကြီးရွာ နန္ဒင်းမကင်း | ကျောက်ကျော | ၄၅၀ | |
| | ဦးရန်ကင်း၊ ဒေါ်ခင်စု အုန်းပင်တန်း | ကျောက်ကျော | ၈၁ | |
| | ဦးကျင်မောင်၊ ဒေါ်သိန်းရင် ဈေးပိုင်း (၁၉) ဆတ်ရေသုပ် | | ၁၆၀ | |
| | ဦးဘဖြိုးနှင့် သမီး မလှမြိုင် ညီမ သမီးများ ညောင်ဝိုင်း(၁၁)နန္ဒင်းမကင်း | | ၂၀၀ | |
| နံနက်ဆွမ်း နေ့ဆွမ်း။ | ။ဦးချစ်ဖေ ကြီးမှူး၍ ပုညသဟာယအသင်းသူ အသင်းသားများ ၊ ဖောင်တော်သီမြို့ | ဆွမ်း၊ ဟင်းစုံ | ၃၀၀၀ | |
| | ဦးတင်မောင်၊ ဒေါ်အုံး ဇိုင်းဂနိုင်းမြောက် လိမ္မော်သီးနှင့် ကော်ဖီ | | ၁၂၀၀ | |
| | ဆရာတော် ဦးရေဝတနှင့် ဒကာ ဒကာမများ ဝမ်းဘဲအင်းရွာ | ကျောက်ကျော | ၇၅ | |
| | ဒေါ်စောရီ၊ ဒေါ်သန်းကြည် ညောင်ဝိုင်း(၁၄)ပူတင်း | | ၂၅၅ | |
| | ဦးစောမောင်၊ ဒေါ်အေးကြည်၊ ဒေါ်ခွေးမ ညောင်ဝိုင်း (၁၄) | လဘက်ရည်ချို | ၃၀၄ | |
| | ဒေါ်နှင်းမြိုင်၊ ဒေါ်ပြုံး ညောင်ဝိုင်း(၁၄) | ငါးမှုန့်ကြော် | ၈၀ | |
| | ဒေါ်စု၊ ဒေါ်ရွှေရီ ဒေါ်သန်းတင်၊ မသန်းမြိုင် ပြည်တော်သာ စမူဆာ | | ၂၀၀ | |
| | ဒေါ်တင်မေနှင့် အမျိုးသမီးအဖွဲ့ ထုံးတန်း ဆိတ်သားမွှ | | ၂၆၆ | |
| | ဒေါ်မြအေးနှင့် ဈေးသူဈေးသားများ ဈေးရုံကြီး သီးမွှေးငှက်ပျော | | ၂၀၀ | |
| | ဦးပု၊ ဒေါ်ရွှေဆင် ပျော်ဘွယ်မြို့ | နှမ်းယို | ၇၅ | |
| | ဒေါ်ငွေခိုင် ရွာသစ် | ကျောက်ကျော | ၂၉၀ | |
| | ဦးသန်း၊ ဒေါ်အမာနှင့် တူ၊ တူမများ ညောင်ဝိုင်း (၁၂)ရွှေကြည် | | ၂၀၀ | |
| | ဒေါ်လှတင်၊ ဦးထွန်းစိန်- ဒေါ်လှရင်၊ ဒေါ်ကြည် ပန်းဆိုးချောင်း | ရေခဲမုံ့ | ၇၂၀ | |
| | ဒေါ်ဖွားရှင် ရွှေသာလျှောင်းခြေရင်း | နန္ဒင်းမကင်း | ၆၀ | |
| | ဒေါ်စိန်ခင် ။ | ။ | ၂၆ | |
| | ဒေါ်မဲသင် ။ | ။ | ၂၃ | ၅၀ |
| | ဒေါ်သောင်း ဦးစီးသော စုပေါင်းစေတနာရှင်များ စပယ်လမ်း | ဗူးသီးကြော် | ၆၀၀ | |
| | ဦးလှ၊ ဒေါ်အေးချစ် ပန်းလှိုင် | ကွမ်းဆေးအစုံ | ၄၀ | |
| | ဒေါ်လှ ညောင်ဝိုင်း(၁၀) | ။ | ၈၅ | |
| | ဒေါ်ခင်ညွန့် သွန်းဘုရားလမ်း | ။ | ၃၀ | |
| | ဒေါ်အေးသင်အတွက် ဒေါ်စိန်ညွန့် သုံးချမြို့ | ။ | ၁၂၅ | |



အနှစ် ၁၀၀-ပြည့် ပူဇော်ပွဲ ကွန်ကရစ် ရေစင်ကြီးကို ပဲခူးမြို့ ဟပင်ရွှေထီးလမ်း
ဦးမြမောင်-ဒေါ်ခင်သိန်း၊ သား မောင်မြသိန်း၊ သမီး မခင်မြဖူတို့ကောင်းမှု။

| | | ကျပ် | ပြား |
|---|---|---|---|
| ညနေ။ | ။မင်္ဂလာရန်အောင်တိုက် သီလရှင်ဆရာနှင့် တပည့်များ ပဲခူးမြို့ စတုမခု၊ ရှောက်သီးဆေးပြား | ၁၁၅၀ | |
| | ဒေါ်ရှမ်း မှော်ကန် လိုင်းမကြူး | ၂၅၀ | |
| | တန်ဆောင်မုန်းလဆုတ် (၈)ရက်နေ့ | | |
| အရုဏ်။ | ။သဒ္ဓမ္မကာရီ အသင်းသူ အသင်းသားများ မယင်းရွာ မုံ့ဟင်းခါး | ၁၅၀၀ | |
| | ဘုံအဖွဲ့ သံကြိုးဝိုင်းရွာ ကောက်ညှင်းချိပ် | ၂၅ | |
| | ဒေါ်စိန်သွယ်၊ ဒေါ်ကျင်စိန်၊ ဒေါ်တင်နု၊ ဒေါ်သိန်းကြည် ရွှေပန်းရွာ ကျောက်ကျော | ၁၀၅ | |
| | ဒေါ်ရွှံ တပ်ကလေးရွာ မုံ့ဆီကြော် | ၄၀ | |
| | ဘုံအဖွဲ့ သံကြိုးဝိုင်းရွာ မုံ့ဆန်း | ၅၀ | |
| | ဒေါ်စိန်အေး တပ်ကလေးရွာ မုံ့ဆီကြော် | ၁၅ | |
| | ဒေါ်သိန်းတုပ် ။ ။ | ၃၀ | |
| | ဦးတင်မောင်၊ဒေါ်အုံး ဇိုင်းဂနိုင်းမြောက် ကျောက်ကျော နန္ဒင်းမကင်း | ၄၀၀ | |
| | ဒေါ်အေးဦးစီးသော စေတနာရှင်များအဖွဲ့ မှော်ကန်(၆)အာလူးဟာလဝါ | ၃၂၅ | |
| | ဦးဘိုးသော့၊ ဦးဘနန်း၊ ဦးအေးဖေ ဟံသာဝတီ ရွှေကြည်နန္ဒင်းမကင်း | ၈၀ | |
| နံနက်ဆွမ်း။ | ။ဝိနယာနုဂ္ဂဟအသင်းသူ အသင်းသားများ အိုးဘိုရွာ ဆွမ်း၊ ဟင်းစုံ | ၁၇၀၀ | |
| | ဦးဘိုးငြိမ်း၊ ဒေါ်ကျင်စိန် ရွှေပန်းရွာ ကျောက်ကျော | ၃၀ | ၂၀ |
| | ဦးသာပန်း၊ ဒေါ်လုံးတင် ရွှေပန်းရွာ နန္ဒင်းမကင်း | ၃၅ | |
| | ဒေါ်ဗျော့ သနပ္ပင် သီးမွှေးငှက်ပျော | ၇၀ | |
| | ဆရာတော်၏ တပည့်များ ကမာနတ်ရွာ ဂျင်းသုပ် | ၁၀၀ | |
| | ဒေါ်နန်းကျင် ကြည်တော်ကုန်း (၁) ငါးခြောက်ကြော် | ၁၁၁ | |
| | ဦးကျော်သိန်း၊ ဒေါ်သိန်းကြွယ် ဆွေမျိုးတစု ဟသ်ာကုန်း (၁၉) မုံ့ဆီကြော် | ၇၇၄ | ၅၀ |
| | ဒေါ်စောမြိုင် ရန်ကုန် ရန်ကင်း ကွမ်းဆေးအစုံ | ၅၀ | |
| | ဦးဘိုးငွေ၊ ဒေါ်လှကြိုင်နှင့် ဒေါ်အုန်းကြည် ဉာတိတစု ဟသ်ာကုန်း (၁၉) ကျွဲနို့ချဉ် | ၁၄၂ | |
| | ဦးသာရင်၊ ဦးအုန်းမောင်၊ မောင်ကျော်ရှိန် စုပေါင်းအဖွဲ့ ပေါင်မုံ့ယိုသုပ် | ၂၀၀ | |
| နေ့ဆွမ်း။ | ။ဒေါ်ခင်ညွန့်နှင့် မိတ်သင်္ဂဟတစု ရှမ်းရွာကြီး ဆွမ်း၊ ဟင်းစုံ | ၂၂၀ | |
| | ဒေါ်တင်တင်၊ဒေါ်သန်း ကြည်တော်ကုန်း၊ကျောက်ကျော၊နန္ဒင်းမကင်း | ၁၀၀ | |
| | ဦးစောမောင်၊ ဒေါ်အေးကြည် ညောင်ဝိုင်း(၁၄) လဘက်ရည်အချို | ၃၀၀ | |
| | ဦးတင်မောင်၊ ဒေါ်အုန်း ဇိုင်းဂနိုင်းမြောက် လိမ္မော်သီး မန္တလေးထိုးမုံ့ | ၃၈၂ | ၅၀ |
| | ဦးအုန်း၊ ဒေါ်သန်းကြည် ညောင်ဝိုင်း (၁၂)စမူဆာ | ၂၀၀ | |

ဒေါ်စိန်ရင်၊ ဒေါ်အုန်းကြည်၊ ဒေါ်အေးကြွယ် ညောင်ဝိုင်း ၁၁၊
လဘက်သုပ် ၁၅၅

ဒေါ်အုန်းမြိုင် မိသားစု မွန်စံပြ ပဿျူးနန္ဒင်းမကင်း ၃၇ ၂၅

ဦးစိန်မောင်၊ ဒေါ်ညို ညောင်ဝိုင်း ၈၊ ကျောက်ကျော ၇၀

ဦးဘသန်း၊ ဒေါ်တင့် ။ ၁၄၊ သကြားလုံး ၂၀၀

ဦးကျော်အေး၊ ဒေါ်ခင်ညွန့်၊ ဒေါ်လှခင် တူ တူမများ
ညောင်ဝိုင်း ၁၄၊ လဘက်သုပ် ၅၀

ဦးအောင်သိန်း ဦးစီးသော စုပေါင်းစေတနာရှင်များ စပယ်လမ်း
ဗူးသီးကြော် ၄၁၀

ဦးစံရင်၊ဒေါ်ဝက် သွန်းဘုရားလမ်း လဘက်သုပ် ၇၀

ညနေ။ ။ဒေါ်သန်း၊ ဦးအေးမောင်၊ ဒေါ်သန်းခင် သွန်းဘုရား သံပုရာဖျော် ၃၆

### တန်ဆောင်မုန်းလဆုတ် ၉-ရက်နေ့

နံနက်ဆွမ်း။ ။အများစေတနာရှင်အဖွဲ့၊ သနပ္ပင်မြို့ ဆွမ်း၊ ဟင်းစုံ ၁၀၄၅ ၄၀

ဦးတင်မောင်၊ ဒေါ်အုန်း ဇိုင်းဂနိုင်းမြောက် ကော်ဖီနှင့် ကိတ်မုံ့ ၁၅၀

ဦးစံရင်၊ ဒေါ်ဝက် သွန်းဘုရားလမ်း လဘက်သုပ် ၅၀

အများစေတနာရှင်အဖွဲ့ သနပ္ပင်မြို့ လဘက် ငါးခြောက် ကွမ်း ၁၀၀

နေ့ဆွမ်း။ ။ဦးချစ်ဖေ၊ဒေါ်ငွေရင်တို့အား အမှူးထား၍ စကြာခြံ အလုပ်သမားများ
ပန်းလှိုင် ဆွမ်း၊ ဟင်းစုံ ၉၆၂ ၅၅

ဦးမှတ်၊ ဒေါ်ခွေးမ စကြာခြံ လဘက်ရည်အချို ပေါင်မုံ့ကြော် ၃၂၇

ဒေါ်လှ ညောင်ဝိုင်း ၁၀၊ ကွမ်းဆေးအစုံ၊ ၅၀

ဒေါ်ခင်ညွန့် သွန်းဘုရားလမ်း၊ ။ ၅၀

ဒေါ်ဖွားရင် ဇလဲထော် မုံ့ဆန်း ၅၅

### အထူးမှတ်ထားချက်များ။

(က) ပဲခူးမြို့ ကျောက်ကြီးစုရပ် ကျောင်းအမကြီး ဒေါ်မမက ရာပြည့်စာပြန်ပွဲကြီး အစအဆုံး ၂-ရက်နေ့မှ ၉-ရက်နေ့အထိ ၈-ရက်ပတ်လုံး သံဃာရေလှူပါပရိသတ် အားလုံးအတွက် နေ့ ညဥ့် အချိန်မရွေး ရေငွေး မရမရှိရလေအောင် တာဝန်ယူ လှူဒါန်းပါသည်။

(ခ) ချက်ပြုပ်ရေး၊ ကျော်ဖွပ်ရေး၊ ဆေးကြောရေး စသည်အားလုံးအတွက် ရေအခက်အခဲ မရှိရလေအောင် ရုံးကြီးရပ် တပင်ရွှေထီးလမ်း ကျောင်းဒကာ ဦးမြမောင် ကျောင်းအမ ဒေါ်ခင်သိန်း မိသားစုတို့က ဂါလံ ၁၀၀၀-ကျော်ဝင် ကွန်ကရစ်ရေစင်ကြီးဆောက် စက်ဖြင့်မောင်းတင်ပြီး အစအဆုံးလှူဒါန်းပါသည်။

(ဂ) အချုပ်ပွဲအလှူရှင်၊ ဆွမ်းကွမ်းအလှူရှင်၊ အဖျော်ယမကာအလှူရှင်စသည်တို့ ကျယ်ပြန့် သန့်ရှင်းလျက် ကိုယ်အေးအေး၊ စိတ်အေးအေး တည်းခို ဆောင်ရွက် အာရုံပြုနိုင်ရန် ညှော်ခံ ယာယီမဏ္ဍပ်ကြီး ၃-လုံးကို အသင်းမှ ဆောက်ပေးပါသည်။ ၎င်းတို့အမည်များမှာ— (၁) သမ္မာဒိဋ္ဌိမဏ္ဍပ်၊ (၂) သမ္မာဝါစာမဏ္ဍပ်၊ (၃) သမ္မာကမ္မန္တမဏ္ဍပ်တို့ ဖြစ်ပါသည်။

(ဃ) ဇိုင်းဂနိုင်းမြောက်ပိုင်း အချိုးသမီးအဖွဲ့မှ ခုံခင်းလက်သုပ်ပုဝါစသည် လျှော်ဖွပ်၍ မီးပူတိုက်ခြင်း၊ အချိုးကျကျ ခေါက်ခြင်းများ ကုသိုလ်ပြုကြပါသည်။

(င) ရွာသစ်ပိုင်း အမျိုးသမီးအဖွဲ့မှ ကျောင်းဝိုင်းသန့်ရှင်းရေး ကုသိုလ်ပြုကြပါသည်။

(စ) ကျောက်ကြီးစုရပ် အမျိုးသမီးအဖွဲ့မှ ပန်းကန်ခွက်ယောက်စသည် သန့်ရှင်းအောင် ဆေးကျောသုတ်သင် ကုသိုလ်ပြုကြပါသည်။

(ဆ) ညောင်ဝိုင်းမြောက်ပိုင်း လူငယ်များအဖွဲ့မှ ၃-ရက်တိုင်တိုင် ဆွမ်းခံ သံဃာ့ဝေယျာဝစ္စ ဆောင်ရွက်ကြပါသည်။

(ဇ) အခြား အဖွဲ့အစည်း အသီးသီးတို့ကလည်း စေတနာအလျောက် အဖွဲ့အနေဖြင့်၎င်း၊ ပုဂ္ဂိုလ်အနေဖြင့်၎င်း အားကြိုးမာန်တက် လုပ်အားလှူ ဆောင်ရွက်ကြပါသည်။

စတုတ္ထကဏ္ဍ

**ပဲခူးခရိုင်**

**အရညဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန်ပွဲ**
**အနှစ် ၁၀၀-ပြည့် အထိမ်းအမှတ်**

**တိုင်းအသီးသီး၊ ခရိုင်အသီးသီး၊ မြို့နယ်အသီးသီးတို့မှ**
**သံဃာတော် အပါး ၁၀၀၀-ကြီးမှူးပါဝင်သော**
**ဝိနည်းပိဋကတ် ထွင့်အမြတ်ပူဇော်ပွဲကြီး ပွဲသိမ်း**

**သင်္ဂါယနာတင်မင်္ဂလာ ဘိတ်ကြားစာ**

တဘက်ပါ အစီအစဉ်အတိုင်း သင်္ဂါယနာတင်အခမ်းအနားကို ပြုလုပ်မည်ဖြစ်ပါ၍ ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီးကို ရိုသေလေးစား အထူးတလည်ပူဇော်သော အနေအားဖြင့် ကြွရောက်နာယူကြပါရန် လေးမြတ်စွာဘိတ်ကြားအပ်ပါသည်။

ကြွရောက်ရန်ဌာန။ ။ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ဝိနယသာဝ ရာပြည့်ဓမ္မာရုံတော်။

ကြွရောက်ရန်နေ့ရက်။ ။၁၃၃၂-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၇-ရက် (၂၀-၁၁-၇၀) သောကြာနေ့။
ကြွရောက်ရန်အချိန်။ ။ညဥ့် ၆-နာရီခွဲ။

ပဲခူးမြို့ ရပ်ကွက်ပေါင်းစုံ
ရာပြည့်ပူဇော်ပွဲဆောင်ရွက်ရေး
ဗဟိုအဖွဲ့။



အောင်ပွဲည ပြန်ကြွလာသော (စာပြန်ပွဲအစ ဦးသီလ၊ တောရဂိုဏ်းအစ ဦးသီလ)
အောင်ပွဲ သံဃာ့သမ္မုတိရ သံဃာ့သဘာပတိဖြစ်သည်။



ဤသို့ ဘုန်းတော်ကြီး ဦးသီလ (တောရဆရာတော်ကြီး)အား သဘာပတိသံဃာ့အဖွဲ့ကြီးမှ
သမ္မုတိရ အောင်ပွဲသံဃာ့သဘာပတိအဖြစ် တင်မြှောက်ကြောင်းကျေညာနေပုံ။



စောင့်ရှောက်ပေးပါရန် အသင်းလူကြီး ဦးဘဇံ သိကြားမင်းကြီးအား
ဘိတ်ကြားတောင်းပန်နေပုံ။



စောင့်ရှောက်ရန် အခြံအရံ နတ်မင်းကြီးလေးပါးနှင့်တကွ
သိကြားမင်းကြီး ရောက်လာပုံ။

ရာပြည့် စာပြန်ပွဲကြီးနှင့်
ဝိနည်းပိဋကတ် ထွန်းအမြတ် ပူဇော်ပွဲကြီးတို့အတွက်
သင်္ဂါယနာတင် အခမ်းအနားအစီအစဉ်

၁။ သံဃသဘာပတိဆရာတော်များ တင်မြှောက်ပါရန် လျှောက်ထားချက် (အခမ်းအနားမှူး)
၂။ ကြွရောက်တော်မူစ သံဃာ့သဘာပတိ တောရဆရာတော်ဘုရားကြီး (ဦးသီလ)၏ကိုယ်စား သထုံခရိုင် ဇုတ်သုတ်တောရ ဆရာတော်ဘုရားကြီးထံ၌ ငါးပါးသီလခံယူကြရန်၊ (ပရိသတ်အားလုံး)
၃။ သိကြားမင်းကြီးအား ဘိတ်ကြားရန် (ဦးဘဇံ)
၄။ သိကြားမင်းကြီးက နတ်မင်းကြီးလေးပါးတို့အား စောင့်ရှောက်ဘို့ အမိန့်ပေးရန် (ဦးတိုး)
၅။ နတ်မင်းကြီးလေးပါးက စောင့်ရှောက်ပါမည့်အကြောင်း အသီးသီးလျှောက်ထားကြရန် (ဦးရွှေထွန်း၊ ဦးဟုတ်ဆိုင်၊ ဦးတင်အုန်း၊ ဦးသိန်းဟံ)
၆။ စောင့်ရှောက်ပြီးဖြစ်သဖြင့် သင်္ဂါယနာတင်တော်မူကြပါရန် လျှောက်ထားခြင်း၊ (ဦးစံရင်လေး)
၇။ သင်္ဂါယနာ အမေးအဖြေ (ကျိုက်ဝိုင်းဆရာတော်နှင့် ရေလယ်ဆရာတော်)
၈။ သိက္ခာပုဒ်တော်ကြီး (၄) ပါးကို တခုစီရွတ်ဆိုသင်္ဂါယနာတင်ကြပါရန် (သံဃာတော်အားလုံး)
၉။ ပူဇော်ပွဲအာသီသ ပတ္ထနာဂါထာများ (မန္တလေးမြို့၊ ရမည်းသင်းဆရာတော်)
၁၀။ အခမ်းအနားသိမ်းဂါထာများ (မန္တလေးမြို့၊ ဇယမေဒနီဆရာတော်)
၁၁။ အောင်မြင်ကြောင်း မင်္ဂလာသြဘာစာ (ကျိုက်ဝိုင်းဆရာတော်)
၁၂။ သင်္ဂါယနာအခမ်းအနားကြီး ပြီးကြောင်းကျေညာလျက် ငွေသားအကြွေ (ကျပ် ၁၀၀၀ိ/ တထောင်တိတိ)ကို ကြဲချ ရတနာမိုးရွာစေပြီး ခေတ္တရပ်နားကာ တရားဟော ရေစက်ချရန် (ကျိုက်ဝိုင်းဆရာတော်)

မှတ်ချက်။ ။ရောက်တော်မူစ ပဲခူးတောရဆရာတော်ကြီး (ဘုန်းတော်ကြီး ဦးသီလ)၏ ရုပ်ထုတော်ကြီးကိုပင် သံဃာတော်အပါး တထောင်ကျော်က အထူးလေးစားလျက် တန်ဆောင်မုန်းလဆုတ် (၇)ရက်နေ့၊ ညဥ့်(၆)နာရီခွဲအချိန်မှာ အနှစ်(၁၀၀)ပြည့် ဝိနည်းစာပြန်အောင်ပွဲ (သင်္ဂါယနာတင်အခမ်းအနားကြီး)၌ ရာပြည့်သံဃာ့သဘာပတိအဖြစ် သဘာပတိသံဃာ့အဖွဲ့ကြီးမှ တင်မြှောက်ထောက်ခံ ဂုဏ်ပြုလိုက်သည်၊ သံဃာတော်အပါးတထောင်ကျော်နှင့် လူပရိသတ်တသိန်းကျော် ပါဝင်ကျင်းပသော အခမ်းအနားကြီးဖြစ်သည်။

တိုင်းအသီးသီး ခရိုင်အသီးသီးမှ သာသနာတော်ကို ပူဇော်ဂုဏ်ပြုသည့်အနေ ကြွရောက်ချီးမြှင့်ကြသော (အတိပါကဠ၊ ဂုဏာဝိသိဋ္ဌ၊ ဂဏပါလက၊ ဂဏာမာမက) ဆရာတော်ဘုရားကြီးများ၏အလယ်၌ တောရဆရာတော်ကြီးမှာ များစွာခန့်ညားထယ်ဝါ ကျက်သရေမင်္ဂလာရှိလှပါတော့သည်၊ အတင်း သွားထက်ငါဘိုးပြီး ဖူးကြသည် ပရိသတ်များလည်း ဝက်ဝက်ကွဲမျှ စည်ကားလှသည်။

ပင့်ဆောင်ရေးအဖွဲ့မှ တမြို့လုံးသို့လှည့်လည်၍ အပူဇော်ခံစေသေးသည်၊ ထို့ကြောင့် တမုဟုတ်ချင်း လူသိများပြီး အုတ်အုတ်သဲသဲ ပို၍ဖြစ်ဟန်ရှိသည်၊(ဘုန်းတော်ကြီး ဦးသီလ)



ဤရာပြည့် သံဂါယနာပွဲကြီးကို စောင့်ရှောက်ကြရန် နတမင်းကြီးလေးပါးအား
သိကြားမင်းကြီး အမိန့်ပေးနေပုံ။



ဤသို့ စောင့်ရှောက်ပြီးဖြစ်သဖြင့် သံဂါယနာတင်တော်မူကြပါရန်
ဦးစံရင် လျှောက်ထားနေပုံ။

၏ သတင်းကို အချို့ထေရုပ္ပတ္တိဖတ်ဘူးသည်၊ အချို့မိဘဘိုးဘွားများ၏ ပြောသံကြား ဘူးသည်၊ ယခုနှစ် ရာပြည့်ပွဲကြီးမှာလည်း ညစဉ်ညစဉ် ဓမ္မသဘင်၌ နိုင်ငံကျော်ဓမ္မကထိက ဆရာတော်များက နှုတ်သာသာ အာရှင်းရှင်းဖြင့် ဘုန်းတော်ကြီး ဦးသီလ၏ဂုဏ်သတင်း ကို တဖွဖွချီးကျူး ဟောပြောတော်မူကြ၍ အားလုံးလို မှန်းဆ လွမ်းတနေကြသည်။

ရေစတ်တုန်းကာလ ရေတွင်းထည်းကျ ပမာပြသကဲ့သို့ ထိုအခါကြွလာ၍....

(က) အချို့က "ရှေးက ကြခတ်ဝိုင်းကျောင်းတိုက်ကိုစွန့်၍ (တောထွက်သွားတဲ့) ဘုန်းတော်ကြီး ဦးသီလ ယခုရာပြည့်ပွဲကြီးအမှီ ပြန်ကြွလာပြီ"တဲ့–ဟု ချက်ခြင်းအဆင့်ပွါးပြီး ပြောကြ သည်ဟု နောင်သိရသည်၊

(ခ) အချို့ကလည်း "တောရဆရာတော်ကြီး"မှာ ရာပြည့်ပွဲကြီးအမီ အတင်းမှီသလိုကြွလာရတဲ့ အတွက် ချွေးတွေများ ထွက်လို့ကွယ်၊ ဒါပေမဲ့ ကျွန်းကျွန်းမာမာဘဲကွဲ"ဟု သူ့အထင်နှင့်သူ အားရပါးရ အိမ်ပြန်ပြောသည်ဟု သိရသည်၊ (နှစ်ပေါင်းများစွာက ခြယ်ထားသောဆေး များ မရှိတော့၍ မှိုဝင်ခါနီး ပန်းချီဆရာဖြင့် အမြန်ဆေးရောင်တင်ခဲ့ရသဖြင့် မခြောက်ဘဲ ချွေးများကဲ့သို့ တကယ်ထင်ရသည်၊

(ဂ) မဖူးလိုက်ရသေးတဲ့ မိသားစုခမြာမှာလည်း အလုအယက်ပြေးလာပြီး အားရပါးရ ဖူးကြ သည်ကို တွေ့ရသည်၊

(ဃ) အချို့ရှေးကျကျ "ပသန္န" ကြီးမားသူတို့ကလည်း (ဤမျှဝေးကွာ နှစ်ပေါင်းကြာအောင် များစွာ မြှော်င့်၊ နွမ်းယိခဲ့၏၊ ချွံထွင်မှန်းကား၊ ဂုဏ်ကိုပွါး၍၊ တအားရှိခိုး၊ စောင့်မျှော် ကိုးလည်း၊ ကိုးကျိုးမနပ်၊ တတော်တော်ဖြင့်၊ မောဟပ်ချိန်သာ၊ ကုန်ခဲ့ပါ၏၊ အရှင့်ရာပြေ့ အောင်ပွဲနေ့မှ၊ ဖူးတွေ့ဘုရား၊ ကြွ၍လာ၏၊ ဘယ်ဟာအတွက်၊ ဘယ်အချက်ကြောင့်၊ ရက်စက် မည္မာ၊ ဝေးရပ်ခွါ၍၊ အပိုမခေါ်၊ တကိုယ်တော်သက်သက်ဖြင့်၊ ရက်စက်ရှောင်ဖဲ့၊ မျက်နှာ လွှဲပြီး၊ ဤမျှကြီးတောင် နေရပါသနည်း....အရှင်ဘုရား)ဟူသော ကရုဏာဒေါသော၊ အမြင် သဘောဖြင့်၊ ဝမ်းနည်းပြီး လာငိုကြသေးသည်ကို မြင်ရသည်။

(က) ဤ ကြခတ်ဝိုင်း ကျောင်းတိုက်ကြီးကိုရှင်း၊

(ခ) ဤ ဝိနည်း စာပြန်ပွဲကြီးကိုရှင်း၊

(ဂ) ဤ ပဲခူးတောရဂိုဏ်းကြီးကိုရှင်း

မူလဘူတ အဦးအစတည်ထောင်သွားသော ဆရာတော်ကြီးဖြစ်သည်၊ အမိုးချပြီးပြင်ဆင်ထားသော မော်တော်ယာဉ်ကြီးပေါ်ရှိ ပလ္လင်ကြီးပေါ်၌ သက်န်းအညိုကြီးရုံပေးထားသည်၊ ယပ်ကြီးကိုလည်း ကိုင်ထားစေသည်၊ "ဘုန်းတော်ကြီး ဦးသီလ"ဟုလည်း စာရေးထားသည်၊ ပကတိအသက်ရှိပင် ထင်ကြ ပြီး အထူးဝမ်းမြောက်ဝမ်းသာဖြစ်လျက် ဆင်းသက်ကန်တော့ကြကြောင်း သိရသည်။

ပုံတော်ကြီးမှာ ၁၂၇၀-ပြည့်နှစ်က မန္တလေးမြို့မှ ပန်းပုဆရာကြီးဦးကွန်း ထုခဲ့သဖြင့် အနှစ် (၆၀) ကျော် ရှိနေပြီဟု သိရသည်၊ (အသက်ဝင်၊ အသက်ရှင်)နေသကဲ့သို့ ဖူးကြရသည်၊ နီရောဓသမာပတ် ဝင်စားနေသော သဘာဝပုံဖြစ်သည်၊ နောက်ဆုံးအောင်ပွဲ (သင်္ဂါယနာတင်)နေ့မှ (မည်သည့်အရပ်မှာ ပုံတော်ရှိနေကြောင်း) စကားကောင်းကြားရ၍ အချိန်မီ ရှောင်တခင်စီစဉ်ပြီး နံနက် (၉)နာရီမှ ပင့်ဆောင်ရေးဆရာတော်များနှင့် အဖွဲ့လူကြီးများ သွားပင့်ကြရသည်၊ ညနေ (၆)နာရီ ကြခတ်ဝိုင်းကျောင်းတိုက်ထည်းရောက်၊ (၆)နာရီအခမ်းအနားစ၊ ရာပြည့် သံဃာ့သဘာပတိ တင်မြှောက်တော်မူကြ၊ ဤသည်လည်း အံ့ဘွယ်တရပ်ပင်ဟု ပြောကြသည်။

(ဘုန်းတော်ကြီး ဦးသီလ၏ ထေရုပ္ပတ္တိအကျဉ်းချုပ်ကို သမိုင်းတနေရာ၌ ဖော်ပြပါအံ့။)

စစ်ကိုင်းတောင် ကျစွာချောင်
ဓမ္မာစရိယ ပါဠိပါရဂူ ဆရာတော် ဦးလက္ခဏ
ရေးသားလျက်

**မန္တလေးမြို့၊ အရှေ့ဝိသုဒ္ဓါရုံ ရမည်းသင်းဆရာတော် ဖတ်ကြားအပ်သော ရာပြည့်ဂုဏ်ပြု ပဋ္ဌာနဂါထာများ**

(၁) ဝီရော ယတိဿရော ထေရော၊ သီလာလင်္ကာရ ဘူသနံ။
ပညာယာနံ သုပါဇေန္တော၊ စက္ကံ ဝဍ္ဎေတိ ဘူတလေ။

ဝီရော၊ ဝီရိယ်ရှိန်ဓာတ် ကိုယ်မှာကပ်၍ မပြတ်နှိုးဆော် အရာရာလှုံ့လလည်းရှိတော်မူထသော။ ယတိဿ-ရော၊ အသမ္ဘိန္န ခတ္တိယဟု နာမစွဲမှီ သာကီယဇာတ် ရဟန်းမြတ်တို့ကို အစိုးရတော်မူထသော။ ထေရော၊ ပဲခူးဌာန အရညဝါသီ တောရမှီ၍ နာမည်တင့်လှင် ရွှေကျင်နိကာယ ပိုင်သဦးစီး သမာဓိကြီးလတ် ဘုန်းတော်ကြီး ဦးသီလမဟာထေရ်မြတ်သည်။ ဘူတလေ၊ မောရဟံသာ ရောဝတီ တိုင်းသုံးလီနှင့် မြန်ပြည်ထက်အောက် ပြည်နယ်ရောက်လျက် ထွန်းတောက်ပေါ်လွင် ဤကမ္ဘာမြေပြင်အလုံး၌။ သီလာလင်္ကာရ-ဘူသနံ၊ ပါတိမောက္ခ သံဝရဟု စတုပါရိ သုဒ္ဓိလေးဖြာ သီလတည်းဟူသော အဆင်းတန်းဆာတို့ဖြင့် ဆင်မြန်းရာလည်းဖြစ်ပေထသော။ ပညာယာနံ၊ ဓုတင်ကျင့်မြတ် ပဋိပတ်နှင့် ရှစ်ရပ်မဂ္ဂင် စစ်တပ်ဆင်ကာ ပညာတည်းဟူသော ယာဉ်တော်သာကို။ သုပါဇေန္တော၊ ဩတ္တပ္ပိယရီ နောက်တန်းမှီ၍ လူ့ပြည်တခွင် ကောင်းစွာမောင်းနှင်တော်မူလျက်။ စက္ကံ၊ ဗုဒ္ဓဘုရားရှင် အလိုအင်ဟု ရွှေကျင်သာသနာ စက်အာဏာကို။ ဝဍ္ဎေတိ၊ အတ္တပရ ကျိုးနှစ်ဝကို ပြီးရလေအောင် ရှက်ဆောင်တိုးပွါးစေတော်မူပါပေသတည်း။

(၂) မာကာသံ အလင်္ကာရော၊ ကပ္ပဋ္ဌိတံ သုသဏ္ဌိတော။
စက္ကံ အရညဝါသီပိ၊ သဏ္ဌာတံ ဝိနယာဂမော။

မာ၊ နက္ခတ်တာရာ ကြယ်တကာတို့၏ ရောင်ဝါသေဌ်နင်း ရွှေလမင်းသည်။ အာကာသံ၊ အထက်ဝေဟင် ကောင်းကင်ပြင်၌။ အလင်္ကာရော၊ ထိန်ထိန်ပဝင်း ကိုယ့်အလင်းဖြင့် ဖြန့်ခင်းကြည်လင် တန်းဆာဆင်လျက်။ ကပ္ပဋ္ဌိတံ၊ လေးကျွန်းတမြင်းမိုရ် ခေါ်ဆိုမှတ်ရ ဘဒ္ဒကမ္ဘာ တည်နေသမျှကာလပတ်လုံး။ သုသဏ္ဌိတော၀၊ မပျက်မလည် ကောင်းစွာတည်နေသကဲ့သို့။ အရညဝါသီပိ၊ ပဲခူးဌာန အရညဝါသီ ဂုဏ်ရည်ပြန့်ဟီး ရွှေကျင်ဂိုဏ်းကြီးသည်ရှင်း။ ဝိနယာဂမောပိ၊ တစ်သုံးသုံးနှစ် သင်္ဂါယာဇ်၌ အနှစ်တရာ ပြည့်မြောက်လာကြောင့် ထူးစွာကျင်းပ ဝိနယအာဂုံစာပြန်ပွဲသဘင်ကြီးသည်ရှင်း။ စက္ကံ၊ ဗုဒ္ဓမြတ်စွာ ဟောမိန့်မှာသည့် အာဏာစက်ခေါ် သာသနာတော်ကို။ အလင်္ကာရော၊ သိက္ခာတော်ရောင် သမ္ဘာရောင်တို့ဖြင့် တောက်ပြောင်ဝေလှ့င် တန်းဆာဆင်လျက်။ ကပ္ပဋ္ဌိတံ၊ လေးကျွန်းဘမြင်းမိုရ် ခေါ်ဆိုမှတ်ရ ဘဒ္ဒ-ကမ္ဘာ တည်နေသမျှကာလပတ်လုံး။ သဏ္ဌာတံ-သဏ္ဌာတု၊ မပျက်မလည် မြင်းမိုရ်တည်သို့ ကြာရှည်ခိုင်ခံ့ တည်တံ့ပါစေသတည်း။



သံဃာယနာတင်အခမ်းအနား သဘာပတိဆရာတော်ကြီးများ။



သံဃာယနာတင် အမေး ကျိုက်ဝိုင်းဆရာတော်နှင့် အဖြေ ရေလယ်ဆရာတော်များ
မေးဖြေတော်မူနေကြဟန်။

မလှိုင်မြို့ ကန်ကြီး သီရိသောမာရုံ(ဘာသန္တရဆေက ဓမ္မာစရိယ ကာဗျဝိဒူ)
ဆရာတော် ဦးစန္ဒဇောတိ ရေးသားလျက် မန္တလေးမြို့ နိုင်ငံကျော်ဓမ္မကထိက ဓမ္မာစရိယ ဇယမေဒနီ
ဆရာတော် ဦးအဋ္ဌယပဏ္ဍိတ
ဖတ်ကြားအပ်သော အခမ်းအနားသိမ်း အနုမောဒနာ အာသီသ ၂.ဂါထာ
(သိဒ္ဓိရတ္ထု)

(၁) ယထာ ရက္ခိံသု ပေါရာဏ-ထေရာ အာရညိကာနွယံ။
သဟိတာ နောပိ ကာဟာမ၊ အာရက္ခံ တဒုပဒ္ဒဝါ။

ပေါရာဏထေရာ၊ နှိုင်းဘို့ရန် ပမာ မရပြီဟု သာသနာ့ကျက်သရေဆောင် ဂိုဏ်းဥဿျောင်ပဂေး ဖြစ်ကြသည့် ရှေးခေတ်အရညဝါသီ မဟာထေရ်ဂိုဏ်းစီး ကျေးဇူးရှင် ဆရာတော်ဘုရားကြီးတို့သည်။ အာရညိကာနွယံ၊ ဘုန်းကံစုံညီ ထုံဝါသီဖြင့် ဂုဏ်ရည်ကဲကြူး အမြဲထူးသည့် ပဲခူးတောရ ဘုန်းတော်ကြီး ဦးသီလ၏ အနွယ် အဆက်ကို။ ရက္ခိံသု ယထာ၊ တောရဂိုဏ်း မပြိုကွဲအောင် တဗိုလ်လဲလျှင် တဗိုလ်တက် ဆန့်ကျင်ဘက်ဖယ်ရှား အမျှားဝိုင်းအုံ စောင့်ရှောက်တော်မူကြကုန်သကဲ့သို့။ တထာ၊ ထိုနည်းတူစွာ ပမာထားယူ အလားတူသာလျှင်။ နောပိ၊ ပါတိမောက္ခ သံဝရဖြင့် စံပြအနေ ဝိနည်းတွေ ကျင့်သုံးလျက် အမြင့်ဆုံးပူဇော် တပည့်တော်တို့သည်လည်း။ သဟိတာ၊ တောရဂိုဏ်းသာသနာဝင် ရွှေကျင်သွေးစပ်ကျောချင်းကပ်ကြကုန်သည်ဖြစ်၍။ တဒုပဒ္ဒဝါ၊ ဂဏန္တရာယ် ရန်စွယ်သမသတ် ဥပဒ်ရောထွေး ထိုအရညဝါသီဂိုဏ်းကြီး ပြိုကွဲမည့်ဘေးမှ။ အာရက္ခံ၊ လေးဘက်လေးတန် အရန်စည်းချ ဓမ္မဂရု စောင့်ရှောက်မှုခံတပ်ကြီးကို။ ကာဟာမ။ တမြမြကိုယ်ရည်သွေး လုံခြုံရေးအသိစွဲလျက် သတိတွဲဉာဏ်ယှဉ် အပြောတွင်မက လုပ်အားပြ တည်ဆောက်ကြရပါကုန်တော့မည်ဘုရား။

(၂) ယေ ယေ ထေရာ ဣဓာယန္တိ၊ တေ တေ နိဗ္ဗုတမာနသာ။
သိက္ခာသုဿာဘိရမန္တာ စ၊ ပဂ္ဂဏှန္တု သသာသနံ။

ထေရာ၊ သီလပုလဲဥ တည်ကြည်မှုရင့်သန် နှိုင်းဘို့ရန် ပမာမရှိသဖြင့် သမာဓိမြင်းမိုရ် မပြိုကွဲနိုင် မြဲခိုင်တည့်မတ် အသိဓာတ်ရင့်သန်တော်မူကြပေကုန်သော။ ယေ ယေ ထေရာ၊ အထက်မြန်မာပြည် ဟံသာဝတီအောက်ပိုင်း တနင်္သာရီတိုင်းမကျန်ရသည့် စံပြထေရ်ကျော် အကြင်အကြင် ဆရာတော် သံဃာတော်ဟူသမျှတို့သည်။ ဣဓ၊ ဤပဲခူးမြို့ဌာန ဝိနယစာတော်ပြန် နှစ်ဝေဘန် တရာရှိပြီဟု ကမ္ဘာအသိ ကျေညာဂုဏ်ဖြာထိန်ညီး ဤရာပြည့်အထိမ်းအမှတ် ဝိနည်းပိဋကတ် ထွန်းအမြတ်ပူဇော်ပွဲကြီးသို့။ အာယန္တိ၊ ကိုယ်စိတ်မငြင်ငြို တာဝန်ကို မဖယ်ကြပြီဟု အနယ်နယ်မှ ပေါင်းဆုံ ကြွရောက်တော်မူလာကြကုန်၏၊ တေ တေ ထေရာ၊ ပွဲကြီးပြီးမြောက် ခရီးရောက်အောင် ချီးမြှောက်ဘို့ရာ ကြွလာကြငြား ထိုထိုဆရာတော် သံဃာတော်အရှင်မြတ်များတို့သည်။ နိဗ္ဗုတမာနသာ၊ လစန်းနှင့် စန္ဒကူးကဲ့သို့ ကြည်နူးဖိတ်ယို ဗြဟ္မစိုရ်ကရုဏာ မေတ္တာရည်ဖျန်း ကြာပန်း၏ပုံ အေးချမ်းသောစိတ်နှလုံး ရှိကြကုန်သည်ဖြစ်၍။ သိက္ခာသု၊ သီလသမာဓိ ပညာ သိက္ခာသုံးရပ် အကျင့်မြတ်တို့၌။ အဘိရမန္တာ စ၊ အာရုံစူးစိုက် ပျော်ပိုက်ခိုလုံ မွေ့လျော်တော်မူကြကုန်လျက်သာလျှင်။ သသာသနံ၊ ကိုယ့်ကျင့် ကိုယ့်ဆိုင် ဘိုး ဘပိုင်ဟု ကိုယ်တိုင်ခိုမှီး မိမိတို့ဆိုင်ရာ သာသနာတော်မြတ်ကြီးကို၊ ပဂ္ဂဏှန္တု၊ ဘဘုရားမြတ်စွာ ရွှေမျက်နှာထောက်ထားလျက် အမြောက်အမြား ဝိုင်းအုံ တကယ်တမ်း ချီးမြှောက်တော်မူနိုင်ကြပါစေကုန်သတည်း။



အဂ္ဂမဟာပဏ္ဍိတ  စဝ်ကိုင်းတောင်ရိုးမှ
ရွှေဟသ်ာဘိုက်သစ်ဆရာတော်ဘုရားကြီး ဩဝါဒပေးတော်မူနေပုံ၊



ဤသို့နေ့စဉ် သံဃာ့အစည်းအဝေးကြီး၌
အစီအစဉ်ကို လျှောက်ထား ဖတ်ကြားပေးပါသည်၊

နေ့စွဲ–၂၃၊၁၁၊၇၀။

ဆက်ကပ်ပါသည်ဘုရား၊

ဆရာတော်...............................

ကျောင်းတိုက်...............................

မြို့/ရွာ...............................

အကြောင်းမှာ။ ။ပဉ္စမ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ဘုန်းတော်ကြီး ဦးသီလစသည်တို့၏ အာစရိယပ္ပရမ္ပရ သိဿာနုသိဿဖြစ်ကြကုန်သော တိုင်းအသီးသီး ခရိုင်အသီးသီး မြို့နယ်အသီးသီးတို့မှ ဂဏနာယက ဂဏပါမောက္ခ ဂဏပဥ္စာန တောရနွယ်ဝင် အရှင်ဆရာတော်ဘုရားကြီးများအား အမှူးထား၍ ပဲခူးမြို့ ကြခတ်ဒိုင်းကျောင်းတိုက် ဝိနယဓရသာဝ ရာပြည့်ဓမ္မာရုံတော်၌ ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၂-ရက်နေ့မှ ဂ-ရက်နေ့အထိ ၇-ရက်တိုင်တိုင် ကြုံတောင့်ကြုံခဲ သံဃာတော်အပါး ၁၀၀၀-ကျော်တို့ကို ပင့်ဆောင်ခြိမ့်သဲစေလျက် အနှစ်တရာမှာ အဖြစ်တခါသာ ပေါ်ပေါက်လာရန် အခွင့်ရှိသော ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ........

(က) အနှစ် ၁၀၀-ပြည့် ဝိနည်းစာပြန်ပွဲကြီး

(ခ) အနှစ် ၁၀၀-ပြည့် တရားပွဲကြီးနှင့်

(ဂ) စာပြန် ၁၀၀-ပြည့် အထိမ်းအမှတ်

ဝိနည်းပိဋကတ် ထွန်းအမြတ် ပူဇော်ပွဲကြီးတို့ကို ၃-ဌာနအနေ ပူးတွဲကျင်းပရာဝယ် ပဲခူးခရိုင်အတွင်းရှိ ဝိနည်းစာပြန်ပွဲ ၆-ဌာနတို့၌ ၁၃၃၂-ခုနှစ် ဝါဆိုစာရင်းအရ ကျောင်းပေါင်း ၂၃ဂ-ကျောင်း သံဃာတော်ပေါင်း ၂၃၂၆-ပါးရှိရာ ထိုသံဃာတော်တို့နှင့် ဘာသာရေး သာသနာရေး အသင်းအဖွဲ့များအပြင် သာသနာရေး အားပေးကြည်ညို ထိုထိုဒကာ, ဒကာမ ပဲခူးမြို့ ၁၉-ရပ်ကွက်လုံးတို့မှ ထက်သန်သော....

(က) ကာယကံ, ဝစီကံ, မနောကံတို့ဖြင့်၎င်း

(ခ) ကာယသတ္တိ, ဉာဏသတ္တိ, စာဂသတ္တိတို့ဖြင့်၎င်း

(ဂ) စေတနာအား, လုံ့လအား, ပစ္စည်းအားတို့ဖြင့်၎င်း

ဝိုင်းအုံစုပေါင်း ဆောင်ရွက်ကြပါ၍ (စ,လယ်, အဆုံး-သုံးပါးလုံး) နိဂုံးတိုင်အောင် (ခလုတ်မထိ ဆူးမငြိ)ဘဲ ဝိနည်းငါးကျမ်းပါဠိတော်တို့ကို အသံမစဲ ရွတ်ဆိုပူဇော်ကျင်းပအပ်သော အနှစ် ၁၀၀-ပြည့် ၃-ဌာန ပူးတွဲပူဇော်ပွဲကြီးသည် ခန့်ညားတည်ငြိမ် ဣန္ဒြေရှိရှိဖြင့် အောင်လံစိုက်ဆောက် ကောင်းမွန်စွာ ပြီးဆုံးခြင်းသို့ ရောက်ခဲ့ပါသဖြင့် ဝမ်းသာ လှပါသည်ဘုရား၊

ထို့ကြောင့်........

(က) ထိုတိုင်းအသီးသီး ခရိုင်အသီးသီး မြို့နယ်အသီးသီးတို့မှ ကိုယ်တိုင်တော် ကြွရောက်၍၎င်း ဩဝါဒပေး၍၎င်း သန္ဒေသကထာရေး၍၎င်း ချီးမြှင့်ကြသော ဆရာတော်ဘုရားများအား ဂိုဏ်းဂဏ ဝိနည်းပြန်တဌာနနှင့် တဌာန သမဂ္ဂအချင်းချင်း သာသနာရေးအားပေးလိုသော ဆန္ဒနှလုံးသွင်းဖြင့် ကြိုးစားချီးမြှင့်ကြသည့်အတွက် အထူးကျေးဇူးတင်ပါသည်ဘုရား၊



နိုင်ငံကျော် ဓမ္မကထိက ဘာသန္တရဆေက အဂ္ဂမဟာပဏ္ဍိတ စစ်ကိုင်းမြို့ အနီးစခန်း ဆရာတော်ဘုရား တရားချီးမြှင့်နေပုံ။



ညဥ့်တရားနာဘို့ ညနေတည်းမှ ဤသို့ နေရာ လာဦးထားကြသည်။

(၁) စေတနာအလျောက် ပြည့်စုံစေ့၄အောင် ဆောင်ရွက်ရင်း ချွတ်ယွင်းမှုများ ရှိပါငြားအံ့၊ ထို ချွတ်ယွင်းမှုမှန်သမျှသည် တပည့်များ၏ အပြစ်သာဖြစ်ပါ၍ လေးနက်စွာ တောင်းပန်ပါသည်၊ သမဂ္ဂ အသင်းချင်းလည်း သာသနာတော်အတွက် အမြဲတမ်း ရင်းရင်းနှီးနှီး ၃-နှစ် တကြိမ်လောက် တွေ့ဆုံဆွေး နွေးကြဘို့ အကြံပေးလိုပါသည်ဘုရား၊

(၇) သာသနာရေး အေးဆေးစွာ ဆွေးနွေးလျောက်ထားရင်း ပြုစုစရာအဖြာဖြာကို ကျေနပ် အောင် မပြုစုလိုက်ရပါ၍ စိတ်ထည်းမှာ တနုံ့နုံ့ဖြစ်နေမိပါကြောင်းနှင့် ဆရာတော်ဘုရားများအား ပဲခူး ရာပြည့်ပူဇော်ပွဲကြီးသို့ ကိုယ်တော်တိုင် ကြွရောက်ချီးမြှင့်ပါ၍ ပဲခူးသံဃာနှင့် ဒကာ, ဒကာမများက သီးသီးခြားခြား ကျေးဇူးတင်လျက် အထူးသတိရ ကြည်ညိုနေပါကြောင်းကို ရိုသေစွာ လျှောက်ထား အပ်ပါသည်ဘုရား၊

အရာရာ ဘေးမသန်းဘဲ အမြဲတမ်း အေးချမ်းသာယာစွာ ရှိကြပါစေဘုရား၊
သာသနာ့အကျိုး, သံဃာ့အကျိုး ဆထက်တိုး၍ ကြိုးစားဆောင်ရွက်နိုင်ကြပါစေဘုရား။

ဦးဇောတိပါလ
ကြခတ်ဝိုင်းကျောင်းတိုက်
ပဲခူး မြို့
ဖုံး (ပဲခူး-၇၂)



ပဲခူးမြို့ မင်းလမ်းမ ဆင်နှစ်ကောင်ပရိက္ခရာနှင့် အိမ်ထောင်ပရိဘောဂ
ဦးကျော်လှိုင်-ဒေါ်ခင်နုတို့ ကြခတ်ဝိုင်းဆရာတော်ရှေ့မှောက်၌ လိုအပ်သလို သုံးနိုင်ရန်
စပီကာကြီး ၅-လုံးကို လှူဒါန်းရေစက်ချ အမျှပေးဝေနေကြပုံ။



ရာပြည့်ပူဇော်ပွဲ၌ သံဃာတော် အပါး(၁၀၀၀)စေ့အောင်
ပဲခူးမြို့၊ ဈေးပိုင်း စိန်ပရိက္ခရာ ဦးအင်းဟုတ် ဆေးပုလင်းများ လိုက်လံကပ်နေပုံ။



ရာပြည့်ပူဇော်ပွဲ၌ သံဃာတော် အပါး(၁၀၀၀)စေ့အောင်
ပဲခူးမြို့၊ ပန်းလှိုင် ၂၅-လမ်း ဦးမြို့၊ ရာပြည့်ယပ်တောင်များ လိုက်လံကပ်နေပုံ။

နေ့စွဲ-၂၃-၁၁-၇၀။

သို့/..................................

..........................................

..........................................

အထူးဝမ်းမြောက်ပါသည်။

အကြောင်းမှာ။ ။ပဲခူးမြို့ ကြခတ်ဝိုင်း ကျောင်းတိုက်၌ ၁၃၃၂-ခု တန်ဆောင်မုန်း လဆုတ် (၂)ရက်နေ့မှ (၈)ရက်နေ့အထိ (၇)ရက်တိုင်တိုင် တိုင်းအသီးသီး ခရိုင်အသီးသီး မြို့နယ်အသီးသီးတို့မှ သိက္ခာကာမ အတိပါကဋ ဖြစ်ကုန်သော ဆရာတော်ဘုရားကြီးများအား အမှူးထား၍ ကြွတောင့်ကြွခဲ သံဃာတော်အပါး (၁၀၀၀) ကျော်တို့ကို ပင့်ဆောင်လျက် အနှစ်(၁၁၀)မှာ အဖြစ်တခါသာ ပေါ်လာရန်အခွင့်ရှိသော–

(က) အနှစ်(၁၀၀)ပြည့် စာပြန်ပွဲကြီး၊
(ခ) အနှစ်(၁၀၀)ပြည့် တရားပွဲကြီး၊
(ဂ) အနှစ်(၁၀၀)ပြည့် အထိမ်းအမှတ် ဝိနည်းပိဋကတ် ထွင့်အမြတ် ပူဇော်ပွဲကြီး—

တို့ကို ၃-၄ာန အနေ ပူးတွဲကျင်းပရာဝယ် ထက်သန်သော—

(က) ကာယကံ ဝစီကံ မနောကံ တို့ဖြင့်ရင်း၊
(ခ) ကာယအား ဉာဏအား စာဂအားတို့ဖြင့်ရင်း၊
(ဂ) စေတနာအား လုံ့လအား ပစ္စည်းအားတို့ဖြင့်ရင်း—

အလွတ်မခံ ဝိပဿနာ ကိုယ်ပိုင်ဉာဏ် အပြည့်အဝ ရှိကြသည့်အလျောက်- လေးလေးနက်နက် အမြင်မှန်သဘောပေါက်ကြလျက် ဇဝနဉာဏ် ဟာသဉာဏ် ဂမ္ဘီရဉာဏ် တိက္ခဉာဏ်တို့နှင့်တကွ မဂ်ဉာဏ် ဖိုလ်ဉာဏ် အမြန်ရကြောင်း ကောင်းမြတ်သော သာသနာပြု ဤကုသိုလ်ထူးကြီးကို လိုအပ်သည့်နေရာမှာ မိမိကိုယ်ခန္ဓာကို အသုံးပြုတာဝန်ချပြီး ရယူဆည်းပူး အားထုတ်ကြသည်ကို သိခဲ့ရမြင်ခဲ့ရပါ၍ အထူး ကျေးဇူးတင် ဝမ်းမြောက်အားရ ရှိလှပါကြောင်း။

ဤအချိန်ကိုအစပြု၍—လိုတိုင်းရ၊ တ-တိုင်းမြောက်ကြလျက် အရာရာ ဘေးမသန်းဘဲ အမြဲတမ်း အေးချမ်းသာယာ ရှိကြပါစေ။

ပေးမကုန် လှူမခန်းနိုင်သော ရတနာ ရွှေငွေအပေါင်းတို့နှင့် ပြည့်စုံလျက် သာသနာတော် သုံးရပ်ကို နေလသဘွယ် တင့်တယ်အောင် ပြုစုနိုင်ကြပါစေ။

ဦးဇောတိပါလ
ကြခတ်ဝိုင်းကျောင်းတိုက်
ပဲခူးမြို့။



ဂိုဏ်းဝန်ဆောင် ကြခတ်ဝိုင်းဆရာတော်နှင့် ရာပြည့် အမှုဆောင်လူကြီးများအချို့ ဖြစ်သည်။



ရာပြည့် အမှုဆောင်လူကြီးများနှင့် လုပ်အားပေး ခလေးများ။

## ပဲခူးမြို့၊ ကြခတ်ဝိုင်းကျောင်းတိုက်
## ၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် အနှစ်တရာပြည့် ပူဇော်ပွဲ

### ၁။ တိုက်တာ သာယာရေးအဖွဲ့

| | | |
|---|---|---|
| ၁။ ကျောက်တိုင်ကန်-ဒက္ခိဏာသာခါဆရာတော် | ဦးကဝိဇ | (ဥက္ကဋ္ဌ) |
| ၂။ ကျိုက်လှ-ဒက္ခိဏာရုံဆရာတော် | ဦးသံကိစ္စ | (ဒု-ဥက္ကဋ္ဌ) |
| ၃။ ညောင်ခါးရှည်-ရွှေဂူဆရာတော် | ဦးသုဝဏ္ဏ | (ဒု-ဥက္ကဋ္ဌ) |
| ၄။ ပဲခူး-အသောကာရုံဆရာတော် | ဦးသာသန | (အဖွဲ့ဝင်) |
| ၅။ ပဲခူး-နိဂြောဓာရုံဆရာတော် | ဦးပဏ္ဍိတ | ” |
| ၆။ မင်းရွာ-ပဏ္ဍိတာရုံဆရာတော် | ဦးပဏ္ဍိတ | ” |
| ၇။ ပဲခူး-ဘာဝနာသုခဆရာတော် | ဦးနာရဒ | ” |
| ၈။ လှာပကစ်-ဓမ္မမင်္ဂလာရုံဆရာတော် | ဦးအရိယဝံသ | ” |
| ၉။ ရှမ်းရွာကြီး-ပုရိမာရုံဆရာတော် | ဦးဉာဏဝံသ | ” |
| ၁၀။ ပဲခူး-မာရ်အောင်ဆရာတော် | ဦးစန္ဒာဝရ | ” |
| ၁၁။ ပဲခူး-လိပ်ပြာကန်ဆရာတော် | ဦးကုမာရ | ” |
| ၁၂။ ကလိ သီရိမင်္ဂလာဆရာတော် | ဦးခေမာစာရ | ” |
| ၁၃။ ပဲခူး-အနောက်မြို့ထောင့်ဆရာတော် | ဦးဝါသဝ | ” |
| ၁၄။ မင်းရွာ-အမတရသာရုံဆရာတော် | ဦးစန္ဒိမာ | ” |
| ၁၅။ ပဲခူး-မာလာသီရိဆရာတော် | ဦးဝိလာသ | ” |
| ၁၆။ ပဲခူး ဆံတော်တွင်းဆရာတော် | ဦးဝါယာမ | ” |
| ၁၇။ မွန်စု-မောခိညောင်ဆရာတော် | ဦးသောမ | ” |
| ၁၈။ ဇိုင်းဂနိုင်းကြီး-ဓမ္မသုခေသိဘာရုံဆရာတော် | ဦးပညာစက္က | ” |
| ၁၉။ ဇီးပင်-အနောက်ကျောင်းဆရာတော် | ဦးပရမ | ” |
| ၂၀။ သူဌေးကုန်း-တောရဆရာတော် | ဦးဉာဏ | ” |
| ၂၁။ လက်ခုပ်ကွင်း-လေအေးတိုက်ကျောင်းဆရာတော် | ဦးဥေယျ | ” |
| ၂၂။ ပဲခူး-ကြခတ်ဝိုင်းဆရာတော် | ဦးဇောတိပါလ | (အကျိုးဆောင်) |
| ၂၃။ ပဲခူး-ကြခတ်ဝိုင်း စာချ | ဦးသီဟဉာဏာဘိဝံသ | (ဒု-အကျိုးဆောင်) |
| ၂၄။ ပဲခူး-ကြခတ်ဝိုင်း စာချ | ဦးတေဇဝန္တ | (ဒု-အကျိုးဆောင်) |

**ထိုအဖွဲ့၏တာဝန်များမှာ**

(က) တိုက်တွင်းရှိ အဆောက်အဦများ တင့်တယ်အောင် ထုံးစသည်သုတ်ခြင်း အပျက်အစီးများကို ပြုပြင်ခြင်း တိုးချဲ့ခြင်း။

(ခ) သံဃာသွားလမ်း လူသွားလမ်းတို့ကို ပြေပြစ်ညီညာအောင် ပြုပြင်ခြင်း။

(ဂ) အင့်ဂျတ်တိုင်းနှင့် မုန်ပေါက်တို့ကို လှပအောင် ခြယ်လှယ်ခြင်း။
(ဃ) ရေနှင့်မီး ပြည့်စုံအောင် ဆောင်ရွက်ခြင်း။
(င) မြက်နှင့် အမှိုက်သရိုက်တို့ကို ရှင်းလင်းခြင်းနှင့် ကျင်းချိုင့်များကို ဖို့ခြင်းစသည်။

## ပဲခူးမြို့၊ ကြခတ်ဝိုင်းကျောင်းတိုက်

## ၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် အနှစ်တရာပြည့် ပူဇော်ပွဲ

## ၂။ ကြိုဆိုနေရာချထားရေးအဖွဲ့

| | | | |
|---|---|---|---|
| ၁။ | ပဲခူး-ရွှေကျင်ဓမ္မရိပ်သာဆရာတော် | ဦးဝိမလ | (ဥက္ကဋ္ဌ) |
| ၂။ | မယင်း-ဓမ္မသိဂီတိုက်ကျောင်းဆရာတော် | ဦးကုသလ | (ဒု-ဥက္ကဋ္ဌ) |
| ၃။ | ပဲခူး-ရွှေပန်းကျောင်းကြီးဆရာတော် | ဦးဇာနေယျ | (ဒု-ဥက္ကဋ္ဌ) |
| ၄။ | ပဲခူး-ခေါင်းဆေးကျွန်းဆရာတော် | ဦးစက္ကိန္ဒ | (အဖွဲ့ဝင်) |
| ၅။ | သနပွင်-ရေကျော်ဆရာတော် | ဦးပညာသာမိ | ။ |
| ၆။ | ဘုရားကလေး-ဥက္ကံတိုက်အုပ်ဆရာတော် | ဦးတိလောက | ။ |
| ၇။ | ပဲခူး-မင်းကျောင်းဆရာတော် | ဦးနိသဘ | ။ |
| ၈။ | ပြွန်တန်ဆာ-သာသနသောဘနိကာရုံဆရာတော် | ဦးဝိသုဒ္ဓ | ။ |
| ၉။ | ပဲခူး-ရွှေဂူတိုက်အုပ်ဆရာတော် | ဦးအာစိဏ္ဏ | ။ |
| ၁၀။ | ပဲခူး-ဆုတောင်းပြည့်ဆရာတော် | ဦးဓမ္မပ္ပိယ | ။ |
| ၁၁။ | ထောင်မင်း-ရတနာဘူမိဆရာတော် | ဦးသုံန္ဒရ | ။ |
| ၁၂။ | ပဲခူး-ရွှေအောင်ရွှေးဆရာတော် | ဦးပညာဇောတ | ။ |
| ၁၃။ | ဝေါမြို့-သုခိတာရုံဆရာတော် | ဦးတေဇိန္ဒ | ။ |
| ၁၄။ | အင့်ဂျကျင်း-ဓမ္မရန်အောင်ဆရာတော် | ဦးစန္ဒာဝရ | ။ |
| ၁၅။ | ပဲခူး-ဓမ္မဝိဟာရဆရာတော် | ဦးအာလောက | ။ |
| ၁၆။ | ပဲခူး-ပုပ္ဖာရုံဆရာတော် | ဦးစန္ဒိမာ | ။ |
| ၁၇။ | ကြို့တက်-အောင်မြေသုခဆရာတော် | ဦးဝေပုလ္လ | ။ |
| ၁၈။ | တာဆုံမြဘုန်းရှိန်ဆရာတော် | ဦးဉာဏုတ္တရ | ။ |
| ၁၉။ | တကူပြွန်-ဓမ္မရံသီဆရာတော် | ဦးတိက္ခ | ။ |
| ၂၀။ | ပဲခူး-ကြခတ်ဝိုင်းဆရာတော် | ဦးဇောတိပါလ | (အကျိုးဆောင်) |
| ၂၁။ | ပဲခူး-ကြခတ်ဝိုင်း စာချ | ဦးဥေယျဓမ္မာဘိဝံသ | (ဒု-အကျိုးဆောင်) |
| ၂၂။ | ပဲခူး-ကြခတ်ဝိုင်း စာချ | ဦးစန္ဒာဝရာဘိဝံသ | ( ။ ) |

**ထိုအဖွဲ့၏တာဝန်များမှာ**

(က) ရန်ကုန်၊ မန္တလေး၊ မော်လမြိုင် သက်ဆိုင်ရာ ရထားချိန်တို့၌ မြို့ပေါ်ရှိ သာသနာရေး အသင်းအဖွဲ့များအား လှုံ့ဆော်စည်းရုံးလျက် သိုက်မြိုက်စည်ကားစွာ ကြိုဆိုခြင်း။

(ခ) မော်တော်ယာဉ်များ ပြည့်စုံအောင် စီစဉ်ပေးခြင်း။
(ဂ) အသံချဲ့စက်ဖြင့် ကြည်ညိုဖွယ် ဖြစ်အောင် မြန်မာကဗျာဂါထာများကို ရွတ်ဆိုစေခြင်း။
(ဃ) အာဂန္တုကဆရာတော်များ စိတ်ချမ်းသာရေးအတွက် ပြေပြစ်အောင် ဆောင်ရွက်ခြင်း။
(င) ပါလာသော ပစ္စည်းများကို မပျောက်ပျက်စေဘဲ သက်ဆိုင်ရာနေရာသို့ ပို့ဆောင်ပေးခြင်း။
(စ) မြို့ပေါ်ရှိ တန်ခိုးကြီး ဘုရားများသို့ ပို့ပေးရေးနှင့် ပြန်ကြွမည့် အချိန်တို့၌ ပြန်ပို့ရေးကို စီစဉ်ပေးခြင်း။
(ဆ) ဖျာ၊ ခေါင်းအုံး၊ အိပ်ရာနေရာ, သောက်ရေ, သုံးရေ ပြင်ဆင်ထားခြင်းစသည်။

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်

၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် နှစ်တရာပြည့်ပူဇော်ပွဲ

ခ-ဆွမ်းကွမ်းစသည် ဆိုင်ရာအဖွဲ့

| | | | |
|---|---|---|---|
| ၁။ | ကျောက်တိုင်ကန် စမ်းကြီးတောရဆရာတော် | ဦးသီရိန္ဒ | (ဥက္ကဋ္ဌ) |
| ၂။ | ပဲခူးအရှေ့-ရွှေနံ့သာဆရာတော် | ဦးပဏ္ဍိစ္စ | (ဒု-ဥက္ကဋ္ဌ) |
| ၃။ | ပဲခူး-ပါဠိဗိမာန်ဆရာတော် | ဦးပညာဝံသ | (ဒု-ဥက္ကဋ္ဌ) |
| ၄။ | ကမာနတ်-ကန်ဦးဆရာတော် | ဦးကောဝိဒ | (အဖွဲ့ဝင်) |
| ၅။ | ရှမ်းရွာကြီး ပစ္ဆိမာရုံဆရာတော် | ဦးလက္ခဏ | ။ |
| ၆။ | ပဲခူး-သော်ကမြိုင်ဆရာတော် | ဦးပညာသာမိ | ။ |
| ၇။ | ပဲခူး-ဇေယျမင်္ဂလာဆရာတော် | ဦးဝိသုဒ္ဓ | ။ |
| ၈။ | ဘုရားကြီး-ဓမ္မဒီပိကာရုံဆရာတော် | ဦးဝေပုလ္လ | ။ |
| ၉။ | ဖောင်တော်သီ-သာသနသိပ္ပံဆရာတော် | ဦးသီလာစာရ | ။ |
| ၁၀။ | ပဲခူး-ရွှေဘုန်းပွင့်ဆရာတော် | ဦးဝါယာမ | ။ |
| ၁၁။ | တာဝ-မြစေညီနောင်ဆရာတော် | ဦးလက္ခဏ | ။ |
| ၁၂။ | ဘုရားသုံးဆူ-နာရဏီဆရာတော် | ဦးသုန္ဒရ | ။ |
| ၁၃။ | သနပွင်-ဓမ္မိကာရုံဆရာတော် | ဦးဓမ္မာနန္ဒ | ။ |
| ၁၄။ | ခရမ်း-ဓမ္မမေဒနီဆရာတော် | ဦးအဂ္ဂဝံသာဘိဝံသ | ။ |
| ၁၅။ | ကျောက်တိုင်ကန်-ရသေ့မြို့ဆရာတော် | ဦးသောမ | ။ |
| ၁၆။ | သုခကုန်း-မြို့ဦးဆရာတော် | ဦးသုန္ဒရ | ။ |
| ၁၇။ | ကင်းချောင်း-ဒက္ခိဏာရုံဆရာတော် | ဦးအာစာရ | ။ |
| ၁၈။ | ကမာစဲ-မန်းရတနာဆရာတော် | ဦးဣန္ဒကညာဏ | ။ |
| ၁၉။ | ပဲခူး-ကြခတ်ဝိုင်းဆရာတော် | ဦးဇောတိပါလ | (အကျိုးဆောင်) |
| ၂၀။ | ပဲခူး-ကြခတ်ဝိုင်းစာချ | ဦးနယန | (ဒု-အကျိုးဆောင်) |
| ၂၁။ | ပဲခူး-ကြခတ်ဝိုင်းစာချ | ဦးကောသလ္လ | (ဒု-အကျိုးဆောင်) |

ထိုအဖွဲ့၏ တာဝန်များမှာ

(က) အိုး၊ ခွက်၊ ပန်းကန်၊ ခုံ၊ ရေချိုင့်၊ ထွေးခံစသော အသုံးအဆောင်များ ပြည့်စုံအောင် စီစဉ်ခြင်း။
(ခ) အရုဏ်ဆွမ်းဟင်းခါး စသည်ကပ်ခြင်း။
(ဂ) နံနက်ဆွမ်း နေ့ဆွမ်းနှင့် အချိုပွဲများ နေထားတကျဖြစ်အောင် ပြင်ဆင်ဆက်ကပ်ခြင်း။
(ဃ) ညနေပိုင်း အဖျော်ယမကာကပ်ခြင်း။
(င) ထိုစားသောက်ဘွယ်များ ပြည့်စုံအောင် ဒကာ, ဒကာမများနှင့် ဆက်သွယ်ခြင်း၊ ဟော ပြောခြင်း၊ နှိုးဆော်ခြင်း၊ စီစဉ်ခြင်း။
(စ) နောက်တနေ့ ကပ်ရမည့်အစီအစဉ်ကို ကြိုတင်လေ့လာခြင်း ကြော်ငြာခြင်း။
(ဆ) ဆွမ်းကွမ်းစသည်တို့၏ အလှူရှင်များအား နေရာချထားခြင်းနှင့် စိတ်ချမ်းသာအောင် ပြောဆိုခြင်း အားပေးခြင်း။
(ဇ) နံနက် (၄) နာရီ တုံးကြီးခေါက်ခြင်းစသည်။

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်
၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် အနှစ်တရာပြည့် ပူဇော်ပွဲ
၄-ကျန်းမာရေးနှင့် သန့်ရှင်းရေးအဖွဲ့

| | | | |
|---|---|---|---|
| ၁။ | ပဲခူး-ကလျာဏီဆရာတော် | ဦးဉာဏဝံသ | (ဥက္ကဋ္ဌ) |
| ၂။ | ပဲခူး-ရွှေဘုံဆင့်ဆရာတော် | ဦးပဏ္ဍိတ | (ဒု-ဥက္ကဋ္ဌ) |
| ၃။ | ကျောက်တန်း-မဟာဗောဓိဆရာတော် | ဦးပဏ္ဍဝံသ | (ဒု-ဥက္ကဋ္ဌ) |
| ၄။ | ကမာစဲ-ကံသာဆရာတော် | ဦးဇလန္ဒာစာရ | (အဖွဲ့ဝင်) |
| ၅။ | ကမာစဲ-လေသာဆရာတော် | ဦးသီရိ | ။ |
| ၆။ | ပဲခူး-ဇေတဝန်ဆရာတော် | ဦးအာလောက | ။ |
| ၇။ | တောင်ပို့ဘုရား-မဏိဗေယျုံဆရာတော် | ဦးပဏ္ဍိတ | ။ |
| ၈။ | သနပ္ပင်-အနော်မာရုံဆရာတော် | ဦးကုသလ | ။ |
| ၉။ | မှော်ကန် ဟံသာရွှေကျင်ဆရာတော် | ဦးပုညိန္ဒ | ။ |
| ၁၀။ | ကမ်းမြင့်-ဓမ္မနိမ္မိတာရုံဆရာတော် | ဦးဝိဇယ | ။ |
| ၁၁။ | ပဲခူး-သာသနပဇ္ဇောတာရုံ ဆရာတော် | ဦးသီရိဓမ္မ | ။ |
| ၁၂။ | ပဲခူး-စွယ်တော်ရှောင် ဆရာတော် | ဦးသောဘန | ။ |
| ၁၃။ | ကတွင်ခြံ ရတနာဂူဟာဆရာတော် | ဦးစန္ဒိမာ | ။ |
| ၁၄။ | ဘုရားသုံးဆူ-ကျိုက်ပွန်ဆရာတော် | ဦးသုန္ဒရ | ။ |
| ၁၅။ | ပဲခူး-ပညာသိပ္ပံဆရာတော် | ဦးကေသရ | ။ |
| ၁၆။ | ပဲခူး-ပညာရာမဆရာတော် | ဦးအာဒိစ္စ | ။ |
| ၁၇။ | အဗျား-တာကျိုးဆရာတော် | ဦးအာစာရ | ။ |
| ၁၈။ | မဇင်း-သမိဒ္ဓေါဒယဆရာတော် | ဦးကေလာသ | ။ |

၁၉။ လှော်ကား-မဟာသတိပဋ္ဌာန်ဆရာတော် ဦးတေဇဝန္တ (အဖွဲ့ဝင်)
၂၀။ ပဲခူး-ဝေဇယန္တာဆရာတော် ဦးဝိမလ ။
၂၁။ စေတီ-ဇောတဝတီ ဆရာတော် ဦးဝိဇယ ။
၂၂။ ပဲခူး-ကြခတ်ဝိုင်းဆရာတော် ဦးဇောတိပါလ (အကျိုးဆောင်)
၂၃။ ပဲခူး-ကြခတ်ဝိုင်း စာချ ဦးနန္ဒဝံသာဘိဝံသ(ဒု-အကျိုးဆောင်)
၂၄။ ပဲခူး-ကြခတ်ဝိုင်း စာချ ဦးကောဝိဒါဘိဝံသ(ဒု-အကျိုးဆောင်)

**ထိုအဖွဲ့၏ တာဝန်များမှာ**

(က) ကျန်းမာရေးဆရာဝန်များ, မြန်မာဆေးဆရာများနှင့် ဆက်သွယ်လျက် ယာယီဆေးတိုက်ဖွင့်ပေးခြင်း။
(ခ) မိုးမလင်းမီ အမှိုက်သရိုက်နှင့် အနံ့အသက်မရှိအောင် သုတ်သင်ရှင်းလင်း၍ လိုအပ်ပါက နေ့ရောညပါ ရှင်းလင်းခြင်း။
(ဂ) ကုဋီတွင်း၌ သန့်ရှင်းမှုနှင့် ဆပ်ပြာစသည် ပြည့်စုံမှုဆောင်ရွက်ခြင်း။
(ဃ) ကျောင်းသား အရပ်သား ပရိသတ်နှင့် သံဃာ့ပရိသတ်တို့အား သူတပါးအပြစ်မမြင်အောင် ထိန်းသိမ်းပေးခြင်း။
(င) ဆူညံရိုင်းပြစွာ ကစားခြင်း ကြည်ညိုဘွယ်ကို ပျက်စေခြင်းစသည်တို့ကို တားမြစ်ပေးခြင်း။
(စ) လဆုတ် ၅-၆-၇-ရက်တို့၌ ဆွမ်းခံအထွက် အလုံးစုံသိုက်မြိုက်ပြည့်စုံစေလျက် ကြည်ညိုဘွယ်ဖြစ်အောင် ဆောင်ရွက်ရခြင်းစသည်။

**ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်**
**၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် အနှစ်တရာပြည့်ပူဇော်ပွဲ**

**၅-ညှော်ခံရေးအဖွဲ့**

၁။ ဘုရားကလေး-အုဌ်ကန်ဆရာတော် ဦးသီလာစာရ (ဥက္ကဋ္ဌ)
၂။ ခလပ်-အရှေ့ကျောင်းဆရာတော် ဦးနာဂိန္ဒ (ဒု-ဥက္ကဋ္ဌ)
၃။ ဒေးစွန်ပါ-ဆင်ပုံးတောရဆရာတော် ဦးကုဏ္ဍလ (ဒု-ဥက္ကဋ္ဌ)
၄။ ပဲခူး-ရွှေဂူဆရာတော် ဦးဉာဏာလင်္ကာရ (အဖွဲ့ဝင်)
၅။ ကလိ-ကန်သာဆရာတော် ဦးတေဇနိယ ။
၆။ ပဲခူး-စန္ဒာရုံဆရာတော် ဦးနန္ဒဝံသ ။
၇။ တပ်ကလေး-မဏိစည်သူဆရာတော် ဦးဝိသုဒ္ဓ ။
၈။ ပဲခူး-ဟံသာဝတီဆရာတော် ဦးအရိန္ဒမ ။
၉။ ပျဉ်ပုံကြီး-စွယ်တော်ဆရာတော် ဦးဝါသဝ ။



အချက်အပြုတ်သမားများကလည်း တမျိုးကြိုးစားကြသည်။



ရေနွေးတာဝန်ခံပုဂ္ဂိုလ်များကလည်း ဤသို့တပင်တပန်း ဆောင်ရွက်ကြပေသည်။

| | | |
|---|---|---|
| ၁၀။ ဈေးညောင်ပင်-သိမ်ကုန်းဆရာတော် | ဦးသောဘဏ | (အဖွဲ့ဝင်) |
| ၁၁။ ကော့ဝင်း-ရွှေကျင်ကျောင်းဆရာတော် | ဦးသောဘဏ | ။ |
| ၁၂။ ပျဉ်ပုံကြီး-အမ္ဗဝနာရုံဆရာတော် | ဦးကောဏ္ဍည | ။ |
| ၁၃။ ဇောင်းတူ-သာသနဝေပုလ္လဆရာတော် | ဦးဇဋိလ | ။ |
| ၁၄။ ပဲခူး-ခေမာရုံသီဆရာတော် | ဦးဇာဂရ | ။ |
| ၁၅။ ပဲခူး-ရွှေအတ္တုပ်ဆရာတော် | ဦးမဏ္ဍလ | ။ |
| ၁၆။ ရွှေလှေ-သိမ်ကံဆရာတော် | ဦးဇောတိက | ။ |
| ၁၇။ ဒညင်းကုန်း-ပိဋကတ်မဥ္ဇူဆရာတော် | ဦးကေသရ | ။ |
| ၁၈။ ရွှေဂူလေး-မဏိရတနာဆရာတော် | ဦးအဂ္ဂဝံသ | ။ |
| ၁၉။ သံကြိုးဝိုင်း-ရေလယ်ဆရာတော် | ဦးဂဏုတ္တမ | ။ |
| ၂၀။ ပွဲစားကြီးကုန်း-အဘယာရုံဆရာတော် | ဦးသုနန္ဒ | ။ |
| ၂၁။ ပဲခူး-ကြခတ်ဝိုင်းဆရာတော် | ဦးဇောတိပါလ | (အကျိုးဆောင်) |
| ၂၂။ ပဲခူး-ကြခတ်ဝိုင်း စာချ | ဦးမုနိန္ဒာဘိဝံသ | (ဒု-အကျိုးဆောင်) |
| ၂၃။ မြစ်ကျိုး-သာသနပဇ္ဇောတာရုံဘုန်းကြီး | ဦးကုသလ | (ဒု-အကျိုးဆောင်) |

ထိုအဖွဲ့၏ တာဝန်များမှာ

(က) အာဂန္တုကဆရာတော်အားလုံးတို့အား လိုက်လံတွေ့ဆုံ၍ အာလာပသလ္လာပစကားတို့ဖြင့် မေးမြန်းပြောဆိုနိုင်ရန် နာယကဆရာတော် ပဓာနဆရာတော်တို့အား စေ့စပ်ပေးခြင်း။

(ခ) အာဂန္တုကဆရာတော်များ၏ လိုအပ်သည်များကို ပြည့်စုံအောင် ဂိုဏ်းစီးထေရ်ကြီးများ၏ ညွှန်ကြားချက်အရ ဆောင်ရွက်ပေးခြင်း။

(ဂ) ရာပြည့်ပွဲ၌ လိုအပ်သည်နှင့် ကောင်းနိုးရာရာ မှန်သမျှတို့ကို လိုက်လံလေ့လာကာ သက်ဆိုင်ရာအကြီးအကဲအား သတိပေးလျက် ညွှန်ကြားချက်ကိုယူပြီး ပြုစုကူညီပေးခြင်း။

(ဃ) ရာပြည့်ပွဲတွင် ကပ်မည့်ဆွမ်းလှူည့်နှင့် အချိုပွဲ ဒကာများစာရင်းကို ကြိုတင်ပုံနှိပ်ကမ်းလှမ်းခြင်း။

(င) မှတ်တမ်းအတွက် ဆွမ်းကွမ်း အချိုပွဲ အဖျော်ယမကာစသည် ကပ်လှူသူတို့၏ နေ့စွဲ ရပ်ကွက်စသည်နှင့်တကွ မှတ်သင့်မှတ်ရာတို့ကို အပြည့်အစုံမှတ်ခြင်းစသည်။

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်
၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် အနှစ်တရာပြည့် ပူဇော်ပွဲ

၆-တရားပွဲသည် စီစဉ်ရေးအဖွဲ့

| | | |
|---|---|---|
| ၁။ ရန်ကုန်-ကျိုက်ဝိုင်း ဂန္ဓာရုံဆရာတော် | ဦးဇလန္ဒက | (ဥက္ကဋ္ဌ) |
| ၂။ တာဝဘူတာ-ဇလဲထော်ဆရာတော် | ဦးနန္ဒသိရိ | (ဒု-ဥက္ကဋ္ဌ) |
| ၃။ ကလိ-ရေလယ်ဆရာတော် | ဦးဉာဏဝံသ | (ဒု-ဥက္ကဋ္ဌ) |



ဤသို့ အချိန်မရွေး ကုသပေးပါသည်၊ စားပွဲအနီးထိုင်နေသူမှာ တောင်စွန်းဆရာကြီးဖြစ်သည်။



ကျောင်းအမကြီး ဒေါ်အုန်းနှင့်အဖွဲ့ဝင်များ မိမိတို့ဆွမ်းလှည့်အတွက် ပြင်ဆင်လုပ်ကိုင်နေကြသည်။

| | | |
|---|---|---|
| ၄။ ပဲခူး-မျက်နှာတော်ဆရာတော် | ဦးနာဂိန္ဒ | (အဖွဲ့ဝင်) |
| ၅။ ဖေါင်တော်သီ-ရတနာဘုံကျော်ဆရာတော် | ဦးပဏ္ဍိတ | ။ |
| ၆။ ပဲခူး-သာသနမဏ္ဍိုင်ဆရာတော် | ဦးပညာဇောတ | ။ |
| ၇။ ထန်းတောကြီး-ရွှေဘုန်းရှိန်ဆရာတော် | ဦးပဏ္ဍဝံသ | ။ |
| ၈။ ပဲခူး-ပဓာနိကာရာမဆရာတော် | ဦးသဇ္ဇန | ။ |
| ၉။ ကျိုက်ကေ-သုခကာရီဆရာတော် | ဦးစန္ဒောဘာသ | ။ |
| ၁၀။ ဖိုလ်ကုန်း-မဏိဇေယျုံဆရာတော် | ဦးဝါသဝ | ။ |
| ၁၁။ ကမာပါ-ကံကြီးဆရာတော် | ဦးကောဏ္ဍည | ။ |
| ၁၂။ သူဌေးကုန်း-စန္ဒာသီရိဆရာတော် | ဦးကေသရ | ။ |
| ၁၃။ ဈေးညောင်ပင်-နန္ဒဝန်ဆရာတော် | ဦးဝိသုဒ္ဓါစာရ | ။ |
| ၁၄။ ဈေးဖလို-ဓမ္မသမ္မဒါရုံဆရာတော် | ဦးဇောတိက | ။ |
| ၁၅။ ဝိထို-သာသနပဇ္ဇောတာ ရုံဆရာတော် | ဦးကောဝိဒ | ။ |
| ၁၆။ တောင်သူစု-စိန်ကျောင်းဆရာတော် | ဦးပညာသာမိ | ။ |
| ၁၇။ ပဲခူး-ဒီပါရုံဆရာတော် | ဦးဣန္ဒာစရိယ | ။ |
| ၁၈။ ပဲခူး-ကိုးသိန်းဆရာတော် | ဦးတိလောက | ။ |
| ၁၉။ ပဲခူး-ကြခတ်ဝိုင်းဆရာတော် | ဦးဇောတိပါလ | (အကျိုးဆောင်) |
| ၂၀။ ပဲခူး-ကြခတ်ဝိုင်းစာချ | ဦးမေဃိယာဘိဝံသ | (ဒု-အကျိုးဆောင်) |
| ၂၁။ တာဝ-ရွှေနန်းရိပ်သာဘုန်းကြီး | ဦးဂမ္ဘီရဗုဒ္ဓိ | (ဒု-အကျိုးဆောင်) |

**ထိုအဖွဲ့၏တာဝန်များမှာ**

(က) ရာပြည့် အခမ်းအနားဖွင့်ပွဲ အစီအစဉ်ရေးဆွဲခြင်း။
(ခ) ရွတ်ဘတ်လျှောက်ထားမည့်ပုဂ္ဂိုလ်များ ရှာဖွေခြင်း။
(ဂ) မပြတ်မစဲ ဝိနည်းပါဠိတော် ရွတ်ရန် ဆောင်ရွက်ခြင်း။
(ဃ) နေ့စဉ် ၂-နာရီအချိန် ဩဝါဒခံယူပွဲ၌ ဩဝါဒပေးမည့်ဆရာတော်အား ကြိုတင်လျှောက်ထားခြင်း။
(င) ဆိုင်ရာအကြောင်းအရာတို့ကို ဖွင့်ပွဲလာပရိသတ်တို့အား ကြေငြာပေးခြင်း။
(စ) နေ့စဉ် တရားပွဲများအတွက် ရပ်ဝေးရပ်နီးအသီးသီးတို့အား ကြိုတင်ဘိတ်ကြားခြင်း၊ ကြော်ငြာခြင်း။
(ဆ) လမ်းဆုံလမ်းခွတို့၌ ပိုစတာများကပ်ခြင်း။
(ဇ) အလှည့်ကျ ဓမ္မကထိက ဆရာတော်များအမည်ကို ရိုက်နှိပ်ကမ်းလှမ်းခြင်း။
(ဈ) ဓမ္မာရုံကြီးအတွင်းနှင့် ပတ်ဝန်းကျင်တို့၌ တင့်တယ်သာယာစိုပြေအောင် ဆောင်ရွက်ခြင်း။
(ည) အသံချဲ့စက်များ ပြည့်စုံအောင် ရာထားခြင်း။
(ဋ) သင်္ဂါယနာအခမ်းအနားပြင်ဆင်ခြင်း၊ ရွတ်ဘတ်ရေး စီစဉ်ခြင်း၊ ရုပ်ရှင်ရိုက်ခြင်း။
(ဌ) ရာပြည့်ဂုဏ်ပြုကဗျာများကို ရွတ်ဆိုရန် စီစဉ်ခြင်း။
(ဍ) အစည်းအဝေး အခမ်းအနားစချိန် တိုးကြီးခေါက်ခြင်းစသည်။

## ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်

## ၁၃၃၂-ခုနှစ်၊ ဝိနည်းစာပြန် အနှစ်တရာပြည့်ပူဇော်ပွဲ

### ၇-မှတ်တမ်းပြုစုရေးအဖွဲ့

| | | | |
|---|---|---|---|
| ၁။ | ညောင်လေးပင်-တောရကြီးဆရာတော် | ဦးဇာဂရ | (ဥက္ကဋ္ဌ) |
| ၂။ | မင်းရွာ-အရှေ့ကျောင်းဆရာတော် | ဦးကုဏ္ဍလ | (ဒု-ဥက္ကဋ္ဌ) |
| ၃။ | ရွှေကျင်-ဒက္ခိဏာရာမဆရာတော် | ဦးဣန္ဒာစရိယ | (ဒု-ဥက္ကဋ္ဌ) |
| ၄။ | သာဂလ-သန္တာရုံဆရာတော် | ဦးကေတုမာလာ | (အဖွဲ့ဝင်) |
| ၅။ | ကမာနတ်-မဟာဓမ္မိကာရုံဆရာတော် | ဦးသီရိဇ | ။ |
| ၆။ | နောင်ပတ္တရာ-ပုဗ္ဗာရုံဆရာတော် | ဦးသောဘဏ | ။ |
| ၇။ | ကမာနတ်-ကန်တော်ဦးဆရာတော် | ဦးကောဝိဒ | ။ |
| ၈။ | ဝမ်းဘဲအင်း-ဘာဝနာရုံဆရာတော် | ဦးရေဝတ | ။ |
| ၉။ | ဘုရားသုံးဆူ-နာဂဝန်ဆရာတော် | ဦးကောသလ္လ | ။ |
| ၁၀။ | ဒေးကနင်း-မြဘုန်းရှိန်ဆရာတော် | ဦးသီဟ | ။ |
| ၁၁။ | ပဲခူး-သာသနဟိတကာရီဆရာတော် | ဦးပဏ္ဍဝ | ။ |
| ၁၂။ | ဝေါမြို့-လောကဓာတုဆရာတော် | ဦးအရိယဝံသ | ။ |
| ၁၃။ | အိုးဘို-ဥတ္တရာရုံဆရာတော် | ဦးဥက္ကံသ | ။ |
| ၁၄။ | ပဲခူး-ခေမာဦးဆရာတော် | ဦးဇနိတ | ။ |
| ၁၅။ | ဘုရားပို-တောရကျောင်းဆရာတော် | ဦးပဏ္ဍိတ | ။ |
| ၁၆။ | ဝမ်းဘဲအင်း-စိတ္တသုခဆရာတော် | ဦးဝါသေဋ္ဌ | ။ |
| ၁၇။ | ဖလေး-ရွှေကျောင်းကုန်းဆရာတော် | ဦးပညာ | ။ |
| ၁၈။ | ဘုရားသုံးဆူ-ရွာသစ်ကျောင်းဆရာတော် | ဦးအဂ္ဂ | ။ |
| ၁၉။ | ပဲခူး-ရွှေငုံးမင်းဆရာတော် | ဦးဇာဂရ | ။ |
| ၂၀။ | ပဲခူး-ကြခတ်ဝိုင်းဆရာတော် | ဦးဇောတိပါလ | (အကျိုးဆောင်) |
| ၂၁။ | ပဲခူး-ကြခတ်ဝိုင်းစာချ | ဦးသိရိန္ဒာဘိဝံသ | (ဒု-အကျိုးဆောင်) |
| ၂၂။ | ပဲခူး-ကြခတ်ဝိုင်းစာချ | ဦးပဏ္ဍိတဝရာဘိဝံသ | (ဒု-အကျိုးဆောင်) |

### ထိုအဖွဲ့၏ တာဝန်များမှာ

(က) စာပြန်စာရင်းပြုစုခြင်း။

(ခ) ရာပြည့်ကြွ သံဃာ (၁၀၀၀) တို့၏ ဂုဏ်ထူး အသက် သိက္ခာ လိပ်စာနှင့်တကွ စာရင်း ပြုစုခြင်း။

(ဂ) ပင့်စာများ ကြိုတင်ပုံနှိပ်ဆက်ကပ်ခြင်း။

(ဃ) မေးမြန်းသမျှတို့ကို ပြန်ကြားခြင်း၊ ရှာဖွေပေးခြင်း၊ သက်ဆိုင်ရာသို့ ပို့ပေးခြင်း။
(င) ယခုနှစ် စာပြန်ပွဲ အစအဆုံး အပိုင်းကဏ္ဍအသီးသီးတို့ဖြင့် ရာပြည့်ပွဲ၏ ပုံသဏ္ဌာန်ပေါ်အောင် ဓာတ်ပုံအသီးသီးနှင့် မှတ်တမ်းတခုပြုစုခြင်း။
(စ) စာပြန်ဝိုင်းကြပ်ဆရာတော်များ စီစဉ်ခြင်း။
(ဆ) ဝေဘန်စရာ ဝတ္ထုပစ္စည်းရှိက သင့်အောင် ဝေဘန်ပေးခြင်း-စသည်။



ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ နာယကဆရာတော်များနှင့် ကျောင်းထိုင်ဆရာတော်များ။



ဤသို့ တပါးစီ လှူဘွယ်ပစ္စည်းများ ကပ်လှူသည်၊ နာယကကြီး ဦးစိန် အသင့်စောင့်နေသည်။

## ပဲခူးမြို့ အရညဝါသီ ရွှေကျင်နိကာယ
## သုံးဌာန ပူးတွဲပူဇော်ပွဲကြီး
## ဖြစ်မြောက်အောင်မြင်ရေးအတွက် စည်းဝေးဆုံးဖြတ်ချက်

ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဝိနည်းစာပြန် နှစ်တရာပြည့် သုံးဌာန ပူဇော်ပွဲကြီး ဖြစ်မြောက်ရေးအတွက် ပဲခူးမြို့ပေါ်ရှိ ရပ်ကွက်အသီးသီးမှ ဒါယကာ ဒါယိကာမများသည် ၁၃၃၂-ခုနှစ်၊ သီတင်းကျွတ်လဆန်း (၁၀) ရက်နေ့ နေ့ (၁၁) နာရီတွင် ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်း သာသနာ့ ဗိမာန်ကြီး၌ သဘာပတိအဖြစ် ဦးရွှေဂဲက ဆောင်ရွက်၍ အခမ်းအနားမှူးအဖြစ် ဦးရွှေကျင်က ဆောင်ရွက်လျက် အောက်ပါအတိုင်း ဆွေးနွေး ညှိနှိုင်း တိုင်ပင် ဆုံးဖြတ်ကြပါသည်။

၁။ ၁၃၃၂-ခုနှစ်၊ ဝါဆိုလဆုတ် (၁၂) ရက်နေ့ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဂိုဏ်းလုံးကျွတ် (ကြခတ်ဝိုင်း-ဗဟိုဌာန) သံဃာ့အစည်းအဝေးကြီးမှ ထောက်ခံပြဋ္ဌာန်းအပ်သော လစဉ် နာယကအစည်းအဝေး မှတ်တမ်းများပါ အချက်များကို အကြောင်းပြု၍ ဒါယကာ ဒါယိကာမများ၏ ဝေယျာဝစ္စလုပ်ငန်းဆောင်တာများကို သုံးဌာနပူဇော်ပွဲကြီး ထမြောက်အောင်မြင်ရေးအတွက် ဗဟို ကော်မီတီကြီးတခု ဖွဲ့စည်းဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည်။

၂။ နာယကအဖြစ် စိတ်ပါဝင်စားသောပုဂ္ဂိုလ်များကို တင်မြှောက်ရန်။

၃။ ဗဟိုကော်မီတီအစည်းအဝေး တခုနှင့်တခုအကြား လုပ်ငန်းများကို ဗဟိုကော်မီတီ၏ ကိုယ်စား လုပ်ဆောင်နိုင်ရန် ဗဟိုကော်မီတီ အလုပ်အမှုဆောင်ကော်မီတီတခု ဖွဲ့စည်းဆောင်ရွက်ရန်။

၄။ ဗဟိုအလုပ်အမှုဆောင်ကော်မီတီတွင် ဗဟိုကော်မီတီ ဥက္ကဋ္ဌတယောက်၊ ဒု-ဥက္ကဋ္ဌတယောက် တို့နှင့် ဗဟိုကော်မီတီ အတွင်းရေးမှူး (၄) ယောက်တို့ ပါဝင်ပြီး ကော်မီတီအဖွဲ့ငယ်များမှ ဥက္ကဋ္ဌနှင့် အတွင်းရေးမှူးတို့ပါဝင်ရန် ဖြစ်သည်။

၅။ ကော်မီတီအဖွဲ့ငယ်များကို အောက်ပါအတိုင်း ဥက္ကဋ္ဌတယောက်၊ အတွင်းရေးမှူးတယောက် ဖြင့် သင့်တော်သောအဖွဲ့ဝင်ဦးရေထား၍ ဖွဲ့စည်းရန်။

၁။ ဘဏ္ဍာရေးကော်မီတီ၊

၂။ မွမ်းမံပြင်ဆင်ရေးကော်မီတီ၊

၃။ ကျန်းမာသန့်ရှင်းရေးကော်မီတီ၊

၄။ ဧည့်ခံကြိုဆိုရေးကော်မီတီ၊

၅။ ဆွမ်းကွမ်းအဖျော်ယမကာကော်မီတီ၊

၆။ ပြန်ကြားရေးကော်မီတီ၊



ဖွင့်ပွဲနေ့ အချိုပရိသတ်ကို ဤသို့တွေ့ရသည်၊ သံဃာ ၁၀၆၄-ပါးနှင့် လူပရိသတ်
ကြပ်တိုး ပြွတ်သိပ်နေသည်။



ဆေးတိုက်ပိုင်ရှင် ဦးမြတ်စိုး (ဗိုလ်ဘုန်း) နှင့် ဇနီး ဒေါ်ခင်အေး မိသားစုတို့ ဤသို့ကြည်နူးစွာဖြင့်

၇။ အထွေထွေဆောင်ရွက်ရေးကော်မီတီ —

ဟု ဖွဲ့စည်းလျက် ၎င်းတို့၏ ယေဘုယျလုပ်ငန်းများပါ သတ်မှတ်ပေးရန် ဖြစ်သည်။

ဗဟိုကော်မီတီဥက္ကဋ္ဌအဖြစ် ဦးဘသိန်း၊ ဒု-ဥက္ကဋ္ဌအဖြစ် ဦးရွှေဂဲ၊ အတွင်းရေးမှူးများအဖြစ် ၁-ဦးရွှေကျောင်။ ၂-ဦးစံရင်လေး။ ၃-ဦးစိန်မောင်။ ၄-ဦးအုန်းကြည်တို့ ဖြစ်သည်။

စာရင်းစစ်အဖြစ် ဦးလှနှင့် ကော်မီတီအဖွဲ့ဝင်များမှ ဥက္ကဋ္ဌနှင့် အတွင်းရေးမှူးများကို ဗဟို အလုပ်အမှုဆောင်အဖြစ် တာဝန်ပေးရန် ဆုံးဖြတ်ကြသည်။

အထက်ဖော်ပြပါ အဖွဲ့များကို ပူးတွဲပါစာရင်းများအရ ဖွဲ့စည်းလျက် အသီးသီး တာဝန်ခွဲဝေကြ သည်။

၎င်းပြင် မိမိတို့အဖွဲ့ဝင်များကို သင့်တော်သလို ပြင်ဆင်ဖွဲ့စည်းနိုင်ကြောင်း အများသဘောတူ ဆုံးဖြတ်ကြပြီးလျှင် အစည်းအဝေးကို ညနေ (၄) နာရီတွင် ရုပ်သိမ်းကြပါသည်။

(ပုံ) ရွှေကျောင်
အကျိုးဆောင်

(ပုံ) ရွှေဂဲ
သဘာပတိ

## ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ

## သုံးဌာနပူဇော်ပွဲကြီး ကျင်းပရေး

## နာယက အကြံပေးအဖွဲ့ဝင်လူကြီးများနှင့် တာဝန်များ။

| | | | |
|---|---|---|---|
| ၁။ | ဦးသူတော် | ရွှေခြူးဆေးလိပ်ရုံပိုင်ရှင် | ဈေးပိုင်းရပ် |
| ၂။ | ဦးချစ်ဖေ | စကြာဆေးလိပ်ရုံပိုင်ရှင် | ပန်းလှိုင်ရပ် |
| ၃။ | ဦးအုန်းခင် | စိန်ဆေးလိပ်ရုံပိုင်ရှင် | လိပ်ပြာကန်ရပ် |
| ၄။ | ဦးလုံဘား | လဘက်ခြောက်ကုန်သည် | ညောင်ဝိုင်းရပ် |
| ၅။ | ဦးကျော်စိန် | စက်ပိုင်ရှင် | ဇိုင်းဂနိုင်းရပ် |
| ၆။ | ဦးသာဒင် | ကျောင်းအုပ်ဆရာကြီးဟောင်း | ကိုယ့်မင်းကိုယ့်ချင်းလမ်း |
| ၇။ | ဦးသင်း | ယက်ကန်းပိုင်ရှင် | ဘုရားလမ်း |
| ၈။ | ဦးချစ်ထွန်း | | ဇိုင်းဂနိုင်းတောင်ပိုင်း |
| ၉။ | ဦးဖိုးဒေါင်း | ကုန်သည် | ဈေးပိုင်း |
| ၁၀။ | ဦးစိန် | | ညောင်ဝိုင်းတောင်ပိုင်း |
| ၁၁။ | ဦးဘထွန်း | ရ လ က ဥက္ကဋ္ဌ | ၎င်း |
| ၁၂။ | ဦးပု | မြန်မာသုမားတော် | ဟသ်ာကန်းရပ် |
| ၁၃။ | ဦးမောင်မောင်(၁) | ရွှေနေ | ဘုရားလမ်း |
| ၁၄။ | ဦးထွန်းမြင့် | ရွှေနေ | ဈေးပိုင်း |
| ၁၅။ | ဦးအင်းဟုတ် | | |
| ၁၆။ | ဦးဘရင် | | ရွာသစ် |
| ၁၇။ | ဦးအုန်းရွှေ | ရ လ က ဥက္ကဋ္ဌ | ဈေးပိုင်းရပ် |
| ၁၈။ | ဦးတင်မောင် | ရတနာကုန်သည် | ဈေးပိုင်းရပ် |
| ၁၉။ | ဦးရှိရှိန် | အငြိမ်းစား | ပန်းလှိုင် |
| ၂၀။ | ဦးထွန်းလှိုင် | ပိဋကပါတ်ဆွမ်းလောင်းအသင်း ဥက္ကဋ္ဌ | ပန်းလှိုင် |
| ၂၁။ | ဦးထွန်းဝင်း | သာသနာရေးအရာရှိ | ပဲခူး |
| ၂၂။ | ဦးဘသိန်း | ကြခတ်ဝိုင်းသာသနာပြုအသင်း | ပဲခူး |
| ၂၃။ | ဦးထွန်းလှိုင် | ကြခတ်ဝိုင်းသာသနာပြုအသင်း | ပဲခူး |

အထက်ပါ နာယကအဖွဲ့ဝင် လူကြီးမင်းများတို့သည် အားလပ်ခွင့်ကြုံကြိုက်ပါက ကြခတ်ဝိုင်းကျောင်းတိုက်အတွင်းသို့ ကြွရောက်ကြလျက် ၎င်းကျောင်းတိုက်အတွင်း၌ ကျင်းပမည့် သုံးဌာန ပူဇော်ပွဲကြီးနှင့် ပတ်သက်၍ ကောင်းမြတ်သော အကြံဉာဏ်များနှင့် တာဝန်ခံ ဆောင်ရွက်သူများတို့၏ ချို့ယွင်းချက်များစသည်တို့ကို ထိုသုံးဌာန ပူဇော်ပွဲတော်ကြီး ကျင်းပရေး ဦးစီးအဖွဲ့ဝင်များအား၎င်း၊ ဆပ်ကော်မီတီဝင်များအား၎င်း ပြောကြားသတိပေးရန်ဖြစ်ပါသည်။

ပဲခူးမြို့ အရညဝါသီ ရွှေကျင်နိကာယ ၃-ဌာန ပူးတွဲပူဇော်ပွဲကြီး ကျင်းပရေး
**ဘဏ္ဍာရေးဆပ်ကော်မီတီအဖွဲ့နှင့် လုပ်ငန်းများ။**

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဦးချစ်လှိုင် | ဥက္ကဋ္ဌ | ၁၁။ | ဦးပါချင်း | အဖွဲ့ဝင် |
| ၂။ | ဦးစိန်မောင် | အတွင်းရေးမှူး | ၁၂။ | ဦးဟုတ်ကြိုင် | ॥ |
| ၃။ | ဦးစံရင်ကြီး | အဖွဲ့ဝင် | ၁၃။ | ဦးမောင်မောင် | ॥ |
| ၄။ | ဦးရွှေဂဲ | ॥ | ၁၄။ | ဦးမြမောင် | ॥ |
| ၅။ | ဦးညွန့် | ॥ | ၁၅။ | ဦးလှထွန်း | ॥ |
| ၆။ | ဦးသူတော် | ॥ | ၁၆။ | ဦးမြို့ | ॥ |
| ၇။ | ဦးစံရင်လေး | ॥ | ၁၇။ | ဦးအောင်စိန် | ॥ |
| ၈။ | ဦးဟုတ်ဆိုင် | ॥ | ၁၈။ | ဦးထွန်းရှိန် | ॥ |
| ၉။ | ဦးတင်အုန်း | ॥ | ၁၉။ | ဦးအုန်းကြွယ် | ॥ |
| ၁၀။ | ဦးရွှေထွန်း | ॥ | ၂၀။ | ဦးသောင်းရွှေ | ॥ |

ဘဏ္ဍာရေး ဆပ်ကော်မီတီသည် ရာပြည့်စာပြန်ပွဲတော်ကြီး ကျင်းပရာ၌ အထွေထွေ ကုန်ကျမည့် ငွေကြေးပမာဏအတွက် တာဝန်ယူရမည့် အဖွဲ့ဖြစ်ပါသည်။ ထိုအဖွဲ့သည် ဘဏ္ဍာရေးငွေ ရရှိရေးအတွက် အောက်ဖော်ပြပါ ပုံစံ ၄-မျိုးကို အသုံးပြု၍ အလှူငွေများ ကောက်ခံသင့်ပါသည်။

၁။ အဖွဲ့ဝင်လူကြီးများသည် ပဲခူးမြို့ ၁၉-ရပ်ကွက်ရှိ သာသနာရေး အားပေးချီးမြှောက်လိုသော ပုဂ္ဂိုလ်များနှင့် ဆက်သွယ်၍ ဆွေးနွေးညှိနှိုင်းပြီးလျှင် ၎င်းရပ်ကွက်မှ အလှူငွေ ကောက်ခံပေးမည့် ဥပါသကာများ ရွေးချယ်ခန့်အပ်ပြီး ဖြတ်ပိုင်းစာအုပ်များ ပေးအပ်လျက် ကောက်ခံစေခြင်း။

၂။ ၁၉-ရပ်ကွက်တွင်းမှာ မှီတင်းနေထိုင်ကြသော စီးပွါးရေးကောင်းသူ ပုဂ္ဂိုလ်များထံ ချဉ်းကပ်ပြီး သဒ္ဓါတရားပေါက်အောင် ဟောပြောလျက် အလှူငွေများကောက်ခံခြင်း။

၃။ ၁၉-ရပ်ကွက်သို့ မော်တော်ကားဖြင့် လှည့်လည် ကြော်ငြာ ဟောပြောလျက် တနေရာပြီးတနေရာ အလှူငွေများကောက်ခံခြင်းနှင့်—

၄။ စာပြန်ပွဲတော်ကြီး ကျင်းပနေစဉ် ကျောင်းတိုက်အတွင်းရှိ မဏ္ဍပ်မှ အလှူဌာန ထားရှိလျက် အလှူငွေများ ကောက်ခံခြင်း။

ထိုအဖွဲ့သည် အလှူငွေများ ကောက်ခံခြင်းအပြင် စာပြန်သံဃာတော်များကို ရည်စူး၍ လာရောက် လှူဒါန်းကြသော ပဒေသာပင်များ လှူဘွယ်ပစ္စည်းများကိုလည်း လက်ခံသိမ်းဆည်းခြင်း တာဝန်ကိုပါ ဆောင်ရွက်ရပါမည်။

စာပြန်ပွဲတော်ကြီး ပြီးဆုံးသည့် နောက်ဆုံးနေ့တွင် စာပြန်သံဃာတော်များအား လှူဘွယ်ပစ္စည်း များကို ဝေဘန်မိကပြု၍ လှူဒါန်းရမည်ဖြစ်ရာ သို့ဝေဘန်မိကပြုရာတွင် မျှတပြည့်စုံမှု ရှိရန်လိုအပ်သော ရဟန်းတော်များ အသုံးအဆောင် ပစ္စည်းများကို ထပ်မံဝယ်ယူ ဖြည့်စွက်ခြင်းကိုပါ ပြုလုပ်ရပါမည်။

ဘဏ္ဍာရေးဆပ်ကော်မီတီသည် ငွေရေးကြေးရေးကို တာဝန်ယူရသော အဖွဲ့ဖြစ်သည်အားလျော်စွာ ငွေကြေးထိန်းသိမ်းခြင်းနှင့် စာရင်းအင်းများ ပြုစုရေးတို့၌ လုံခြုံတိကျ မှန်ကန်ရန် လိုအပ်ပါသဖြင့် အဖွဲ့ဝင်များသည် အထူးသတိပြု၍ ဆောင်ရွက်ကြရန် သတိပေးနှိုးဆော်အပ်ပါသည်။



ရှမ်းပြည် အောပန်းမြို့မှ ရာပြည့်အလှူရှင်များ၊ ဘယ်ဘက်အစွန်မှ ထိုင်နေသူမှာ ကျောင်းအမကြီး ဒေါ် သိန်းခင်ဖြစ်သည်။



ယနေ့တိုင် မမေ့နိုင်အောင် ဤသို့ ရာပြည့်အမှတ်အသားအဖြစ် ပုံသွားကြသည်။

**ညှိနှိုင်းကြိုဆိုရေး ဆပ်ကော်မီတီနှင့် လုပ်ငန်းစဉ်များ။**

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဦးဘကျော် | ဥက္ကဋ္ဌ | ၁၇။ | ဦးဟုတ်ကြိုင် | အဖွဲ့ဝင် |
| ၂။ | ဦးစိုးမြိုင် | အတွင်းရေးမှူး | ၁၈။ | ဦးသန်း | ။ |
| ၃။ | ဦးမောင်(မြတ်) | အဖွဲ့ဝင် | ၁၉။ | ဦးကျော်စိန်(ဆည်မြောင်း) | ။ |
| ၄။ | ဦးမောင်(ခို) | ။ | ၂၀။ | ဦးထွန်းစိန်(၂၁)လမ်း | ။ |
| ၅။ | ဦးစိန်မောင်(ကား) | ။ | ၂၁။ | ဦးထွန်းစိန်(ကုန်းပေါ်) | ။ |
| ၆။ | ဦးအုန်း(ရွှေ) | ။ | ၂၂။ | ဦးဘညွန့် | ။ |
| ၇။ | ဦးမြိုင် | ။ | ၂၃။ | ဦးဘဌေး | ။ |
| ၈။ | ဦးချစ်မောင် | ။ | ၂၄။ | ဦးတင်ဦး | ။ |
| ၉။ | ဦးတိုး | ။ | ၂၅။ | ဦးအောင်မြင့်(၂၃)လမ်း | ။ |
| ၁၀။ | ဦးပု | ။ | ၂၆။ | ဦးကျော်သိန်း(ကျောက်ကြီးစု) | ။ |
| ၁၁။ | ဦးချစ် | ။ | ၂၇။ | ဦးမြမောင်(အောင်မင်္ဂလာ) | ။ |
| ၁၂။ | ဦးသိန်းမောင် | ။ | ၂၈။ | ဦးစံမောင်(ညောင်ဝိုင်း) | ။ |
| ၁၃။ | ဦးအုန်းကြွယ် | ။ | ၂၉။ | ဦးသန်းမောင်(ဘဏ်) | ။ |
| ၁၄။ | ဦးသန်းမောင် | ။ | ၃၀။ | ဦးစိန်မောင်(ရုံးကြီးရပ်) | ။ |
| ၁၅။ | ဦးကျော်စိန်(ဒိုင်နမို) | ။ | ၃၁။ | ဦးသိန်းမောင်(အောင်မင်္ဂလာ) | ။ |
| ၁၆။ | ဦးအေး | ။ | ၃၂။ | ဦးထွန်းဝင်း(အငြိမ်းစားဆရာကြီး) | ။ |

ညှိနှိုင်းကြိုဆိုရေး အဖွဲ့ဝင်များသည် ကြိုတင်၍ မီရထားများနှင့် မော်တော်ကားများ ရရှိရေး ဈေးနှုန်းလျှော့ပေါ့ရေး ကိစ္စရပ်များကို စီစဉ်ဆောင်ရွက်ထားရန်။

ကျောင်းတိုက်အတွင်းရှိ ကျောင်းဆောင်အသီးသီးတွင် ဆရာတော်/သံဃာတော်များ သီတင်းသုံးနိုင်ရေးအတွက် သိက္ခာတော်အရ သပ္ပါယမျှတအောင် ပုံစံဇယားများ ရေးဆွဲ၍ နေရာသတ်မှတ်ထားရန်။

သံဃာတော်များ သီတင်းသုံးရာတွင် လိုအပ်သော ဖျာ ခေါင်းအုံးစသည့် အသုံးအဆောင်ပစ္စည်းများကိုလည်း ပြည့်စုံအောင် စီစဉ်ပေးထားရန်နှင့် ကြွရောက်လာတော်မူကြသောအခါ ကြိုဆိုခြင်း နေရာထိုင်ခင်းပေးခြင်းများကိုလည်း ဆောင်ရွက်ရန်။

ဆရာတော်/သံဃာတော်များ လိုအင်ဆန္ဒ ပြည့်စွမ်းနိုင်ရေးအတွက် ထာဝရအဖွဲ့ခွဲတခု ဖွဲ့ထားပြီးလျှင် အလှည့်ကျထိုင်လျက် အမြဲတစေ စီစဉ်ဆောင်ရွက်ပေးရန်။

ဘူတာရုံတွင် ခေတ္တ အပန်းဖြေရန် ပြင်ဆင်ထားရန်။

ကြွရောက်မည့်လမ်းများ အစီအစဉ်ရေးဆွဲရန်။

သံဃာတော်များ၏ ပစ္စည်းများအတွက် သယ်ယူ နေရာချထားပေးရန်။



ကျောင်းအမများ ဒီလိုကြုံကြိုက်တို့ မလွယ်ကြပါ။



ကျောင်းအမများ ဒီလိုဆုံဆိုက်တို့ မလွယ်လှပါ။

## မွမ်းမံပြင်ဆင်ရေးဆပ်ကော်မီတီ အဖွဲ့ဝင်များနှင့် လုပ်ငန်းစဉ်များ။

| | | | |
|---|---|---|---|
| ၁။ ဦးထွန်းခင် | ဥက္ကဋ္ဌ | ၆။ ဦးအောင်ငြိမ်း | အဖွဲ့ဝင်။ |
| ၂။ ဦးလူကလေး | အတွင်းရေးမှူး | ၇။ ဦးတင်ရွှေ (မီးသတ်) | ။ |
| ၃။ ဦးသန်းကျော်(ပန်းရံ) | အဖွဲ့ဝင် | ၈။ ဦးစိုးကြည်(လျှပ်စစ်) | ။ |
| ၄။ ဦးထွန်းရွှေ(ပန်းချီ) | ။ | ၉။ ဦးသန်းမောင်(ဝါယာရိန်း) | ။ |
| ၅။ ဦးဘိုကေ | ။ | ၁၀။ ဦးအုန်းညွန့် (ခရိုင်မီးသတ်အရာရှိ) | ။ |
| | | ၁၁။ ဦးမောင်မောင်ကြီး(မီးသတ်) | ။ |

မွမ်းမံပြင်ဆင်ရေးအဖွဲ့ဝင်များသည် ကျောင်းတိုက်ကြီးအတွင်းအပြင်တို့၌ ဆောက်လုပ်သင့် ဆောက်လုပ်ထိုက်သော အဆောက်အဦများ ပြည့်စုံလုံလောက်အောင် လုပ်ပေးရန်နှင့် ထိုအဆောက်အဦများ တင့်တယ်ခန့်ညားအောင် ဆင်ယင်မွမ်းမံသော တာဝန်များကို ထမ်းဆောင်ရန် ဖြစ်ပါသည်။

ထိုအဖွဲ့ဝင်များသည် သံဃာတော်များ သီတင်းသုံးနိုင်ရန် ယာယီကျောင်းဆောင်များ လူဧည့်သည်များ တည်းခိုရန် ဇရပ်များ အိမ်သာများ မဏ္ဍပ်များစသည်တို့ကို သင့်လျော်သော နေရာများတွင် ဆောက်လုပ်ရပါမည်။

ကျောင်းဝင်းအတွင်း၌ရှိသော သစ် ဝါး စသည်များကို ကျစ်လစ်စွာ သိမ်းဆည်းခြင်း ဓမ္မာရုံကြီးကို ယာယီအားဖြင့် လှပခန့်ညားစွာ ဆင်ယင်မွမ်းမံခြင်း လမ်းဆုံများ၌ မုခ်ဦးများဆောက်လုပ်ခြင်း ကျောင်းဝင်းအတွင်း လိုအပ်သောနေရာများတွင် မီးများထွန်းညှိနိုင်ရန် အင်အားကြီးသော မီတာများတပ်ဆင်ခြင်း မီ ကြိုးများ ဆက်သွယ်ခြင်း မီးသီးများလုံလောက်စွာ ရရှိအောင် ရှာဖွေခြင်း ကျောင်းဝင်းအပြင်လမ်းများ၌လည်း မီးများဆက်သွယ်ထွန်းညှိခြင်းစသော တာဝန်များကို ဆောင်ရွက်ရပါမည်။

ထို့ပြင် သာသနာ့အလံများဖြင့် ကျောင်းတိုက်အရှေ့ဘက်ရှိ တံတိုင်းများနှင့် ကျောင်းတိုက်အတွင်းရှိ အဆောက်အဦများတွင် လွှင့်ထူခြင်း စက္ကူဖြင့်ပြုလုပ်သော သာသနာ့အလံကလေးများကိုလည်း ကျောင်းတိုက်အတွင်း တင့်တယ်အောင် သွယ်တန်းခြင်းစသည့် တာဝန်များသာမက ထမင်းစားခုံ စားပွဲကုလားထိုင်များကိုလည်း ပြုလုပ်ခြင်း ငှါးရမ်းခြင်းတို့ကိုပါ တာဝန်ယူ ဆောင်ရွက်ပေးရပါမည်။

ထိုအဖွဲ့သည် စာပြန်ပွဲကြီး ပြီးဆုံးသွားပါက မိမိတို့ဆောက်လုပ်ထားသော အဆောက်အဦများကို ပြန်လည်ပို့ဆောင်ခြင်း တာဝန်များကိုပါ တပါတည်း ထမ်းဆောင်ကြရမည် ဖြစ်ပါသည်။



အနှစ် ၁၀၀-ပြည့် စာပြန်ပွဲကြီး၌ လှူဘွယ်ပစ္စည်းများကို ဤသို့ပြင်ဆင်ထားသည်။



သံဃာတော်အပါး ၁၀၀၀-ကျော်၏ ကိုယ်စိတ်
ချမ်းသာမှုအတွက် ဤသို့သန့်ရှင်းရေး လုပ်ကြသည်၊

**ကျန်းမာသန့်ရှင်းရေးဆပ်ကော်မီတီအဖွဲ့ဝင်များနှင့် လုပ်ငန်းစဉ်များ။**

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဦးအုံးကြည် | ဥက္ကဋ္ဌ | ၁၃။ | ဦးစိန်ဝင်း | အဖွဲ့ဝင် |
| ၂။ | ဦးတင်ဦး | အတွင်းရေးမှူး | ၁၄။ | ဦးသိန်း ၁၂-လမ်း | ။ |
| ၃။ | ဦးဘရီ | အဖွဲ့ဝင် | ၁၅။ | ဦးညဏ် | ။ |
| ၄။ | ဦးစံလင်း | ။ | ၁၆။ | ဦးချစ်အေး | ။ |
| ၅။ | ဒေါက်တာသန်းထွဋ် | ။ | ၁၇။ | ဦးစီတင်း | ။ |
| ၆။ | ဒေါက်တာကျော်ဦး | ။ | ၁၈။ | ဦးမောင်ကျင် | ။ |
| ၇။ | ဒေါက်တာစန်းစန်း | ။ | ၁၉။ | ဦးထွန်းကြည် | ။ |
| ၈။ | ဒေါက်တာခင်ပြုံးရီ | ။ | ၂၀။ | ဦးဘအေး | ။ |
| ၉။ | ဦးစိန်လွင် | ။ | ၂၁။ | သမားတော်ဦးလှနှင့်အဖွဲ့ | ။ |
| ၁၀။ | ဦးအုံး | ။ | ၂၂။ | မြသူဇာဆေးတိုက် | ။ |
| ၁၁။ | ဦးမြတ်မောင် ကျန်းမာရေးမှူး | ။ | ၂၃။ | ဦးလှသိန်း ကြက်ခြေနီအဖွဲ့ | ။ |
| ၁၂။ | ဦးကျော်လွင် ကျောက်ကြီးစု | ။ | ၂၄။ | ဒေါက်တာသက်တင် | ။ |

ကျန်းမာသန့်ရှင်းရေးအဖွဲ့ဝင်များသည် စာပြန်ပွဲကြီး မကျင်းပမီ အောက်ပါလုပ်ငန်းများကို ပြီးစီးအောင် ဆောင်ရွက်ထားရန် လိုအပ်ပါသည်။

(က) ကျောင်းဝင်းအတွင်း မြက်သစ်ပင်များ ရှင်းလင်းခြင်း

(ခ) ကျောင်းတိုက်အသီးသီးမှ အုဋ်တံတိုင်း နံရံများပွတ်တိုက်ခြင်း

(ဂ) ကျောင်းဝင်းတံတိုင်းနံရံများ ပွတ်တိုက်ခြင်း

(ဃ) ကျောင်းတိုက်ရှိ ကုဋီများ သန့်ရှင်းထားရှိခြင်း

(င) ကျောင်းအိမ်သာများကို ထုံး/ဆေးတို့ဖြင့် ပက်ဖျန်းခြင်း

(စ) မြန်မာဆေးပေးခန်းများ ထားရှိခြင်း

(ဆ) အင်္ဂလိပ်ဆေးပေးခန်းများ ထားရှိခြင်း

(ဇ) သူနာပြုအဖွဲ့များ ထားရှိခြင်း

(ဈ) သံဃာတော်များနှင့် လူပုဂ္ဂိုလ်များ နေထိုင်မကောင်းပါက ဂရုတစိုက် ဆေးဝါးများကုသခြင်း

(ည) နေ့စဉ်အမှိုက်များ သိမ်းဆည်းခြင်း လှဲကျင်းခြင်း စသည့်တာဝန်များ ထမ်းဆောင်ကြရန် လိုအပ်ပါသည်။



အရညဝါသီ ရွှေကျင်နိကာယ ဝန်ဆောင်နာယက
ကြခတ်ဝိုင်းဆရာတော် ဦးဇောတိပါလ ပွဲသိမ်းဩဝါဒပေးနေပုံ။

### ဆွမ်းကွမ်းအဖျော်ယမကာ ဆပ်ကော်မီတီဝင်များနှင့် လုပ်ငန်းစဉ်များ။

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဦးဘဝင်း | ဥက္ကဋ္ဌ | ၉။ | ဦးခင် | အဖွဲ့ဝင် |
| ၂။ | ဦးစံရင်လေး | အတွင်းရေးမှူး | ၁၀။ | ဦးသန်းဖေ | ။ |
| ၃။ | ဦးကျော် (ကျောက်ကြီးစု) | အဖွဲ့ဝင် | ၁၁။ | ဦးဘသန် ရီ | ။ |
| ၄။ | ဦးအောင်ရွှေ | ။ | ၁၂။ | ဦးသက်ဦး | ။ |
| ၅။ | ဦးလှသန်း | ။ | ၁၃။ | ဦးကြွယ် | ။ |
| ၆။ | ဦးအောင်စိန် | ။ | ၁၄။ | ဦးအေးမောင် ၇-လမ်း | ။ |
| ၇။ | ဦးညွန့် | ။ | ၁၅။ | ဦးသောင်းရွှေ | ။ |
| ၈။ | ဦးတင်မောင် | ။ | | | |

ဆွမ်းကွမ်း အဖျော်ယမကာ ဆပ်ကော်မီတီအဖွဲ့ဝင်များသည် စာပြန်ပွဲတော်ကြီးမတိုင်မီ ကြိုတင်၍ ဆွမ်းကွမ်း အလှူဒါယကာများ, အဖျော်ယမကာ အလှူဒါယကာများနှင့် ဆက်သွယ်၍ ယခုနှစ် ကျင်းပမည့် စာပြန်ပွဲတော်ကြီး၏ ဆွမ်းကွမ်း အဖျော်ယမကာဆိုင်ရာ အခြေအနေအရပ်ရပ်များကို တင်ပြညှိနှိုင်းကြရန် လိုအပ်ပါသည်။

ဆွေးနွေးညှိနှိုင်းပြီး၍ အတည်ပြုပြီးသောအခါ ဆွမ်းကွမ်း အဖျော်ယမကာ အလှူရှင်များ၏ ဆောင်ရွက်ရမည့် နေ့ရက် အချိန်နာရီ အမည်များ ပါဝင်သော ဇယားများ ပြုစုရေးသားလျက် အလှူရှင်များထံ ကြိုတင်ဖြန့်ဝေထားခြင်း၊ ကြော်ငြာသင်ပုန်းတွင်ကပ်ထားခြင်းများ ပြုလုပ်သင့်ပါသည်။

ထိုဆွေးနွေးညှိနှိုင်းချက်အရ ၎င်းတို့ကို လိုအပ်သော အိုး ပန်းကန် ခွက် စုခြင်း ခုံခင်း ရေချိုင့် လက်ဆေးဇလုံ စသည်များ ပြည့်စုံအောင် စုဆောင်းပေးခြင်းနှင့် လုပ်အားအကူအညီများကိုလည်း ဖြည့်စွက်ပေးရန် လိုအပ်သည်။

ထိုဆပ်ကော်မီတီအဖွဲ့ဝင်များသည် အလှူဒါယကာများနှင့် အမြဲတစေ ထိတွေ့အကြံဉာဏ်များ ပေးလျက် ၎င်းတို့၏ စိတ်ချမ်းသာမှုရှိအောင် ကူညီဆောင်ရွက်ပေးကြရန်လည်း လိုအပ်လှပါသည်၊

ဆွမ်းကွမ်းအလှူရှင် အသီးသီးနှင့် အဖျော်ယမကာအလှူရှင် အသီးသီးတို့၏ အမည်နေရပ် လိပ်စာနှင့် ၎င်းတို့လှူဒါန်းကြသောအခါ လှူဘွယ်ပစ္စည်းအရေအတွက် အလေးချိန်နှင့် ကုန်ကျငွေများ ပါဝင်သော စာရင်းဇယားများကိုလည်း ပြုစုရေးသားလျက် မှတ်တမ်းတင်ထားကြရန် ဆပ်ကော်မီတီတွင် သီးခြား တာဝန်ပေးအပ်၍ ဆောင်ရွက်သင့်သည်ဟုလည်း ထင်မြင်ယူဆပါသည်။

### ပြန်ကြားရေးဆပ်ကော်မီတီဝင်များနှင့် လုပ်ငန်းစဉ်များ။

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဦးခင် | ဥက္ကဋ္ဌ | ၈။ | ဦးစံ | အဖွဲ့ဝင် |
| ၂။ | ဦးထွန်းလှိုင် | အတွင်းရေးမှူး | ၉။ | ဦးလှ | ။ |
| ၃။ | ဦးသိန်းလွင် | အဖွဲ့ဝင် | ၁၀။ | ဦးဘဇံ | ။ |
| ၄။ | ဦးရွှေထွန်း | ။ | ၁၁။ | ဦးစိန်မောင်(ကား) | ။ |
| ၅။ | ဦးဟန်စိန် | ။ | ၁၂။ | ဦးချစ်မောင် | ။ |
| ၆။ | ဦးစန်းမြင့် | ။ | ၁၃။ | ဦးလှမောင် | ။ |
| ၇။ | ဦးဘနီ | ။ | ၁၄။ | ဦးသိန်းဟန်(ဈေးပိုင်း) | ။ |
| | | | ၁၅။ | ဦးမောင်တင် | အဖွဲ့ဝင် |

ပြန်ကြားရေး ဆပ်ကော်မီတီအဖွဲ့သည် စာပြန်ပွဲကြီး မကျင်းပမီ ကြိုတင်၍ သတင်းစာ၌ ထည့်သွင်း ကြော်ငြာခြင်း၊ ကြော်ငြာဆိုင်းဘုတ်များ၊ ကြော်ငြာစာရွက်များ ချိပ်ကပ်ခြင်း၊ ဝေငှခြင်း၊ အသံချဲ့စက်ဖြင့်မြို့တွင်းသို့လှည့်လည်၍ ကြော်ငြာခြင်း၊ ဟောပြောခြင်း၊ တရားနာဘိတ်ခြင်း၊ အလှူရှင်များအား ကြော်ငြာပေးခြင်းစသည့် ကိစ္စအဝဝကို ဆောင်ရွက်ရန် လိုအပ်ပါသည်။

ထိုအဖွဲ့သည် သံဃာတော်/ဆရာတော်များ စာပေးစာယူကိစ္စများကိုလည်း ဆောင်ရွက်ရန်။

**ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် အကြိမ် ၁၀၀-မြောက် စာပြန်ပွဲတော်ကြီး ကျင်းပရေးအတွက် အထွေထွေဆပ်ကော်မီတီ အဖွဲ့ဝင်များနှင့် လုပ်ငန်းစဉ်များ။**

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဗိုလ်ကြာညွန့် | ဥက္ကဋ္ဌ | ၁၁။ | ဦးဘခင် | အဖွဲ့ဝင် |
| ၂။ | ဦးအောင်စိန် | အတွင်းရေးမှူး | ၁၂။ | ဦးကျော်လှိုင် | ။ |
| ၃။ | ဦးစိန်မောင် | အဖွဲ့ဝင် | ၁၃။ | ဦးကျော်လွင် | ။ |
| ၄။ | ဦးရွှေကျင် | ။ | ၁၄။ | ဦးတင်ဦး | ။ |
| ၅။ | ဦးစံရင်လေး | ။ | ၁၅။ | ဦးသန်းဖေ | ။ |
| ၆။ | ဦးအုန်းကြည် | ။ | ၁၆။ | ဦးဘသန်းရီ | ။ |
| ၇။ | ဦးလှထွန်း | ။ | ၁၇။ | ဦးသူတော် | ။ |
| ၈။ | ဦးအောင်ရွှေ | ။ | ၁၈။ | ဦးကျင်မောင် | ။ |
| ၉။ | ဦးညွန့် | ။ | ၁၉။ | ဦးစံရင်ကြီး | ။ |
| ၁၀။ | ဦးခင် | ။ | ၂၀၊ | ဦးသောင်း(ညောင်ဝိုင်း) | ။ |

အထွေထွေဆပ်ကော်မီတီသည် အခြားဆပ်ကော်မီတီများ မနိုင်မနင်းရှိသည့် လုပ်ငန်းရပ်များကို ဝင်ရောက်ကူညီရန်သင့်သည့်အပြင် အောက်ပါလုပ်ငန်းတို့ကို အဓိကတာဝန်ယူ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(က) တရားပွဲကျင်းပရေး
(ခ) ဆွမ်းကြီးခံထွက်ရေး
(ဂ) သင်္ဂါယနာတင်ရေး

တရားပွဲကျင်းပနိုင်ရေးအတွက် ကြိုတင်၍ ဓမ္မကထိကများ ပင့်လျှောက်ထားခြင်း၊ တရားပွဲရက်များ ရေးဆွဲခြင်း၊ ကြော်ငြာခြင်း၊ တရားနာပရိသတ်တို့အား ဘိတ်ကြားခြင်း၊ တရားထောက်များစီစဉ်ထားခြင်း၊ တရားချီးမြှင့်မည့် ဆရာတော်များအား ပင့်လျှောက်ခြင်း၊ ပြန်လည်ပို့ဆောင်ခြင်း၊ တရားပလ္လင်များ ဆင်ယင်ခြင်း စသည်တို့ကို ဆောင်ရွက်သင့်ပါသည်။

ဆွမ်းကြီးခံရန်အတွက် နေ့ရက်နှင့် ရပ်ကွက်အစီအစဉ် ရေးဆွဲခြင်း၊ကြိုတင်ကြော်ငြာခြင်း၊ပစ္စည်းများ သိမ်းဆည်းရန် ဂုံနီအိတ် တောင်း မော်တော်ကားများနှင့် လူငယ်များအား စည်းရုံးခေါ်ယူခြင်း၊ ရရှိလာသော လှူဘွယ်ပစ္စည်းများကို စုပုံခြင်း၊ သိမ်းဆည်းခြင်း စသည်တို့ကို ဆောင်ရွက်သင့်ပါသည်။

သင်္ဂါယနာတင်ရေးအတွက် ကြိုတင်၍ နတ်ဝတ်တန်းဆာများ ပြုပြင်ရှာဖွေခြင်း၊ နတ်သိကြားအဖြစ် ဆောင်ရွက်မည့်သူများ ရွေးချယ်တာဝန်ပေးခြင်း၊ လေ့ကျင့်ခြင်း၊ အခမ်းအနားအတွက် စီစဉ်ခြင်းစသည်တို့ကို ဆောင်ရွက်သင့်ပါသည်။

## ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ရာပြည့် သုံးဌာနပူဇော်ပွဲကြီး ဖြစ်မြောက်အောင်မြင်ရေးအတွက် ရပ်ကွက်ပေါင်းစုံမှ ပါဝင်သော ဗဟိုအဖွဲ့ကြီး၏ ငွေစာရင်း ရှင်းလျက် အပြီးသတ် ဆွေးနွေးတိုင်ပင်ရန်

### ဘိတ်ကြားစာ

ဘိတ်ကြားအပ်ပါသည်။

ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဝိနယ စာပြန်ရာပြည့် သုံးဌာနပူဇော်ပွဲကြီးမှာ ၁၃၃၂-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၂ ရက်နေ့မှ ၈-ရက်နေ့အထိ အောင်မြင်စွာ ပြီးဆုံး ကျင်းပပြီး ဖြစ်ပါသည်။

ထိုသုံးဌာနပူးတွဲ အထူးပူဇော်ပွဲကြီးအတွက် ထမြောက်အောင်မြင်ရန် နာယကလူကြီးများနှင့်တကွ အဖွဲ့ငယ်များပါ ဖွဲ့စည်းဆောင်ရွက်ခဲ့ရာ ယေဘုယျတာဝန်များအရ လုပ်ငန်းများ ဆောင်ရွက်ခဲ့ခြင်း ရသုံး ငွေစာရင်း ရှင်းတမ်းများကိုပါ အပြီးသတ်အတည်ပြု မှတ်တမ်းတင်နိုင်ရန်နှင့် ရေစက်ချ အမျှဝေရန် ၁၃၃၂-ခု၊ နတ်တော်လဆန်း ၁-ရက်၊ (၂၉-၁၁-၇၀) တနင်္ဂနွေနေ့ ၁၁-နာရီအချိန် ပဲခူးမြို့ ကြခတ်ဝိုင်း ကျောင်းတိုက် ရာပြည့်ဓမ္မာရုံကြီးသို့ မပျက်မကွက် ကြွရောက်ပါရန် ဘိတ်ကြားအပ်ပါသည်။
အစည်းအဝေးကို ၁၂-နာရီ တိတိအချိန် စတင်ကျင်းပပါမည်။

### အစည်းအဝေးအစီအစဉ်။

၁။ ဂိုဏ်းဝန်ဆောင် ကြခတ်ဝိုင်းကျောင်းတိုက် ဆရာတော် ဦးဇောတိပါလထံ ငါးပါးသီလခံယူခြင်း၊ ဩဝါဒခံယူခြင်းနှင့် ရေစက်ချ အမျှပေးဝေခြင်း။

၂။ အစည်းအဝေး သဘာပတိတင်မြှောက်ခြင်း။

၃။ အခမ်းအနားမှူး တင်မြှောက်ခြင်း။

၄။ သဘာပတိမိန့်ခွန်း၊

၅။ နာယကအဖွဲ့ လူကြီးများ၏ကိုယ်စား အဖွဲ့ဝင်လူကြီး တဦး၏ မိန့်ခွန်း။

၆။ အဖွဲ့ငယ်များဖြစ်သော (၁) ဘဏ္ဍာရေးအဖွဲ့ (၂) မွမ်းမံပြင်ဆင်ရေးအဖွဲ့ (၃) ညှော်ခံကြိုဆိုရေးအဖွဲ့ (၄) ဆွမ်း ကွမ်း အဖျော်ယမကာအဖွဲ့ (၅) ကျန်းမာသန့်ရှင်းရေးအဖွဲ့ (၆) ပြန်ကြားရေးအဖွဲ့ (၇) အထွေထွေလုပ်ဆောင်ရေး အဖွဲ့တို့၏ လုပ်ဆောင်မှုများနှင့် ငွေစာရင်းရှင်းတမ်းများကိုပါ ဖတ်ကြားအတည်ပြုခြင်း။

**မှတ်ချက်။** ။အဖွဲ့ငယ်များ၏ ငွေစာရင်းရှင်းတမ်းကို စာရင်းစစ်များ၏ စစ်ဆေးထောက်ခံချက်များဖြင့် တင်ပြရန်ဖြစ်သည်။ စာရင်းစစ်များ၏ စစ်ဆေးချက် မပြီးသေးပါက ယေဘုယျအတည်ပြုချက် ယူထားပြီး စာရင်းစစ်များ၏ စစ်ဆေးချက်ပြီးမှသာလျှင် အတည်ဖြစ်ပါသည်။

၇။ ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်နှင့် ဝိနယစာပြန်ပွဲကြီး စတင်တည်ထောင်တော်မူခဲ့သော ဘုန်းတော်ကြီး ဦးသီလ၏ ရုပ်ထုတော်ကို ဗုဒ္ဓဘာသာဝင်အပေါင်း ဖူးမျှော်နိုင်ရန် ဆောင်ရွက်သင့်သည်များကို ဆွေးနွေးရန်။

၈။ အထွေထွေဆွေးနွေးခြင်း။

၉။ နာယကလူကြီးများ၏ မိန့်ခွန်း။

၁၀။ သဘာပတိ နိဂုံးချုပ် မိန့်ခွန်း။

၁၁။ အခမ်းအနားမှူးက အစည်းအဝေး ရုပ်သိမ်းကြောင်း ကျေညာခြင်း။

**အထူးမေတ္တာရပ်ခံချက်။** ။အဖွဲ့ငယ်များ၏ လုပ်ဆောင်ချက်နှင့် ငွေစာရင်းရှင်းတမ်းအဖွဲ့ကို အဖွဲ့ငယ်ကိုယ်စား စည်းဝေးဆုံးဖြတ်ချက်ကို ဖတ်ကြားရန်ဖြစ်၍ အဖွဲ့ငယ်များ၏ အစည်းအဝေးကို အချိန်မှီကြိုတင် ပြုလုပ်ထားကြရန် ဖြစ်ပါသည်။

အထက် ဖော်ပြပါ နေ့တွင် သံဃာတော်များအား နေ့ဆွမ်းကို ဟင်းခေါက်ဆွဲ ကပ်လှူပြီး အစည်းအဝေးသို့ ကြွရောက်လာသော လူကြီးမင်းများအား အဝ ဆက်လက်ကျွေးမွေးပါမည်။

အထက်ပါ အစီအစဉ်များအပြင် ရာပြည့်သုံးဌာန ပူးတွဲပူဇော်ပွဲကြီး ဆောင်ရွက်ချက်များကို မှတ်တမ်းတင်စာအုပ် ရိုက်နှိပ်မည်ဖြစ်ပါ၍ (၁) ဗဟိုကော်မီတီအဖွဲ့ (၂) နာယကလူကြီးများ (၃) အဖွဲ့ငယ်များ (၄) ဝေယျာဝစ္စဆောင်ရွက်သော အဖွဲ့များကို ဓာတ်ပုံရိုက်ကူးလိုပါ၍ ပါဝင်လုပ်ဆောင်ကြသူများအား ထပ်ဆင့်ဘိတ်ကြားလျက် အစည်းအဝေးသို့ မပျက်မကွက် တက်ရောက်ကြပါရန် လေးမြတ်စွာ သတိပေးဘိတ်ကြားအပ်ပါသည်။

အလုပ်အမှုဆောင်အဖွဲ့
ရပ်ကွက်ပေါင်းစုံ ရာပြည့်သုံးဌာနပူဇော်ပွဲကြီး
ဖြစ်မြောက်အောင်မြင်ရေး ဗဟိုကော်မီတီ
ကြခတ်ဝိုင်းကျောင်းတိုက်
ပဲခူးမြို့

စတုတ္ထကဏ္ဍ ပြီး၏။

# ပဥ္စမကဏ္ဍ

ရွှေကျင်နိကာယ ဆရာတော်ဘုရားကြီးများ၏
ပဋိသန္ဓာရကထာများ။

(၁) သိက္ခာတော် ၈၁-ဝါရှိ ဂိုဏ်းလုံးဥက္ကဋ္ဌ သာသနာပိုင်
အဘိဓဇ မဟာရဋ္ဌဂုရု မန္တလေးမြို့ အနောက်ပြင် မဟာဝိသုဒ္ဓါရုံ ရွှေကျင်တိုက်

**သက်တော်ရှည် စံကင်းဆရာတော်ဘုရားကြီး၏ ပဋိသန္ဓာရကထာ**

ယခု တန်ဆောင်မုန်းလဆန်း ၆-ရက်ရှိပြီ၊ ပဲခူး စာပြန်ရာပြည့် ပူဇော်ပွဲကြီးသို့ ကြွရဘိုလည်း နီးပြီ၊ စဉ်းစားတယ်၊ သယနဒသက၏ ဆယ်နှစ်အရွယ်တွင် ထိုင်၍နေနိုင်သေးသဖြင့် အသင့်အတင့် ကျန်းမာ လျက်ရှိသည်ဟု ဆိုရသော်လည်း ဒသက၏ ဒသမ (ဝဿသတ)ဖြစ်၍ အထူးပိုမို သတိပြုနေရတယ်။

အိုမင်းပြီး အလွန်ယိုယွင်းနေသူက ဟိုသွား ဒီလာ မလုပ်သင့် ထင်ပါရဲ့၊ ပဲခူး ရာပြည့်ပူဇော်ပွဲကြီး၌ ကိုယ်တော်တိုင် ပါဝင်ဆင်နွှဲလိုသောဆန္ဒ များစွာရှိပါတယ်၊ ဒို့မန္တလေးမှာ အဲဒီအချိန်ရှိနေပေမယ့် ပဲခူး ရာပြည့်ပွဲ၌ ပုဂ္ဂိုလ်တပါးအနေဖြင့် ပါဝင်ပြီးဖြစ်ကြောင်း အသံဖမ်းစက်ဖြင့် တိတ်ကြိုးခွေမှ အနုမောဒနာ စကား ပြောပြီး ပို့လိုစိတ်ရှိနေတယ်၊ (ပို့၍ တနေရာ၌ ဖော်ပြထားသည်)။ စိတ္တသာမဂ္ဂီသာ မက ကာယ- သာမဂ္ဂီအဖြစ်သို့ရောက်အောင် အမျိုးမျိုး စိတ်အားတင်းခဲ့သော်လည်း မအောင်မမြင်ဖြစ်ပြီး ဇရာဘေး ကြောင့် ဖြစ်ပေါ်နေသော ခန္ဓာကိုယ်အားနည်းချက် ဒုဗ္ဗလကို အကြောင်းပြု၍ အစီအစဉ်ကို ဝမ်းနည်း စွာ ပယ်ဖျက်လိုက်ရကြောင်း စာရေးပေးပါ–စသည်။

(၂) သိက္ခာတော် ၇၀-ဝါရှိ ဥက္ကဋ္ဌ မဟာနာယက
ရွှေကျင်မြို့ သာသနပါလ ဆင်ရုံတောရတိုက်

**ဆရာတော် ဦးပဏ္ဍိတ-၏ ပဋိသန္ဓာရကထာ**

ကျေးဇူးတော်ရှင် ဆရာတော် ဦးသီလမှစ၍ နှယ်လာစဉ်ဆက် မပျက်မကွက် နှစ်စဉ်တိုင်တိုင် ရာပြည့် အထိ ပြုလုပ်လာကြခြင်းသည် “အဟောဝတ” ကမ္ဘာတွင်မည့် စာပြန်ပွဲကြီးတရပ် ဖြစ်ပေါ်လာပေသည် ဟု ဝမ်းမြောက်လှပါသည်ဘုရား၊ ထို့ပြင်တဝ သဒ္ဓါပုဗ္ဗင်္ဂမ ရှေ့ဝယ်ထား၍ နှယ်လာစဉ်ဆက် မပျက်မကွက် ခေတ်ပျက်နှင့် ကြုံတွေ့ငြားလည်း ပြုလုပ်မြဲ ပြုလုပ်လာကြသည့် ယခု ရာပြည့်အထိ စာပြန်ပွဲကြီးသည် ကြီးကျယ်ခန့်ညား ဓမ္မာရုံကြီးနှင့်တကွ ကျောင်းဆောင်အသီးသီး တံတိုင်း စောင်းတန်းအသွယ်သွယ် အပါး ၁၀၀၀-ကျော် သံဃာတော်မြောက်မြားစွာကို ပင့်ဆောင်တာဝန်ယူလျက် ပူဇော်နိုင်ပါသောကြောင့် အထူးချီးကျူးမိပါသည်–စသည်။



သဘာပတိအဖွဲ့ဝင်

အသက်တော် ၈၆-နှစ် သိက္ခာ ၆၆-ဝါရ ပဲခူးခရိုင် ကျွန်းကြီး
ဘုရားကျောင်း ဆရာတော်ဘုရားကြီး

### (၃) သိက္ခာတော် ၆၆-ဝါရှိ ဂိုဏ်းချုပ် ရွှေကျင်နိကာယ ရတ္တညူ မဟာနာယက ပခုက္ကူခရိုင် ဂန့်ဂေါမြို့ ကန်တောရကျောင်းတိုက်

### ဆရာတော်ဘုရားကြီး ဦးဝိသုတ—၏ ပဋိသန္ဓာရကထာ

ပဲခူးခရိုင် အရညဝါသီ ရွှေကျင်ဂိုဏ်းကြီး၏ ဝိနည်းစာတော်ပြန် အနှစ်တရာပြည့် "ဝိနည်းပိဋကတ် ထွန်းအမြတ်" ပူဇော်ပွဲဃင် မင်္ဂလာသဘင်ကြီးမှာ (ဝိညူပသင္ဃ၊ သဒ္ဓမ္မဋ္ဌိတိကာရဏ၊ သုခပ္ပဒ) ထွန်းမြတ်လှသည့် ပူဇာမင်္ဂလာ သဘင်ကြီးဖြစ်ကြောင်း ယုံမှားဘွယ်ရာမရှိပေ၊ သို့သော် (အချိုပေါ် သကာလောင်း၊ ခိုင်ရာ သံစွဲ၊ မြဲရာ သံပတ်)အနေဖြင့်သာ အောက်ပါ ဩဝါဒမင်္ဂလာစကား ပြောကြား လိုပါသည်၊

သဗ္ဗပါပဿ အကရဏံ၊ ကုသလဿုပ သမ္ပဒါ။
သစိတ္တ ပရိယောဒပနံ၊ တေံ ဗုဒ္ဓါန သာသနံ။

### (၄) သိက္ခာတော် ၆၆-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ ရွှေကျင်နိကာယ မဟာနာယက မင်းကွန်း ငွေတောင် တောရ ရွှေကျင်တိုက်

### ပတ္တမြားဆရာတော်ဘုရားကြီး—၏ ပဋိသန္ဓာရကထာ

"န ဟိ သတိဝိရဟိတဿ အနုပဿနာ နာမ အတ္ထိ"ဟု သမ္မောဟဝိနောဒနီ အဋ္ဌကထာ သတိ-ပဋ္ဌာနဝိဘင်း ၂၆၅၊ သုတ်မဟာဝါအဋ္ဌကထာ မဟာသတိပဋ္ဌာနသုတ် ၃၇၈။ မူလပဏ္ဏာသအဋ္ဌကထာ သတိပဋ္ဌာနသုတ် ၂၄၈၊နေတ္တိအဋ္ဌကထာ လက္ခဏာဟာရ ဝိဘင်္ဂဝဏ္ဏနာ-တို့၌ မိန့်တော်မူသောကြောင့် ၁-သဒ္ဓါလွန်လျှင် တဏှာဖြစ်တတ်သည်၊ ၂-ဝီရိယလွန်လျှင် ဥဒ္ဓစ္စဖြစ်တတ်သည်၊ ၃-ပညာလွန်လျှင် ကေ-ရာဋိကပက္ခရောက်တတ်သည်၊ ၄-သမာဓိလွန်လျှင် ကောသဇ္ဇဖြစ်တတ်သည်၊ သတိသည် လွန်သည်မရှိ၊ ထို့ကြောင့် သတိရှိကြပါစေသော်—စသည်၊

### (၅) သိက္ခာတော် ၆၆-ဝါရှိ မဟာနာယက ဝေါမြို့နယ် ကျွန်းကြီးရွာ

### ဘုရားကျောင်းဆရာတော်ဘုရားကြီး ဦးဇာဂရ—၏ ပဋိသန္ဓာရကထာ

ဘုရားရှင် လက်ထက်တော်အခါက အရှင်ဥပသေနသည် မိမိ အရညကင်ဓုတင် ပိဏ္ဍပါတ်ဓုတင် ပံသုကူ ဓုတင် ဆောက်တည်သလို ဆောက်တည်နိုင်သော ပုဂ္ဂိုလ်များကိုသာ ရဟန်းခံပေး နိဿယည်းပေး သဖြင့် တပည့်များမွေး၍ ယဉ်ကျေးလိမ္မာအောင် ဆုံးမသောကြောင့် "သာဓု သာဓု ဥပသေန၊ သာဓု ခေါ တွံ ဥပသေန ပရိသံ ဝိနေတိ"ဟု ဘုရားရှင် သာဓုခေါ် သောထုံးကို နှလုံးမူ၍ ရွှေကျင်ဂိုဏ်း ဥပဒေ နှင့် ညီညွတ်အောင် ပရိသတ်မွေးစေလိုပါကြောင်း လျှောက်ထားပါသည်—စသည်၊



**သဘာပတိ အဖွဲ့ဝင်**

အသက်တော် ၇၆-နှစ် သိက္ခာတော် ၆၆-ဝါရ ပဲခူးမြို့

**ကျောက်တိုင်ကန် ဒက္ခိဏသာခါ ဆရာတော်ဘုရားကြီး**

(၆) သိက္ခာတော် ၆၅-ဝါရှိ မဟာနာယက
ပုသိမ်မြို့ ပုပ္ဖါရုံကျောင်းတိုက်
**ဆရာတော် ဦးဉာဏိန္ဒ—၏ ပဋိသန္ထာရကထာ**

ယခု ပဲခူးခရိုင် အရညာဝါသီ ရွှေကျင်နိကာယ၌ အနှစ် ၁၀၀-ပြည့်အောင် ဝိနည်းစာပြန်ပွဲကြီး ပြုလုပ်ကိုယ်တိုင်ကြိုးစား အားထုတ်ရသဖြင့် ရွှေကျင်ဆရာတော်ဘုရားကြီး မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးတို့၏ နေ လ ပမာ ထွန်းလင်းတောက်ပလာသည်လည်းတကြောင်း ရွှေကျင်ဂိုဏ်းသား နောက်နောက်သော သံဃာတော်များလည်း နမူနာနည်းယူ၍ ပြုလုပ်ကြလိမ့်မည်လည်းတကြောင်း တို့ကြောင့် နောက်နှစ် နောက်နှစ်တို့၌လည်း ပျက်ကွက်ခြင်းမရှိ ဆက်လက်၍ အားထုတ်တော်မူပါ—ဟု တိုက်တွန်းပါသည်—စသည်၊

(၇) သိက္ခာတော် ၆၅-ဝါရှိ-ရတ္တညူ မဟာထေ မဟာနာယက
သထုံခရိုင် ဇုတ်သုတ် တောရကျောင်း
**ဆရာတော် ဦးဝါယာမ—၏ ပဋိသန္ထာရကထာ**

ပဉ္စဝီသ သဟဿာနိ၊ သတ္ထာ စရတိ တိဋ္ဌတိ။
ဓာတုဓမ္မာနံ ဗုဒ္ဓတ္တာ၊ အနုနောဝါဒဘာဝတော၊

ဟူ၍—ဟောတော်မူခဲ့သောကြောင့် ယခုနှစ် ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်၌ ဝိနည်းပြန် ရာပြည့် ပူဇော်ပွဲကြီး ပြုလုပ်ကြသည်ကို အလွန်ဝမ်းမြောက်ဘို့ ကောင်းပါသည်၊ ဝိနည်းစာပြန်ပွဲတွင်သာမက ပိဋကတ်သုံးပုံ ပူဇော်ပွဲ၊ ဓမ္မက္ခန္ဓာ ရှစ်သောင်းလေးထောင် ပူဇော်ပွဲ၊ ဘုရားရှင်ပေါင်း ရှစ်သောင်းလေးထောင် ပူဇော်ပွဲကြီး—ဟူ၍ ခေါ်ဆိုနိုင်ပါ၏၊ ခေါ်ဆိုထိုက်ပါ၏၊ သာသနာငါးထောင်ကာလပတ်လုံး ပိဋကတ်သုံးပုံတည်းဟူသော သာသနာတော်ကြီးသည် တနှစ်ထက်တနှစ် အသစ်တိုးတက် ပြန့်ပွါးပါစေ-စသည်၊

(၈) သိက္ခာတော် ၆၂-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
ရွှေကျင်နိကာယ ဥပဥက္ကဋ္ဌ
မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သစ်
**မြောင်းမြဆရာတော်ကြီး—၏ ပဋိသန္ထာရကထာ**

ပါတိမောက္ခသံဝရကို စင်ကြယ်သန့်ရှင်းစွာ စောင့်ရှောက်ထိန်းသိမ်းလိုသော ရဟန်းသည် အသက်ကို စွန့်တန်လျှင်လည်း စွန့်ရမည်၊ အသက်ကို အသေခံဘန်လျှင်လည်း ခံရမည်၊ ဘုရားရှင်ပညတ်တော်မူသော စောင့်ရှောက်ထိန်းသိမ်းအပ်သော သီလကို မဖျက်ဆီးရ၊ မပျက်စီးစေရ-ဟူသော အဋ္ဌကထာလာစကား အရ အနှစ်တရာပြည့် ဝိနည်း စာပြန်ပွဲကြီးသို့ ကြွလာတော်မူကြသော ရဟန်းတော်များသည် ဝိနည်းကျင့်ဝတ် ရွှေကျင်ဂိုဏ်း စည်းမျဉ်းနှင့်အညီ ယဉ်ကျေးသိမ်မွေ့စွာ ဒကာ ဒကာမများ၏ ကြည်ညိုဘွယ်ကို ဆောင်လျက် ဝတ်ရုံ နေထိုင်သွားလာ စားသောက်ပြောဆိုတော်မူကြပါ၊ မိမိတို့၏ တပည့်တပန်း ရဟန်း သာမဏေများနှင့် သမဂ္ဂီတင်းသုံးဘော်များကိုလည်း ယင်းအတိုင်းပင် နေထိုင်တော်မူကြပါဟု သတိပေး တိုက်တွန်းတော်မူကြပါ—စသည်၊



သဘာပတိအဖွဲ့ဝင်
ဘုန်းတော်ကြီး ဦးသီလ၏ကိုယ်စား ငါးပါးသီလ ချီးမြှင့်တော်မူပါသော
ဇုတ်သုတ်တောရ ဆရာတော်ဘုရားကြီး ဖြစ်သည်။

(၉) သိက္ခာတော် ၆၁-ဝါရှိ ပဋ္ဌမဥက္ကဋ္ဌ
ကညွတ်ကွင်းမြို့ နိဂြောဓာရုံကျောင်းတိုက်
**ဆရာတော် ဦးရာဇိန္ဒ—၏ ပဋိသန္ဓာရကထာ**

မိမိတို့၏ ရွှေကျင်ဂိုဏ်း ဦးစီးနာယက ဦးသီလအစရှိသော မထေရ်ကြီးတို့ ကြီးမှူးကာ ဝိနည်းစာပြန်ပွဲကို စတင်၍ပြန်ဆိုခဲ့ကြရာ ၁၂၃၃-ခုနှစ်မှစ၍ ယခု ၁၃၃၂-ခုနှစ် အထိ အနှစ် ၁၀၀-ပြည့်သည်တိုင်အောင် ဆရာတော်ကြီးများ၏ အမိန့်ဩဝါဒ ရှိသေစွာလိုက်နာ၍ စာပြန်ပွဲပြုလုပ်ကြရသည်မှာ အရှင်မဟာကဿပ အမှူးရှိသော ရဟန္တာ ၅၀၀-ပဋ္ဌမသင်္ဂါယနာတင်သည့် ပမာ သာသနာရှည်ကြာစွာ တည်ကြောင်းအလွန်ပင်ကောင်းကြောင်း သံဃာတော်အပေါင်းတို့ ကောင်းကောင်းကြီး သိရှိတော်မူကြပါသည်-စသည်၊

(၁၀) သိက္ခာတော် ၆၁-ဝါရှိ ရတ္တညူမဟတ္တ မဟာနာယက
ညောင်ရွှေမြို့ မိုင်းသောက် ကျောက်နီတောရ ကျောင်းတိုက်
**ဆရာတော် ဦးဒေဝိန္ဒာဘိဇ—၏ ပဋိသန္ဓာရကထာ**

ကောင်းစွာကျင့်သော သုပ္ပဋိပန္နအာစာရအရိယာပုဂ္ဂိုလ်မျိုး ဖြောင့်ဖြောင့် မတ်မတ်ကျင့်သော ဥဇုပ္ပဋိပန္နအာစာရအရိယာပုဂ္ဂိုလ်မျိုး မဂ်ဖိုလ်နိဗ္ဗာန် ချမ်းသာအလို့ငှါ ကျင့်သော ဉာယပ္ပဋိပန္နအာစာရ အရိယာပုဂ္ဂိုလ်မျိုး အရိုအသေအလေးအမြတ် ပြုခြင်းငှါထိုက်အောင် ကျင့်သော သာမိစိပ္ပဋိပန္န အာစာရ အရိယာပုဂ္ဂိုလ်မျိုးအဖြစ်သို့ ရောက်ကြလေအောင် မြတ်စွာဘုရားသည် ပညတ်တော်မူအပ်သော ၂၂၇-ပါးသော ပါတိမောက္ခသံဝရသီလကို မကျိုးမပေါက် မပြောက်မကျား သဒ္ဓါ သတိ ဝီရိယ ဉာဏ် ပညာတရားတို့ဖြင့် အမြဲလုံခြုံအောင် အမြဲစောင့်ရှောက်နိုင်ကြပါစေ—စသည်၊

(၁၁) သိက္ခာတော် ၆၀-ဝါရှိ နယ်နာယက
ကော့ကရိတ်မြို့ မဏိကာရုံ ကျောင်းတိုက်
**ဆရာတော် ဦးဝမ္မသာရ—၏ ပဋိသန္ဓာရကထာ**

ပါတိမောက္ခံ ဝိသောဓေန္တော၊ အပ္ပေဝ ဇီဝိတံ ဇဟေ။
ပညတ္တံ လောကနာထေန၊ န ဘိန္ဒေ သီလသံဝရံ။

ဟူသော ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ဒေသနာထောက်ဆကာဖြင့် အသက်ကိုပမာနမထား သီလတော်ကို မပျက်ပြားစေဘဲ ကျင့်ကြံကြိုးစားကာ ဘုရားရှင်သာသနာတော်နှင့်တကွ ရွှေကျင်ဂိုဏ်းကြီးကို တိုးတက်ရန် ရည်သန်စိတ်ထားပြီး သီလ သမာဓိ ပညာစသော သူတော်ကောင်းတရား ပွါးများ စောင့်ရှောက်နိုင်ကြပါစေကုန်သတည်း—စသည်၊

(၁၂) သိက္ခာတော် ၆၀-ဝါရှိ ရတ္တညူမဟတ္တ နာယက
တောင်ငူမြို့ ကျွန်းတောကုန်းကျောင်းတိုက်
**ဆရာတော် ဦးကုဏ္ဍလ—၏ ပဋိသန္ဓာရကထာ**

ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန်ပွဲကြီးကို စတင်တည်ထောင်တော်မူခဲ့ကြသော ဆရာတော်ဘုရားကြီး ဦးသီလစသော ဆရာတော်များကား မရှိကြတော့ပေ၊ သိဿာနုသိဿ အဆက်



**သဘာပတိအဖွဲ့ဝင်**

ဤသို့ ရာပြည့်ပူဇော်ပွဲကြီးကြွ ဆရာတော် သံဃာတော်အားလုံးတို့အား
ယပ်တောင်အပါးစေ့ လှူဒါန်းပါသည်၊ သထုံခရိုင်
**စမ်းအေးမြိုင် ဆရာတော်ဘုရားကြီးဖြစ်သည်။**

ဆက် ဆောင်ရွက်ခဲ့ကြသော ဝိနည်းစာပြန်ပွဲကြီးကတော့ နှစ် ၁၀၀-ကျော်ပြီး နှစ် ၂၀၀-မကအောင် ရှေ့သို့အဟုန်ဖြင့် ချီတက်နေပါကလားဟု ဝမ်းနည်းဝမ်းသာ နှစ်ဖြာဒွန်တွဲပြီး စိတ်ထဲမှာ ဖြစ်လာပါသည်၊ ပဲခူးခရိုင် အရညဝါသီ ရွှေကျင်နိကာယ ဝိနယစာပြန်ပွဲကြီးသည် (ဝိနယော နာမ သာသနဿ အာယု) ဟောတော်မူသည့်အတိုင်း သာသနာတော်ကြီး အထောက်အကူဖြစ်ပြီး သာသနာငါးထောင်မက အောင် ထွန်းတောက်နိုင်ပါစေဟု ပတ္ထနာပြုပါကြောင်း–စသည်၊

(၁၃) သိက္ခာတော် ၅၉-ဝါရှိ ဗဟိုနာယက
မုဒုံမြို့ ကမာဝက်တိုက်ကျောင်းသစ်
**ဆရာတော် ဦးစန္ဒောဘာသ—၏ ပဋိသန္ဓာရကထာ**

ဒါနပြည့်စုံ သီလလည်းလုံခြုံလျှင် ဂုဏ်ကျေးဇူးများသူဖြစ်၍ ချီးမွမ်းလို့မကုန်နိုင်ပါ၊ ဒါနလည်း ပြည့်စုံ သီလလည်း လုံခြုံသူကား ဘဝလမ်းစဉ် သန့်ရှင်းသူဖြစ်၏၊ သေမင်းဘေးမှ မကြောက်ရသူဖြစ်၏၊ တမလွန်၌ ဖြစ်မည့်ဘေးမှ မကြောက်ရသူလည်းဖြစ်၏၊ ဒါန၏ ဒိဋ္ဌဓမ္မ အကျိုးကို ပြရလျှင်—
'ဒါနံ သီလဿ ဗဟူပကာရံ''-မိခင်သည် နို့ စို့သားငယ်အား များစွာအကျိုးပြုသကဲ့သို့ ဒါနသည် သီလ အား များစွာအကျိုးပြု၏။ ''ဂိဟိဓမ္မာ အနုပကတော ဟောတိ'' ဒါနမြောက်လျှင် သီလမပေါက်ရ။ ''အပ္ပိပိ သန္တာ ဗဟုကေ ဇိဝန္တိ''-သီလကို ဖျက်ဆီးတတ်ကုန်သော လောဘ ဒေါသ ဣဿာ မစ္ဆေရ အစရှိကုန်သော ကိလေသာ ရန်သူတို့ကို ဒါနသာလျှင် အောင်မြင်နိုင်သည်–စသည်၊

(၁၄) သိက္ခာတော် ၅၉-ဝါရှိ မဟာနာယက
ဖျာပုံမြို့ စကြာရန်အောင် ရွှေကျင်တိုက်
**ဆရာတော် ဦးသံဝရာဘိဝံသ—၏ ပဋိသန္ဓာရကထာ**

''ဝိနယေ ဌိတေ သာသနံ ဌိတံ''ဟူ၍ရင်း ''ဝိနယော နာမ သာသနဿ အာယု''ဟူ၍ရင်း အဋ္ဌကထာဆရာ မိန့်မှာဆုံးမတော်မူသည်နှင့်အညီ ပဲခူး အရညဝါသီ ရွှေကျင်ဂိုဏ်းကြီးကို ဦးစွာတည်ထောင် တော်မူခဲ့သော အရှင်မြတ်ကြီး၏ ဝိနည်းကို အထူးလေးစားသောအားဖြင့် မြတ်စွာဘုရား၏ ဝိနယ သာသနာတော်မြတ်ကြီး အရှည်တည်တံ့ရန် အားထုတ်ပြုလုပ်တော်မူခဲ့သော ဝိနည်းစာပြန်ပွဲကြီးကို ဆရာ တော်ဘုရားကြီးများ၏ သိဿာနုသိဿ ပရမ္ပရအဆက်ဆက် ဆောင်ရွက် အားထုတ်လာခဲ့ကြသည်ကား ဝိနယဓမ္မနှင့် မြတ်စွာဘုရားသာသနာသုံးရပ်အတွက် တိုးတက်ကြီးပွါးအောင် ဆောင်ရွက်တော်မူခဲ့ကြ သည်မှာ အထူးဝမ်းမြောက်လှပါသည်–စသည်၊

(၁၅) သိက္ခာတော် ၅၉-ဝါရှိ နယ်နာယက
ချောင်းဆုံမြို့ သက်ငယ်တောင် ကျောင်းတိုက်
**ဆရာတော် ဦးသူရိယ—၏ ပဋိသန္ဓာရကထာ**

သတ္ထုကပ္ပံ သုဝိနယံ၊ ဓာရေမိ ဟဒယေနဟံ။
နမဿမာနော ဝိနယံ၊ ဝိဟရိဿာမိ သဗ္ဗဒါ။–ဟု

ဝိနည်းဘက်တွင် ဧတဒဂ်ရ ဥပါလိမထေရ် အဓိဋ္ဌာန်ပြုသကဲ့သို့ ယခု ရာပြည့် ဝိနည်းစာပြန်ပွဲတော်သို့ ကြွရောက်တော်မူလာကြသော သံဃာတော်အရှင်မြတ်တို့သည်လည်း ဥပါလိထေရ်ထုံး နှလုံးမူလျက်



ကညွတ်ကွင်းမြို့ နိဂြောဓာရုံ ဆရာတော်စသည် သံဃာတော်များ
ကြွလာ၍ မြို့သူမြို့သားများက ဤသို့ အားတက်လှူဒါန်းကြသည်။



အချို့ ဤသို့ဆေးများ လိုက်ကပ်ကြသည်။
ကျောင်းအမကြီးဒေါ်ပြုံးက (ကမ္ဘာသစ်)ဆေးကပ်နေစဉ်။

ဝိနည်းတော်ကို အမြဲလေ့လာပြန်ဆို၍ ဝိနည်းတော်အတိုင်း လိုက်နာကျင့်သုံးပြီးလျှင် အချမ်းသာဆုံး အမြတ်ဆုံး နိဗ္ဗာန်ချမ်းသာကို ခံစားကြစေရန် တိုက်တွန်းပါသည်–စသည်၊

(၁၆) သိက္ခာတော် ၅၈-ဝါရှိ မဟာနာယက
ပင်လုံမြို့ ရှမ်းပိဋကတ်ဘာသာပြန်ကျောင်းတိုက်

**ဆရာတော် ဦးပညာဘောဂ—၏ ပဋိသန္ထာရကထာ**

ငါဘုရားမရှိသည့်နောက် ငါဟောတော်မူခဲ့သော သုတ် အဘိဓမ္မာ ဝိနည်းတရားတော်တို့သည် ငါ၏ ကိုယ်စား ဘုရားဖြစ်ရစ်လတ္တံ့ –ဟူသော ဗျာဒိတ်တော်မြတ်နှင့်အညီ ယခုခေတ်သာသနာတော်တွင် ဗုဒ္ဓ မြတ်စွာ ရှိစဉ်အခါက ဘုရားတဆူသာ ရှိပါသည်၊ ယခုဘုရားများစွာရှိပါသည်။ ဥပမာအားဖြင့် ယခု သာသနာတော်တွင်း၌ နေမင်းရှစ်သောင်းလေးထောင် ထွက်ပေါ်လာသည်နှင့် တူပါသည် ဘုရားဗုဒ္ဓ ဘာသာ အမျိုးသားများသည် ဘုရားနေမင်း ရှစ်သောင်းလေးထောင်၏ အရောင်အလင်းကို မှီတင်း အားထားရသည့်အတွက် တွင်းကျင်းခလုတ် သစ်ငုတ်ဆူးငြောင့်တို့ကို မဆင်းမိ မတိုက်မိ မစူးမိရခြင်း ဖြစ်ပါသည်–စသည်၊

(၁၇) သိက္ခာတော် ၅၈-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
စစ်ကိုင်းမြို့ ရွှေဟင်္သာတိုက်သစ်

**ဆရာတော် ဦးပဏ္ဍိတ—၏ ပဋိသန္ထာရကထာ**

ထိုခေတ်က ရဟန္တာတဆူဟူ၍ ရှင်လူအပေါင်းတို့ သောင်းသောင်းအုတ်အော် ကျော်ကြား ထင်ရှား ကြည်ညိုလေးစားခြင်းကို ခံယူတော်မူရသော ဘုန်းတော်ကြီး ဦးသီလစသော တောရဆရာတော်ဘုရား ကြီးများ အမြင်ကျယ်စွာဖြင့် အာဒိကမ္မိကပြု၍ တည်ထောင်တော်မူခဲ့သော ပဲခူးအရညဝါသီ ရွှေကျင် နိကာယ ဝိနည်းစာတော်ပြန် အနှစ်တရာပြည့်ပွဲကြီးကို ကြုံတောင့်ကြုံခဲ ဆင်နွှဲပူဇော်တော်မူကြခြင်းသည် သာသနာတော်၏ အသက်ပမာဖြစ်သော ဝိနည်းဒေသနာတော်ကြီးကို ချီးမြှောက်ပူဇော်ခြင်းပင် ဖြစ်၍ ဝမ်းမြောက်စွာ သာဓုခေါ်ရပါသည်–စသည်၊

(၁၈) သိက္ခာတော် ၅၈-ဝါရှိ နာယက
မုံရွာမြို့ ရွှေကျင်ဓမ္မာရုံတိုက်

**ဆရာတော် ဦးသုတ—၏ ပဋိသန္ထာရကထာ**

"တတ္ထ သဗ္ဗေဟေဝ သမဂ္ဂေဟိ သမ္မောဒမာနေဟိ အဝိဝဒမာနေဟိ သိက္ခိတဗ္ဗံ"ဟု ဟောတော် မူသည်နှင့်အညီ ပရိယတ္တိဝိနည်းတရားတော်၌လာသော သိက္ခာပုဒ်တော်များကို နှစ်သက်စွာ ကျင့် တော်မူကြကုန်သော ဆရာတော် သံဃာတော်အရှင်မြတ်များသည် ပဋိပတ္တိသာသနာတော်ကြီးကို စည် ပင်ပြန့်ပွါး တိုးတက်ကြီးမားရန် ဖြစ်ပေသည်၊ ထိုသို့ ပရိယတ္တိ ပဋိပတ္တိသာသနာတော်မြတ်ကြီးကို မကွယ် မပျောက်ရအောင် ရှေ့သို့ နှစ်စဉ်မပျက် ဆက်လက်အားထုတ် ဆောင်ရွက်နိုင်ကြပါစေ–ဟု အာသီသ ပြုလိုက်ပါသည်–စသည်၊



ရှမ်းပြည်အောင်ပန်းမှ ဒကာ/ဒကာမများ ကိုယ်တိုင်ကပ်လှူနေကြသည်။



ကျောင်းအမကြီး ဒေါ်မမကြီးနှင့် ကုသိုလ်ရှင်
မိသားစုကိုယ်တိုင် သယ်ပို့ လှူဒါန်းကြသည်။

(၁၉) သိက္ခာတော် ၅၇-ဝါရှိ မဟာနာယက
မော်လမြိုင်မြို့ မဟာမြိုင်ကျောင်းတိုက်
**ဆရာတော် ဦးရေဝတ—၏ ပဋိသန္ထာရကထာ**

အခါတပါး ပဲခူးတောရ ဘုန်းတော်ကြီးက ဒကာတဦးအား "တနေရာ၌ တကျောင်းတည်း သံဃာ ပါးရေ (၁၀၀) ရှိသည်ဆိုပါတော့၊ နေရာအများ၌ ကျောင်းပေါင်း (၁၀၀) တပါးစီဖြစ်၍ သံဃာ (၁၀၀)ဖြစ်ရာ ဘယ်ဟာကို ကြီးပွါးသည်ထင်သလဲ"ဟု မေးတော်မူ၏၊ ဒို့ယခု မေးမြန် ပြောဆိုနေကြ သည်မှာ သာသနာ ကြီးပွါးရေးဖြစ်၍ ကျောင်း (၁၀၀)က ကျောင်းကြီးပွါးသည်မှာ မှန်သော် လည်း သာသနာရေးမှာ ကိုယ်ထင်တိုင်း စခန်းသွားကြမည်ဖြစ်၍ ဆုတ်ယုတ်ဘွယ်ပင် ဖြစ်သေးသည်၊ တကျောင်းပင်ဖြစ်သော်လည်း သံဃာ (၁၀၀)ရှိသည်ဖြစ်၍ ဩဝါဒတမျိုးတည်း ခံယူရသောကြောင့် သာသနာကြီးပွါးသည်၊ သို့သော် ကျောင်းပေါင်း (၁၀၀)ဖြင့် သံဃာပေါင်း တသောင်းဖြစ်မူ အလွန် ကြီးပွါးသည်ဟု မှတ်ရမည်–စသည်၊

(၂၀) သိက္ခာတော် ၅၇-ဝါရှိ နာယက
ဝက်လက်မြို့ ကြို့ပင်ကျောင်းတိုက်
**ဆရာတော် ဦးလက္ခဏသာရ—၏ ပဋိသန္ထာရကထာ**

ခုရဒွယမနာရမ္ဘ၊ ဂိဟိကမ္မာဒိကေ ရတော။
ကထံ ဂိဇ္ဈကူဋ္ဌံ သေလံ၊ ပေတဝါသံ အတိဿတိ။

စာပေကျမ်းဂန်ပို့ချခြင်းဟူသော ဂန္ထဓုရ ဘာဝနာကမ္မဋ္ဌာန်း စီးဖြန်းခြင်းဟူသော ဝိပဿနာဓုရ ဤ နှစ်ပါးကို အားမထုတ်မူ၍ လူမှုကိစ္စတို့၌သာ မွေ့လျော်အားထုတ်သော ရဟန်းသည် ပြိတ္တာတို့၏ နေရာ အာရာမ်ဟုဆိုအပ်သော ရာဇဂြိုဟ်မြို့အနီး ဂိဇ္ဈကုဋ်တောင်ကြီးကို အဘယ်သို့လျှင် ခုန်ကျော်လွှားပေါက် လွှန်မြောက်နိုင်ပါအံ့နည်း၊ ဤသို့ဟောတော်မူအပ်သော ဒေသနာတော်အရ မိမိတို့အတွက် ရည်သန် တောင့်တ နိဗ္ဗာနသို့ ရောက်ရပါစေခြင်းအကျိုးငှါ ဓုရနှစ်ပါးကို နေ့ညမစဲ မြဲမြဲကြီး အားထုတ်နိုင်ကြ ပါစေသတည်း–စသည်၊

(၂၁) သိက္ခာတော် ၅၇-ဝါရှိ ဝိနည်းဓိုရ် ဂိုဏ်းချုပ်
ရန်ကုန်မြို့ ကျိုက္ကစံ ရွှေကျင်တိုက်သစ်
**ဆရာတော် ဦးသုစိန္တ—၏ ပဋိသန္ထာရကထာ**

ဗုဒ္ဓေ ဓမ္မေ စ သံဃေ စ၊ သိက္ခာယ အညမညတံ။
သဂါရဝဝိဟာရေယံ၊ သဒ္ဓမ္မ ဋ္ဌိတိ ကာရဏံ၊

ဗုဒ္ဓသာသနာတော်ကြီး ခိုင်ဖြိုးတည်မြဲခြင်း၏ အကြောင်းရင်းမှာ (၁) ဗုဒ္ဓဂါရဝ (၂) ဓမ္မဂါရဝ (၃) သံဃဂါရဝ (၄) သိက္ခာဂါရဝ (၅) အညမညဂါရဝ-ဟူ၍ ဂါရဝဝိဟာရငါးပါးရှိနေရာ ယခုကဲ့သို့ ကြီးကျယ်ထူးမွန် အလွန်ကြုံကြိုက်ခဲ၍ မကြုံကြိုက်ခဲ့ရသော သံဃာ (၁၀၀၀) အစည်းအဝေးကြီး၌ အည မညဂါရဝ ဝိဟာရကို လေးလေးစားစား ကျင့်သုံးတော်မူကြရန် တင်ပြလိုပါသည်–စသည်၊



ဤသို့ တဖွဲ့ပြီးတဖွဲ့ ဝင်ကန်တော့ကြသည်၊ အမြဲတမ်း ဆုတောင်းပေးရသည်၊



အနှစ်(၁၀၀) ပူဇော်ပွဲ နွဲ့ရှိုပျော်ပျော်....ဆိုကြရမလို
ဘူးသီးကြော် အဖွဲ့ဖြစ်သည်၊

(၂၂) သိက္ခာတော် ၅၇-ဝါရှိ ကမ္မဋ္ဌာနာစရိယ
ပြည်မြို့ မဟာဓမ္မိကာရာမကျောင်းတိုက်
**ဆရာတော် ဦးဝိဇယ–၏ ပဋိသန္ထာရကထာ**

သီလကို မသိသည်ရှိသော် စောင့်ရှောက်ခြင်းငှါ ခဲယဉ်းသဖြင့် ဤအကြိမ် (၁၀၀)မြောက် ဝိနည်းစာပြန်ပွဲကြီးသည်လည်း သာသနာဘော်၏ အရင်းမူလဖြစ်သော ပရိယတ်သာသနာတော်ကို စောင့်ရှောက်ရာ ရောက်ပါပေ၏၊ ထို့ကြောင့် နောင်အနာဂတ်အခါ၌လည်း သာသနာတော်(၅၀၀၀)ငါးထောင်ကြာမြင့်သည့်တိုင်အောင် ဝိနည်းပြန်ပွဲသဘင်ကို ဆင်ယင်ကျင်းပလျက် သြဃ ယောဂ အာသဝတို့၏ ကုန်ရာ အရဟတ္တဖိုလ်ကို မျက်မှောက် ပြုနိုင်ကြပါစေ–စသည်၊

(၂၃) သိက္ခာတော် ၅၇-ဝါရှိ ဒုတိယဥက္ကဋ္ဌ
ဖြူးမြို့ ရွှေကျင်မြောက်ကျောင်း
**ဆရာတော် ဦးစန္ဒ–၏ ပဋိသန္ထာရကထာ**

(ဝိနည်းအစ ပဲခူးက)ဟု ပြောဆိုလျှင် မှားမည်မဟုတ်ပါ၊ ပြုလုပ်သောနှစ်မှစ၍ ပဲခူးခရိုင်အတွင်းမှာပင် ညောင်လေးပင် ပြွန်တန်ဆာ ရွှေကျင် ကျောက်တန်း ညောင်ခါးရှည် ပဲခူးဟူ၍ ကျယ်ပြန့်စွာ ပြုလုပ်နိုင်ခြင်းသည် တောရဆရာတော်ဘုရားကြီးများ၏ အခြေခံမူလ သြဝါဒစကားတော်ကို တသွေမတိမ်း လိုက်နာကြ၍ ပဲခူးဝိနည်းစာပြန်ပွဲကြီးသည် အနှစ်(၁၀၀)ပြည့်၍ သံဃာတော် အပါး(၁၀၀၀)နှင့် ရာပြည့်အောင်ပွဲကြီး ပြုလုပ်မည် ဖြစ်သောကြောင့် (ရာပြည့် အစ ပဲခူးက)ဟု ဆိုလျှင်လည်း မှားမည်မဟုတ်ပါ–စသည်၊

(၂၄) သိက္ခာတော် ၅၇-ဝါရှိ ဂိုဏ်းချုပ်
မြင်းခြံမြို့ ရွှာသာ မဏိကာရုံကျောင်းတိုက်
**ဆရာတော် ဦးတေဇဝန္တ-၏ ပဋိသန္ထာရကထာ**

ကုသော ယထာ ဒုဂ္ဂဟိတော၊ ဟတ္ထမေဝ နုကန္တတိ။
သာမည် ဒုပရာမဋ္ဌံ၊ နိရိယာယူပကဍ္ဎတိ။

မကောင်းသဖြင့် ယူအပ် ကိုင်အပ် ဆွဲအပ်သော သမန်းမြက်သည် ကိုင်သသူလက်ကိုသာလျှင် ဆုတ်ဖြတ်တတ်သကဲ့သို့ ပြတ်စေတတ် ယုစေတတ်သကဲ့သို့ မကောင်းသဖြင့် သုံးသပ်အပ်သော သေးငယ်သော အာပတ်ကိုပင် ဒုပ္ပရိဘောဂ ဒုက္ကဋ်ဘဲ့ ဒုဗ္ဘာသိတဲ့စသည်ဖြင့် မထီမဲ့မြင်ပြုလုပ်တတ်သော ရဟန်း၏အဖြစ်မျိုးသည် ငရဲ၌ ဖြစ်စေတတ်၏၊ ဝါ–ငရဲသို့ ငင်ချတတ်၏၊ အပါယ်လေးဝသို့ ကျစေတတ်၏–စသည်။

## (၂၅) သိက္ခာတော် ၅၇-ဝါရှိ နာယက
မအူပင်မြို့ ရေလဲကလေး ဓမ္မာရုံရွှေကျောင်းတိုက်

**ဆရာတော် ဦးတေဇဝန္တ-၏ ပဋိသန္ဓာရကထာ**

အတ္တာဆိန္နမ္ပိ ဝါသေတိ၊ သုဂန္ဓေနိဝ စန္ဒနံ။
သန္တော မေတ္တာသုဂန္ဓေန၊ အတ္တဟိံသမ္ပိ ဝါသယေ။

ဟူသော ကျေးဇူးရှင် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာအတိုင်း တပည့်တော်များ ရွှေကျင်ဂိုဏ်းသားအပေါင်းတို့သည်လည်း တပါးနှင့်တပါး မေတ္တာထုံမွှမ်း မွှေးကြိုင်စွာဖြင့် သီတင်းသုံး နေထိုင်တော်မူနိုင်ကြပါစေသတည်း–ဟု ဆုတောင်းပါသည်–စသည်။

## (၂၆) သိက္ခာတော် ၅၆-ဝါရှိ အနုနာယက
မုပ္ပလင်မြို့ ဇေတဝန်ကျောင်းတိုက်

**ဆရာတော် ဦးနန္ဒဝံသ-၏ ပဋိသန္ဓာရကထာ**

“မာ ပမာဒတ္ထ ဘိက္ခဝေ မာ ပစ္ဆာဝိပ္ပဋိသာရိနော အဟုဝတ္ထ ။” ဘုရားရှင်က ချစ်သားတို့ မေ့လျော့၍မနေကြလင့်၊ တနေ့ကျလျှင် မည်သည့်နည်းနှင့်မျှ ရှောင်လွှဲ၍မရသော သေခြင်းသဘောတရားနှင့် ရင်ဆိုင်ရမည်ဖြစ်၍ အားကိုးရာမဲ့ ပူပင်သောက ဆင်းရဲခြင်းသို့ မရောက်စေလင့်၊ ယခု မိမိတို့ရရှိအပ်သော ရဟန်းအဖြစ်ကို တန်ဘိုးအစွမ်းအားလျော်စွာ ကျင့်ကြံကြိုးကုတ် အားထုတ်သောပုဂ္ဂိုလ်တို့သည် အဘိုးမဖြတ်နိုင်သော နိဗ္ဗာန်ချမ်းသာကို ခံစားကြသလို စာပေကျမ်းဂန်တို့ကို ဉာဏ်စွမ်းအားဖြင့် ဆောင်ထားသည့်အတိုင်း မိမိခန္ဓာကိုယ်၌ သီလအကျင့်ကို ပြည့်စုံအောင်ကျင့်ကြံခြင်း–စသည်ဖြင့် တောင့်တအပ်သော နိဗ္ဗာန်ချမ်းသာကို မျက်မှောက်ပြုရမည်မှာ မလွဲပါ–စသည်။

## (၂၇) သိက္ခာတော် ၅၆-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
တောင်ကြီးမြို့ အောင်မြေသာစည်ကျောင်းတိုက်

**ဆရာတော် ဦးနန္ဒိယ-၏ ပဋိသန္ဓာရကထာ**

မြတ်သောဂုဏ်နှင့် ပြည့်စုံအောင် အကျင့်သီလလျှင် အရင်းရှိသော ကိုယ်, နှုတ်, စိတ် အမူအရာတို့သည်ရင်း၊ ခန္တီ သန္တုဋ္ဌီ တပေါ စ မင်္ဂလာတရားတို့သည်ရင်း၊ စေတောပဏိဓိ၊ အဇ္ဈာသယအဓိမုတ္တိတို့သည်ရင်း အလွန်မြင့်မြတ်၍ ကာမဘောဂီလူတို့ထက်ရင်း အခြားဘာသာဝင် အညတိတ္ထိယတို့ထက်ရင်း အစစသာလွန်လျက် ယဉ်ကျေးဘွယ်ရာ ခြေငံသိမ်မွေ့စွာ ရှိကြရာသည်၊ သို့မှသာ မိမိသည် ဂုဏ်တော်ကိုးပါးနှင့် ပြည့်စုံသော သံဃာတော်အား လိုက်လျောညီညွတ်၍ သံဃာတော်မြတ်၏ဂုဏ်ကို ရဲဝံ့စွာပြုနိုင်ပေလိမ့်မည်၊ အရည်ဝါသီ ဆရာတော်ကြီး ဦးသီလစသည်တို့ကဲ့သို့ သဘောရှိသော အရှင်မြတ်တပါးဖြစ်၍ အတုယူဘွယ်ရာ အလွန်ကောင်းလှပါသည်–စသည်။

(၂၈) သိက္ခာတော် ၅၅-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
မင်းကွန်း ရတနာ့ရွှေဂူကျောင်းတိုက်
**ဆရာတော် ဦးဣန္ဒာသနိ-၏ ပဋိသန္ထာရကထာ**

ပဲခူးခရိုင် အရည၀ါသီ ရွှေကျင်နိကာယ လဇ္ဇီပေသလ သိက္ခာကာမ သီလဝန္တဖြစ်တော်မူပေကုန်သော ဘုန်းတော်ကြီး ဦးသီလစသော ဆရာတော်ဘုရားကြီးတို့၏ ဝိနယစာပြန်ပွဲတော်ကြီး ဖြစ်မြောက်အောင် ကြံစည်အားထုတ်တော်မူကြခြင်းတို့ကို အလွန်အမင်း ချီးကျူးအံ့သြဘွယ် ကောင်းလှပါပေကုန်၏။

အနာဂတေ လဇ္ဇီ ရက္ခိဿတိ – ဟူ၍ ရွတ်ဆိုတော်မူကြခြင်းသည် ဘုန်းတော်ကြီး ဦးသီလစသော ဆရာတော်တို့ကိုရင်း၊ ယခုအထိ အနှစ်တရာ ကြာရှည်စွာ တည်တံ့၍နေအောင် အားထုတ်တော်မူကြပေကုန်သော ဆရာတော်တို့ကိုရင်း ရည်ရွယ်တော်မူကြ၍ ရွတ်ဆိုတော်မူခဲ့သည်များ ဖြစ်ရော့သလားဟု အောက်မေ့မိပါသည် – စသည်။

(၂၉) သိက္ခာတော် ၅၅-ဝါရှိ မဟာနာယက
ကျိုက်လပ်မြို့ ပစ္ဆိမာရုံကျောင်းတိုက်
**ဆရာတော် ဦးသောဘိတ-၏ ပဋိသန္ထာရကထာ**

ဇနိတံ သကကမ္မေန၊ သဇာတိံ နုဂ္ဂဟေ သဒါ။
မာဝမညေ သကော ဥဇ္ဇွာ၊ ဥဇ္ဇွေ သတိ သဇာတိကေ။

သကကမ္မေန၊ ပဲခူးခရိုင် အရည၀ါသီ ရွှေကျင်ဂိုဏ်း မထေရ်များ၏ကံကြောင့်။ ဇနိတံ၊ ဖြစ်ပေါ်၍ လာသော။ သဇာတိံ၊ ပဲခူးခရိုင် အရည၀ါသီ ရွှေကျင်ဂိုဏ်းကြီးကို၊ သဒါ၊ မပြတ်မလပ် အခါခပ်သိမ်း၊ အနုဂ္ဂဟေ၊ ဝိနယအာဂုမ် ပြန်ဆိုကုန်၍ ချီးမြှင့်ရာ၏။ မာဝမညေ၊ မထီမဲ့မြင် မပြုရာ။ သဇာတိကေ၊ ပဲခူးခရိုင် အရည၀ါသီ ရွှေကျင်ဂိုဏ်းကြီးသည်။ ဥဇ္ဇွေ၊ အရှည်တည်လျက် အဆက်ဆက်မြင့်တက်သည်။ သတိ၊ ဖြစ်လတ်သော်။ သကော သကောပိ၊ ပဲခူးခရိုင် အရည၀ါသီ ရွှေကျင်ဂိုဏ်းသား မိမိများသည် လည်း။ ဥဇ္ဇွာ၊ အဆင့်အဆင့် မြင့်ထက်မြင့်သည်။ ဟောတိ၊ ဖြစ်နိုင်ပါပေ၏–စသည်။

(၃၀) သိက္ခာတော် ၅၅-ဝါရှိ ရတ္တညူ မဟာနာယက
တွံတေးမြို့ ကျိုက်လပ်ကျောင်းတိုက်
**ဆရာတော် ဦးဇာနေယျ-၏ ပဋိသန္ထာရကထာ**

ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ သံဃာ့အစည်းအဝေးကြီးကို ၃-နှစ်တကြိမ် ကျင်းပမြဲဖြစ်သော်လည်း အခါ မကောင်းသဖြင့် အစည်းအဝေးကြီးကို မကျင်းပနိုင်ခဲ့သည်မှာ မန္တလေး အစည်းအဝေးကြီး ပြီးဆုံး သည့်နောက် ယခုအထိ ဖြစ်ပါသည်ဘုရား။



လူ့ဒါန်းပြီး ပြန်ခါနီး ဤသို့ ကန်တော့ကြသေးသည်၊
ပဲခူးမြို့ ကြခတ်ဝိုင်းဆရာတော် ဆုတောင်းပေးနေစဉ်။



အချို့ပြန်ခါနီး ဤသို့အမှတ်တရ ဓာတ်ပုံများ အရိုက်ခံကြသေးသည်။

ပဲခူးခရိုင် ရွှေကျင်ဂိုဏ်း သံဃာတော်များ အချင်းချင်း ညှိနှိုင်း တိုင်ပင်ကြပြီး သံဃာ ၁၀၀၀-ပြည့် ၍ နှစ်တရာပြည့်မြောက် ဝိနည်းပြန်ပွဲကြီးကို ပြုလုပ်ကျင်းပခြင်းသည် တချက်ခုတ် နှစ်ချက်ပြတ်ဖြစ်၍ လှိုက်လှိုက်လှဲလှဲ ဝမ်းမြောက်ပါသည်ဘုရား–စသည်။

(၃၁) သိက္ခာတော် ၅၄-ဝါရှိ ရတ္တညူမဟာနာယက
မလှိုင်မြို့ လေးမျက်နှာကျောင်းတိုက်
**ဆရာတော် ဦးစန္ဒိမာ-၏ ပဋိသန္ထာရကထာ**

အနှစ်တရာပြည့် ပူဇော်ပွဲကြီး ပြုလုပ်မည်ဟု သိရပါသဖြင့် တပည့်တော်များသည် အလွန်အသွန် ဝမ်းမြောက်လှပါသည်ဘုရား၊ ဤကဲ့သို့ ဆရာတော်အဆက်ဆက် စောင့်ရှောက်ထိန်းသိမ်း၍ လာနိုင်ခြင်းဟူသော အာရက္ခသမ္ပဒါဂုဏ်နှင့် ပြည့်စုံပါသောကြောင့် အောက်ပါဂါထာဖြင့် ချီးကျူးအပ်ပါသည်။

သာဂါရာ အနဂါရာ စ၊ ဥဘော အညောညနိဿိတာ။
အာရာဓယန္တိ သဒ္ဓမ္မံ၊ ယောဂက္ခေမံ အနုတ္တရံ။

(၃၂) သိက္ခာတော် ၅၄-ဝါရှိ နာယက
သုံးခွမြို့ ဘုရားကြီးကျောင်းတိုက်
**ဆရာတော် ဦးဝိစယ-၏ ပဋိသန္ထာရကထာ**

ပစ္စန္တံ နဂရံ ယထာ၊ ဂုတ္တံ သန္တရဗာဟိရံ။
ဧဝံ ဂေါပေထ အတ္တာနံ၊ ခဏော ဝေါ မာ ဥပစ္စဂါ—

ဟူသော ဘုရားရှင်စကားတော်ကိုနာယူပြီးလျှင် သာသနာတော်တွင်း ကြုံကြိုက်ခိုက် အရဟတ္တမဂ်ဉာဏ်ကို မရမချင်း မဆုတ်နစ်သော အားထုတ်ခြင်းဖြင့် သိက္ခာသုံးရပ်ကို အားထုတ်နိုင်ကြပါစေ–စသည်။

(၃၃) သိက္ခာတော် ၅၄-ဝါရှိ ဝိနည်းဓိုရ်ဂိုဏ်းထောက်
ပုသိမ်မြို့ မောင်းထောင်ကျောင်းတိုက်
**ဆရာတော် ဦးကုဏ္ဍလ-၏ ပဋိသန္ထာရကထာ**

ယဿ သဗြဟ္မစာရီသု၊ ဂါရဝေါ နုပလဗ္ဘတိ။
ပရိဟာယတိ သဒ္ဓမ္မာ၊ မစ္ဆော အပ္ပောဒကေ ယထာ—

ဟူ၍ ဟောတော်မူအပ်သော ဒေသနာတော်ကို ထောက်ဆ၍၎င်း၊ ''ပရိယတ္တိမူလကာ ဟိ ပဋိပတ္တိ'' ဟူသော အဋ္ဌကထာစကားကို ထောက်ဆ၍၎င်း သီတင်းသုံးတော် သံဃာတော်တို့၌ ငယ်ကုန်ငယ်ကုန်သော သံဃာတော်တို့က ကြီးကုန်ကြီးကုန်သော အရှင်မြတ်တို့နှင့် ရိုသေလေးစားစွာ ရှိကြ၍ သုတ် ဝိနည်း အဘိဓမ္မာ ပရိယတ္တိ ၌ လေ့လာအားထုတ်တော်မူကြ၍ သာသနာတော် ကြီးပွါးအောင် ဆောင်ရွက်နိုင်ကြပါစေသတည်း–စသည်။



ရာပြည့်ပူဇော်ပွဲကြွ သံဃာတော်များ ပဲခူး သံတံတားကြီးပေါ်မှ ကြွတော်မူလာကြစဉ်။



ရာပြည့်ပူဇော်ပွဲသို့သွားရာ လမ်းဝတိုင်း၌ ဤသို့ ပြင်ဆင်ထားကြသည်။

(၃၄) သိက္ခာတော် ၅၃-ဝါရှိ ဝိနည်းဓိုရ်ဂိုဏ်းထောက်
သုံးဆယ်မြို့ မောင်းထောင်ကျောင်းတိုက်
**ဆရာတော် ဦးစန္ဒိမာ-၏ ပဋိသန္ဓာရကထာ**

အချို့ ရဟန်းယောင် အရေခြုံသမားတွေ မြို့ရွာတိုင်းမှာ အနှံ့အပြား အလှူခံနေကြသည်၊ ယခုအခါ ရဟန်းအစစ် အရေအတွက် နည်းပါးလာတာ ဝမ်းနည်းဘွယ်ရာ ဖြစ်ရပေသည်၊ နောင် အနာဂတ်ကာလ မှာ (အစစ်တခု အတုတထောင် အယောင်ဆောင်တသိန်း) ဆိုသောကိန်း ဆိုက်ရောက်လာမလားမသိရ၊ ထို့ကြောင့် အတုအယောင် ဒုဿီလအရေခြုံတို့ ပပျောက်ပါစေဟု ဆုတောင်းပါသည်-စသည်။

(၃၅) သိက္ခာတော် ၅၃-ဝါရှိ အနုနာယက
ကော့သူးလေပြည်နယ် ကော့ကရိတ်မြို့ ကျုံဒိုး ဓမ္မသုခကျောင်းတိုက်
**ဆရာတော် ဦးသုဘောဂ-၏ ပဋိသန္ဓာရကထာ**

အညီအညွတ် တူမျှသော ကိုယ်စိတ်ရှိကုန်သော ပုဂ္ဂိုလ်တို့အား ဘုရားစကားတော်ကို သင်ကြားခြင်း၊ ရုတင်ဆောင်ခြင်း၊ ရဟန်းတရား အားထုတ်ခြင်းငါ ချမ်းသာလွယ်ကူပါပေ၏၊ ထို့ကြောင့် ချစ်သားရဟန်းတို့သည် အညီအညွတ် စည်းဝေးကြကုန်သည်ဖြစ်အံ့၊ အညီအညွတ် ထကြွကုန်သည်ဖြစ်၍ အညီအညွတ် သံဃာ့အမှုတို့ကို ပြုလုပ်ကြကုန်သည်ဖြစ်အံ့၊ သင်ချစ်သားတို့အား ကြီးပွါးခြင်းကိုသာ အလိုရှိအပ်၏၊ ဆုတ်ယုတ်ခြင်းကို အလိုမရှိအပ်-ဟူသော ဒေသနာတော်နှင့်အညီ ဆောင်ရွက်နိုင်ကြပါစေသတည်း-စသည်။

(၃၆) သိက္ခာတော် ၅၃-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
အမရပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်
**ဆရာတော် ဦးဇနကာဘိဝံသ-၏ ပဋိသန္ဓာရကထာ**

အနာဂတေ လဇ္ဇီ ရက္ခိဿတိ၊ အနာဂတ်ကာလ၌ ဗုဒ္ဓမြတ်စွာ သာသနာတော်ကို လဇ္ဇီသူမွန် သီလဝန် ပုဂ္ဂိုလ်သည် စောင့်ရှောက်ရစ်လိမ့်မည်ဟု သုံးကြိမ် ကြွေးကြော်တော်မူခဲ့ကြပါသည်၊ ထို့ကြောင့် ဆရာတော် ဦးသီလမှစ၍ လဇ္ဇီသူမွန် သီလဝန်ပုဂ္ဂိုလ်တို့ စောင့်ရှောက်တော်မူအပ်ခဲ့သော တောရဂိုဏ်း သာသနာတော်ကို နောင်လာအဆက်ဆက်တို့ မပျက်မကွက် ဆောင်ရွက်နိုင်ဘို့ရန် လဇ္ဇီအဆက်ဆက် ပေါ်ထွက်နိုင်ပါစေသတည်း-စသည်။

(၃၇) သိက္ခာတော် ၅၃-ဝါရှိ ဂိုဏ်းအုပ်
ပခုက္ကူခရိုင် ဂန့်ဂေါမြို့ ကံရွာ ဘောဉ်ပြင်ကျောင်း
**ဆရာတော် ဦးဉာဏဝံသ-၏ ပဋိသန္ဓာရကထာ**

ရှေးရှေးသော ဆရာတော်ဘုရားကြီးများ အားထုတ် စောင့်ရှောက်တော်မူခဲ့ကြသလို ယခု အနှစ်တရာပြည့် ရောက်လာသည့်အထိ အဆက်မပြတ် ဆောင်ရွက်လာခြင်းသည် ဘုရားရှင်၏ သာသနာတော်ကြီးကိုဝင်း၊ ရွှေကျင်ဂိုဏ်းကြီးကိုဝင်း တိုးတက်ကျယ်ပြန့် ခိုင်ခံ့ တည်တံ့စေရန် အားထုတ်ကြခြင်းဖြစ်ပါ

သည်၊ ယခု ကြွရောက်တော်မူကြသည့် ဆရာတော်များသည်လည်း ဘုရားရှင်သာသနာ တည်ရှိနေသမျှ အဆက်မပြတ်စေရန် အားထုတ်ဆောင်ရွက်တော်မူကြလိမ့်မည်ဟု ယုံကြည်ပါကြောင်း – စသည်။

(၃၈) သိက္ခာတော် ၅၃-ဝါရှိ ရတ္တညူမဟာနာယက
တွံတေးမြို့ ခလုပ် ပိဋကတ်ကျောင်းတိုက်
**ဆရာတော် ဦးဇယန္တ—၏ ပဋိသန္ထာရကထာ**

ပဲခူးမြို့၌ ရာပြည့်နှစ် သံဃာတော်(၁၀၀၀)တထောင်နှင့် ကျင်းပမည်ဆိုသည့် သတင်းကို ကြားရ၍ အလွန်လည်း ဝမ်းမြောက် ဝမ်းသာဖြစ်ပါ၏၊

သမဂ္ဂါနံ တပေါ သုခေါ၊ သုခါ သံဃဿ သာမဂ္ဂီ-ဟူသည်နှင့်အညီ နောင်ကိုလည်း ဆတက်ထမ်းပိုး တိုး၍ ကျင်းပနိုင်ရန် ဆုမွန်ကောင်း တောင်းလိုက်ပါသည် – စသည်၊

(၃၉) သိက္ခာတော် ၅၃-ဝါရှိ ဂဏနာယက
ပခုက္ကူခရိုင် ထီးလင်းမြို့ မဟာဂန္ဓာရုံကျောင်းတိုက်
**ဆရာတော် ဦးဘဂ္ဂဝ – ၏ ပဋိသန္ထာရကထာ**

မိမိတို့ ပြန်ဆိုတော်မူကြသော ဝိနည်းဒေသနာတော်နှင့် ညီညွတ်စွာ ကိုယ်နှုတ်တို့ဖြင့်လည်း ကျင့်ကြံတော်မူကြပါမှသာ တည်ထောင်တော်မူခဲ့သော သာသနာတော်ကြီးသည် တကယ်အမှန် ကြီးပွါး စည်ကားမည် ဖြစ်ပါ၍ ပဌမရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ပဲခူးတောရ ဂဏသမုဋ္ဌာပက တောရဂိုဏ်း ဆရာတော်ဘုရားကြီးတို့၏ တပည့်ဂိုဏ်းသား အစစ်ကြီးတွေ ဖြစ်ကြရလေအောင် အထူးသည်းခံ၍ သာသနာတော်အကျိုး ဂိုဏ်းဂဏအကျိုးတို့ကို တိုးပြီး ဆောင်ရွက်နိုင်ကြပါစေ....စသည်၊

(၄၀) သိက္ခာတော် ၅၂-ဝါရှိ ရတ္တညူ မဟာနာယက
ရွှေဘိုခရိုင် ဝက်လက်မြို့ မင်းရွာ ကျောင်းတိုက်
**ဆရာတော် ဦးသုမန—၏ ပဋိသန္ထာရကထာ**

နေမင်းနှင့်တူ၍ ဘုရားရှင်၏သာသနာတော်မြတ်သည် နေမင်း၏ အရောင်အလင်းနှင့် တူပေသည်၊ နေမင်း မကွယ်ပျောက်သေးသမျှ အရောင်အလင်းလည်း ကွယ်ပျောက်ဦးမည် မဟုတ်ပေ၊ အရောင်အလင်းကို အလိုရှိသူသည် နေမင်း ကွယ်ပျောက်ခြင်းကို အလိုမရှိအပ်သကဲ့သို့ ဘုရားရှင်၏ အဆုံးအမ သာသနာတော်မြတ်ကို အလိုရှိသူသည်လည်း ဝိနည်းဒေသနာ ကွယ်ပျောက်သွားမှုကို အလိုမရှိအပ်၊ မကွယ်ပျောက်အောင် စောင့်ရှောက်ရမည်သာ ဖြစ်ပေသည် – စသည်၊

(၄၁) သိက္ခာတော် ၅၂-ဝါရှိ နာယက
ရန်ကုန်မြို့ ကျောင်းတော်ရာ ရွှေကျင်တိုက်
**ဆရာတော် ဦးဓမ္မဝံသ—၏ ပဋိသန္ထာရကထာ**

အောက် သံဃာငယ်ဟူသမျှတို့က အထက် ဦးစီးနာယက မထေရ်ကြီးတို့ ဆုံးမစီစဉ်ပြောဆိုသည်ကို မည်သို့မည်ပုံ ဆန္ဒ ဘယစသည် ဖြစ်တင်ကဲ့ရဲ့မရှိ အထက်ဆရာတော်ကြီးတို့၏ စကားကို မသွေမလှန် ပြား

ပြားဝပ် နာခံနိုင်ကြအောင် ယင်းနာယကဆရာတော်ကြီးတို့ကလည်း သမုဒ္ဒရာ ဝဲသြဃကူး လေမုန်တိုင်း အမျိုးတွင် မာလိန်မှူးသဘော်သူကြီးကဲ့သို့ ခန္တီ မေတ္တာ အခါမပြတ် သတိ ဝီရိယမလပ်စေရ အလုံးစုံသော အမှုဟူသမျှတို့၌ ပြေပြစ်အောင် အထူး အားထုတ်သင့်ပါသည်–စသည်၊

(၄၂) သိက္ခာတော် ၅၂-ဝါရှိ အကျိုးဆောင်
ဥက္ကံမြို့ ဘုရားကြီးကျောင်းတိုက်
**ဆရာတော် ဦးဝိဇယ—၏ ပဋိသန္ဓာရကထာ**

ယခုလို ကြွရောက်ချီးမြှင့်တော်မူကြသဖြင့် ရတ္တညူမဟတ္တစသော ဂုဏ်တို့ဖြင့် မွမ်းထုံအပ်သော ဆရာတော်ဘုရားကြီးများကို ဖူးမြင်ရခြင်း ထေရဒဿနမင်္ဂလာ, ဩဝါဒကို နာယူရခြင်း ဓမ္မဿဝနမင်္ဂလာ စသည်တို့ကို အခြေခံပြုပြီး မိမိတို့အချင်းချင်း တွေ့ကြုံဆုံစည်းရသဖြင့် ပြောဆိုလွယ်သော စကားရှိသူ ဖြစ်ရခြင်း သောဝစဿတာ မင်္ဂလာဂုဏ်,ဥက္ကဋ္ဌာရုံ အနိဋ္ဌာရုံတို့၌ တုန်လှုပ်ခြင်းမရှိ သည်းခံနိုင်ခြင်း အဓိဝါသန ခန္တီဂုဏ်, စိတ်ကောင်းထားရှိနိုင်ခြင်း သောရစ္စဂုဏ် စသော ဒိဋ္ဌဓမ္မိကတ္ထ သမ္ပရာယိကတ္ထ နှစ်ဝသော ကောင်းကျိုးတရား တိုးပွါးဘို့ရန်အကြောင်း ကောင်းကောင်းကြီးဖြစ်ပါသည်–စသည်။

(၄၃) သိက္ခာတော် ၅၂-ဝါရှိ နာယက
မြောင်းမြမြို့ တူးမြောင်း သာသနဇောတိကကျောင်း
**ဆရာတော် ဦးဂေါပကဉာဏ—၏ ပဋိသန္ဓာရကထာ**

လဝန်းအရောင် နေဝန်းအရောင်တို့သည် ညစ်ကြေးမတင် သန့်စင်သည့်ရေတို့မှာသာ အရောင် အလင်း ထင်ကုန်သကဲ့သို့ ထို့အတူ ဗုဒ္ဓကိစ္စ ဓမ္မကိစ္စ သံဃကိစ္စ သာသနကိစ္စ ကောင်းမြတ်သော မင်္ဂလာကိစ္စ အဝဝတို့မှာ ကြည်လင်တောက်ပြောင်သည့် သဒ္ဓါတရားရှိမှသာ ပြုလုပ်ဆောင်ရွက်နိုင်ကြပါသည်၊ ထို့ကြောင့် အရှင်မြတ်တို့မှာ ထူးကဲသောသဒ္ဓါ ကြည်လင်သောသဒ္ဓါ တောက်ပြောင်သောသဒ္ဓါ အားကြီးသောသဒ္ဓါ ပြည့်ဝသောသဒ္ဓါ ရှိကြပါသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်များ ဖြစ်၍သာ ဤမျှလောက် ခမ်းနားကြီးကျယ် စည်ကားသိုက်မြိုက် ထယ်ဝါလှသော ဝိနယစာပြန်ပွဲကြီးကို ဆင်နွှဲ ပြုလုပ်နိုင်ပါကြောင်း–စသည်။

(၄၄) သိက္ခာတော် ၅၂-ဝါရှိ အနုနာယက
မုဒုံမြို့ သံဖြူဇရပ် ဓမ္မာရာမကျောင်း
**ဆရာတော် ဦးကုဏ္ဍလ—၏ ပဋိသန္ဓာရကထာ**

လျှောက်ထားလိုသည်မှာ–ဂဏသမုဋ္ဌာပက ပဌမရွှေကျင်ဆရာတော် ဒုတိယ မဟာဝိသုဒ္ဓါရုံဆရာတော် ပဲခူးမြို့ တောရဆရာတော်ကြီး ကျိုက္ကစ်ဆရာတော် ရွှေအောင်ရွှေးဆရာတော်-စသော ဆရာတော် သံဃာတော်တို့ တည်ထောင်ထားခဲ့သော ရွှေကျင်ဂိုဏ်းနှင့်တကွ ပဲခူးမြို့ စာပြန်ပွဲကြီးကို မပျောက်မပျက် အောင် ဆောင်ရွက်တော်မူလာကြသော ပဲခူးနယ်လုံးဆိုင်ရာ ဆရာတော်သံဃာတော်တို့အား ဂိုဏ်းဂဏ ကိုချစ်သော ပုဂ္ဂိုလ်တပါးအနေဖြင့် အထူးပင် အားရနှစ်သက် ကျေးဇူးတင် ဝမ်းမြောက်ကြပါကြောင်း– စသည်၊



နံက်ပိုင်း သာသနာရေး သံဃာ့အစည်းအဝေး၌ အရပ်ရပ်မှ
ဆရာတော်ဘုရားကြီးများအား ဤသို့ ဖူးမြင်ရသည်။



ရာပြည့်ဓမ္မာရုံကြီး၏ အပေါ်ပိုင်းကို
အဝေးမှ ဤသို့ ထင်ရှားစွာ မြင်ကြရသည်။

(၄၅) သိက္ခာတော် ၅၂-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
မြောင်းမြမြို့ ဇေယျမေဒနီကျောင်းတိုက်

ဆရာတော် ဦးပဏ္ဍိတ—၏ ပဋိသန္ဓာရကထာ

အပ္ပမတ္တာ သတိမန္တော၊ သုသီလာ ဟောထ ဘိက္ခဝေါ။
သုသမာဟိတ သင်္ကပ္ပါ၊ သစိတ္တ မနုရက္ခထ။ —

ဟူသော ဒီဃနိကာယ မဟာဝဂ္ဂပါဠိ ပရိနိဗ္ဗာနသုတ်လာ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူအပ်ခဲ့သော ဂါထာတော်၌ အပ္ပမတ္တာ သတိမန္တော-ဟူသောပါဠ်ဖြင့် သမ္မာသတိမဂ္ဂင်ကို ဟောတော်မူခဲ့ပါသည်။ သုသီလာ-ဟူသောပါဠ်ဖြင့် သမ္မာဝါစာ သမ္မာကမ္မန္တ သမ္မာအာဇီဝ-ဟူသော မဂ္ဂင် (၃)ပါးတို့ကို ဟောတော်မူခဲ့ပါသည်။ သုသမာဟိတသင်္ကပ္ပါ-ဟူသော ပါဠ်ဖြင့် သမ္မာဝါယာမ သမ္မာသင်္ကပ္ပ မဂ္ဂင်တို့ကို ဟောတော်မူခဲ့ပါသည်၊ သစိတ္တံ-ဟူသောပါဠ်ဖြင့် သမ္မာသမာဓိမဂ္ဂင်ကို ဟောတော်မူခဲ့ပါသည်—စသည်၊

(၄၆) သိက္ခာတော် ၅၁-ဝါရှိ နာယက
သာယာဝတီခရိုင် လက်ပံတန်းမြို့ မြစ်ကျွေကျောင်းတိုက်

ဆရာတော် ဦးကုဏ္ဍလ—၏ ပဋိသန္ဓာရကထာ

တပည့်တော်များ၏ ပြန်လှန်တော်မူသော မြစ်ကျွေတိုက်ဆရာတော်ဘုရားကြီးသည် မင်းတုန်းမင်းကြီးလက်ထက်တွင် မန္တလေးမြို့ စံကျောင်းတိုက်၌ ပရိယတ္တိသင်ကြားနေစဉ် ပဌမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကြီးမားပုံကိုကြား၍ ကြည်ညိုပြီး စံကျောင်းတိုက်မှ ရွှေကျင်ဆရာတော်ဘုရားကြီးထံသို့ ပရိယတ္တိသင်ကြားရန်နှင့် အဆုံးအမ ဩဝါဒနာယူရန် (၃)ဝါနေခဲ့ဘူးကြောင်း ထိုမှ ရန်ကုန် ရန်ကုန်မှ ကွမ်းခြံကုန်းမြို့အပိုင် အိမ်ခြေ ၁၀၀၀-ခန့်ရှိ တော်ကူးကြီးရွာ၌ စာသင်တိုက်ဖွင့်၍ ရွှေကျင်သာသနာ ပြန့်စေခဲ့ပါသည်—ဟု မိန့်ဘူးပါသည်—စသည်၊

(၄၇) သိက္ခာတော် ၅၁-ဝါရှိ နာယက
ရေတာရှည်မြို့ ရွှေကျင်ကျောင်းတိုက်

ဆရာတော် ဦးကေတု—၏ ပဋိသန္ဓာရကထာ

ယဒိပိ မေ အန္တဂုဏံ၊ နိက္ခမိတွာ ဗဟိ စရေ။
နေဝ ဘိန္ဒေယျ မာဇီဝံ၊ ဇဇ္ဇမာနောပိ ဇီဝိတံ။

ဟူသော ဒေသနာတော်အရ လေးပါးသော မြတ်သီလကို သက်မကာ ခင်မင်လျက် လေးအင်သော သစ္စာကို မဂ်ဉာဏ်ဆို မှန်ပြောင်းဖြင့် မစောင်းမငဲ့ တည့်တည့်ကြီးတွေ့မြင်ကာ ဝဋ်သုံးပါးသံသရာမှ တခါတည်း ထပြီးလျှင် အမတဆိတ်ငြိမ် ဝိသုဒ္ဓိစံအိမ်သို့ တရှိန်တည်းကပ်ကြရအောင် ထူးမြတ်သည့်အခါတွင် အပ္ပမာဏ သမ်ဏကိစ္စ နှစ်သာရမျှကိုသာ ခုဘဝ နောင်ဘဝ လွယ်ကူစွာရခြင်းငှါ လှလှကြီး ကြိုးစား၍ တိုးပွါးအောင် အားထုတ်တော်မူကြရန်အကြောင်း ကောင်းမြတ်သော စိတ်ထားဖြင့် လျှောက်ထားအပ်ပါသည်—စသည်၊



ကျောင်းအမကြီး ဒေါ်မမနှင့် အဖွဲ့ဝင်များ။



ကျောင်းအမကြီး ဒေါ်ငွေခိုင်နှင့် အဖွဲ့ဝင်များ။

## (၄၈) သိက္ခာတော် ၅၁-ဝါရှိ ရတ္တညူ မဟာနာယက ကျောင်းကုန်းမြို့ ဒက္ခိဏာရာမကျောင်းတိုက်

### ဆရာတော် ဦးသူရပတိ–၏ ပဋိသန္ဓာရကထာ

(၁) မြတ်စွာဘုရား ပွင့်တော်မူခြင်းသည် လောကဌ် ရခဲ၏၊ (၂) ဘုရားဟောကြားတော်မူအပ်သော သုတ် အဘိဓမ္မာ ဝိနည်းတရားကို ဟောကြားတတ်သောပုဂ္ဂိုလ် လောကဌ် ရခဲ၏၊ (၃) ဟောကြားသော် သိနိုင်သောပုဂ္ဂိုလ် လောကဌ် ရခဲ၏၊ (၄) သိသော် လောကုတ္တရာ တရားအား လျော်စွာသော အကျင့်ကို ကျင့်သောပုဂ္ဂိုလ် လောကဌ် ရခဲ၏၊ (၅) သူ့ကျေးဇူးကို သိတတ် ထင်ရှားပြတတ်သော ပုဂ္ဂိုလ်သည် လောကဌ် ရခဲ၏–ဟူသော ပဉ္စကနိပါတ် ပါဠိတော်ကို ဆင်ခြင်တော်မူကြ၍ ပြည့်စုံအောင် အားထုတ်သင့်ကြောင်း လျှောက်ထားအပ်ပါသည်–စသည်။

## (၄၉) သိက္ခာတော် ၅၁-ဝါရှိ ရတ္တညူ မဟာနာယက ရွှေဘိုခရိုင် ဝက်လက်မြို့ လှတော ဒက္ခိဏာရုံကျောင်းတိုက်

### ဆရာတော် ဦးသုဇာတ–၏ ပဋိသန္ဓာရကထာ

ဤကဲ့သို့ ဝိနည်းစာပြန်ပွဲကြီးမျိုးကို ပဲခူးဌာနက စံပြအဖြစ်ဖြင့် ပြုလိုက်ခြင်းသည် ရွှေကျင်သာသနာတွင်မက တသာသနာလုံးက နမူနာယူသင့်ပါသည်၊ ဤကဲ့သို့ ဝိနည်းစာပြန်ပွဲကြီး ကျင်းပသဖြင့် (ဝိနယေ ဌိတေ သာသနံ ဌိတံ၊ ဝိနယော နာမ သာသနဿ အာယု) ကျမ်းဂန်လာသည့်အတိုင်း ဝိနည်းတရားတော် ထင်ရှားတည်သည်ရှိသော် မြတ်စွာဘုရားသာသနာတော် တည်သည်မည်၏၊ ပဲခူး အရညဝါသီ ရွှေကျင်နိကာယ ဆရာတော်သံဃာတော်များ တက်သစ်စနေဝန်း ထွန်းသစ်စ လပမာကဲ့သို့ တနေ့တခြား ကြီးမားတိုးတက်တော်မူကြပါစေ–စသည်။

## (၅၀) သိက္ခာတော် ၅၀-ဝါရှိ ဂိုဏ်းအုပ် မြင်းခြံမြို့ လေးတန်း ရွှေဘုံသာကျောင်း

### ဆရာတော် ဦးစန္ဒသီရိ–၏ ပဋိသန္ဓာရကထာ

ရှေးရှေးသော ဆရာတော်ကြီးတို့၏ အနေအထိုင် အသွားအလာမှစ၍ ရှေးမူဟောင်းကို မပျက်ကြအောင် သတိဆောင်၍ မိမိတို့ တပည့်တပန်း ရဟန်းသာမဏေတို့အား တွင်းထွက်မျိုးမှန် အဘိုးတန်ကျောက်မျက်အလားသို့ ပျက်ပြားခြင်းသဘောမရှိ ပကတိရွှေကျင်ဇာတိ ရွှေကျင်သွေး ရွှေကျင်အမူအရာ ဟူသမျှတို့ကို ဘယ်အခါမှ မပျက်ကြစေဘဲ အမြဲတမ်း ရွှေကျင်သာသနာကြီး၏ ကြီးပွါးရာ ကြီးပွါးကြောင်း တိုးတက်ရာ တိုးတက်ကြောင်း နည်းကောင်းလမ်းမှန် ထက်သန်ကြိုးကုတ် အားထုတ်တော်မူကြလျက် ဝဋ်ဆင်းရဲဒုက္ခအပေါင်းမှ ထွက်မြောက်နိုင်ကြပါစေ–စသည်။

(၅၁) သိက္ခာတော် ၅၀-ဝါရှိ ဝိနည်းစိုရ် ဂိုဏ်းထောက်
သုံးဆယ်မြို့ မောင်းထောင်ကျောင်းတိုက်
**ဆရာတော် ဦးဣန္ဒက – ၏ ပဋိသန္ထာရကထာ**

အတ္တောဝါဒ ပရောဝါဒ နှစ်မျိုးရသော ဒေသနာဂါထာတော်များဖြင့် ပဋိသန္ထာရစကား ရေးသား ပေးပို့ ဆက်ကပ်ပါကြောင်း။

(က) ခန္တီဗလာ သမဏဗြာဟ္မဏာ။
(ခ) စက္ခုမာပိ ယထာ အန္ဓော၊ သောတဝါ ဗဓိရော ယထာ။
ပညဝါပိ ယထာ မူဂေါ၊ ဗလဝါ ဒုဗ္ဗလောရိဝ။
(ဂ) ရဟောဝါဒံ န ဘာသေယျ၊ န သမ္မုခါ ခီဏံ ဘဏေ။
အတရမာနော ဘဏေယျ၊ တရမာနော နော ဘဏေ။

(၅၂) သိက္ခာတော် ၅၁-ဝါရှိ ရတ္တညူမဟတ္တ နာယက
လပွတ္တာမြို့ လေးထပ် ပရိယတ္တိကျောင်းတိုက်
**ဆရာတော် ဦးကုသလ – ၏ ပဋိသန္ထာရကထာ**

ငါးခုံဆရာတော်ကြီး၏ တရားတော်တို့ကဲ့သို့ နိုင်နင်းအောင် ဆုံးမခဲ့ဘူးသူတို့ လောက၌ မရှိကြ၊ နိဗ္ဗာန် ဝင်၍ ချမ်းသာကြကုန်ပြီး၊ ယခု ရှင်လူများလည်း ထိုနှစ်ဦးသားကို နှိပ်ကွပ်ဆုံးမနိုင်မှ ယခုထက် ချမ်း သာ၍ မကြာခင် နိဗ္ဗာန်ဝင်လျက် ဆင်းရဲခပ်သိမ်း ကုန်ငြိမ်းအေးမြကြကုန်လတ့်၊ ထို့ကြောင့် သမဏ တရား ကြိုးစားအားထုတ်ကြကာ နိဗ္ဗာန်ချမ်းသာကို လျင်မြန်စွာ မျက်မှောက်ပြုနိုင်ကြပါစေ–စသည်။

(၅၃) သိက္ခာတော် ၅၁-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
ရန်ကုန်မြို့ ကမ္ဘာအေး ဇမ္ဗုဒီပကျောင်းတိုက်
**ဆရာတော် ဦးဉာဏုတ္တရ – ၏ ပဋိသန္ထာရကထာ**

ဓလေ့ထုံးစံဆိုသည်မှာ ဣန္ဒြေသိက္ခာကို လုံခြုံစွာ စောင့်စည်းခြင်းနှင့် ဓမ္မကြောင်း သက်သက်ဖြစ် သော သုဒ္ဓသာသနာရေး၌၎င်း၊ လောကဓမ္မ အကြောင်းနှစ်ရပ် ဆက်စပ်ရောထွေးသော မိဿကသာသ နာရေး၌၎င်း–အပ္ပသန္ဒာနံ ဝါ ပသာဒါယ၊ ပသန္နာနံ ဝါ ဘိယျောဘာဝါယ-ဖြစ်အောင် စိတ်ဖြင့်ကြံခြင်း၊ နှုတ်ဖြင့်မြွက်ခြင်း၊ ကိုယ်ဖြင့်ပြုခြင်းဟူသော ရှေးကျင့်ယဉ်ကျေးမှုပင်ဖြစ်ပါသည်။ ရရှိသောအခွင့်အရေး အလျောက် လျောက်ပြီးစကားကို အလွန်တိုးပွါး ကြီးမားစေသည့် အဆန္ဒန်းမျိုးဖြင့် ရှေးကျင်သာသနာ ကမ္ဘာတည်အောင် ဝံ့ဝံ့စားစား လျှောက်ထားလိုပါကြောင်း–စသည်။

(၅၄) သိက္ခာတော် ၅၁-ဝါရှိ မြို့မနာယက
မော်လမြိုင်မြို့ မြို့မ သတိပဋ္ဌာန်ကျောင်းတိုက်
**ဆရာတော် ဦးပဏ္ဍိ – ၏ ပဋိသန္ထာရကထာ**

အထက်အောက် မြန်မာပြည် ရှေးကျင်တဂိုဏ်းလုံး ဝိနည်းစာပြန်ပွဲဟူသမျှ၌ (သီလေ ပတိဋ္ဌာယ စတ္တာရော သတိပဋ္ဌာနာ ဘာဝေယျာသိ) ဟူသော ဒေသနာနှင့်အညီ သီလ သမာဓိ ပညာလမ်း တက်

လှမ်းစေရန် သတိပဋ္ဌာန်ပါဠိတော်ကို စာပြန်ပွဲ၌ ထည့်သွင်းပြန်ဆိုလျှင် ၎င်းပါဠိတော်၏ အနက်အဓိပ္ပါယ်ကို သဘာဝကျကျ သုတမယအသိဉာဏ် စိန္တာမယအသိဉာဏ် ဘာဝနာမယအသိဉာဏ် သုံးမျိုးလုံး ပွင့်လင်း၍ သီလ သမာဓိ ပညာ စည်ကားတိုးတက်ရေး၏ အကြောင်းဖြစ်ပါသောကြောင့် တိုက်တွန်းတောင်းပန်အပ်ပါသည်ဘုရား – စသည်။

(၅၅) သိက္ခာတော် ၄၉-ဝါရှိ ကမ္မဋ္ဌာနာစရိယ
အောင်လံမြို့ ရွှေကြိုးကြာတောရကျောင်းတိုက်
**ဆရာတော် ဦးပဏ္ဍိတ – ၏ ပဋိသန္ဓာရကထာ**

ပဌမ ရွှေကျင်ဆရာတော်ဘုရားကြီးနှင့် ပဲခူး တောရဆရာတော်ကြီး ဦးသီလစသော ဆရာတော်ဘုရားများ အဆက်ဆက် မပျက်မကွက် ပြုလုပ်အားထုတ်ခဲ့သော ဗုဒ္ဓပညတ္တ ဝိနယစာပြန်ပွဲတော်ကြီး၏ ယခု နှစ်တရာပြည့် ပွဲတော်ကြီးကိုရင်း၊ ဝိနည်းပိဋကတ် ထွဋ်အမြတ်ပူဇော်ပွဲကြီးကိုရင်း သာသနဒါယကာ ဒါယိကာမများနှင့် ဆရာတော်များညီညွတ်၍ အထူးစီမံအပ်သော ပွဲတော်ကြီးဖြစ်ပါသောကြောင့် ဘုရားသာသနာ အဓွန့်ရှည်စွာ စည်ပင်ပြန့်ပွါး ထွန်းကားမည့်အကြောင်း ဖြစ်ပါ၍ အလွန်အားရ ဝမ်းသာလျက်ရှိပါကြောင်း – စသည်။

(၅၆) သိက္ခာတော် ၄၉-ဝါရှိ မဟာနာယက
မဒေါက်မြို့ လှည်းဆိပ် သာသနဝံသကျောင်းတိုက်
**ဆရာတော် ဦးဝါယာမ – ၏ ပဋိသန္ဓာရကထာ**

အတ္တဒီပါ ဘိက္ခဝေ ဝိဟရထ အတ္တနာထာ အတ္တပဋိသရဏာ—ချစ်သားတို့ သင်တို့သည် မိမိကိုယ်ကိုသာလျှင် မှီခိုရာကျွန်းကြီးသဖွယ် ဖြစ်ကြကုန်လျက် မိမိကိုယ်ကိုသာလျှင် အားထားရာ ရှိကြကုန်လျက် မိမိကိုယ်ကိုသာလျှင် ကိုးကွယ်ရာရှိကြကုန်လျက် နေကြကုန်လော့ – ဟု မိန့်မှာတော်မူသည့်အတိုင်း ဗုဒ္ဓဘာသာဝင် လူရှင်အပေါင်းတို့သည် ထိုဒေသနာတော်ကို အစဉ်လိုက်နာသောအားဖြင့် အာရုံပြုလျက် သံသရာ၌ ကျင်လည်ရသော "ဘဝတခုမှ ဘဝတခုသို့" ကူးပြောင်းရသောအရေးသည် သတ္တဝါတို့မှာ တကယ့်အရေးကြီးဖြစ်သဖြင့် အတ္တဒီပ၊ အတ္တနာထ၊ အတ္တပဋိသရဏ ဖြစ်အောင် ကြိုးစားဘို့လိုပါသည် – စသည်။

(၅၇) သိက္ခာတော် ၄၇-ဝါရှိ ဝန်ဆောင်
ကျိုက်ထိုမြို့ မေဃဝန်ကျောင်းတိုက်
**ဆရာတော် ဦးရေဝတ – ၏ ပဋိသန္ဓာရကထာ**

ပါရမီသမ္ဘာရတွေ အထိုက်အလျောက် ပြည့်ကြသဖြင့် ရခဲလှစွာသော သာသနာဝယ် အတွင်းကျကျဖြစ်လာကြသည်အားလျော်စွာ ဗုဒ္ဓ၏တာဝန် ကုန်ဆုံးသဖြင့် ခန္ဓာဇာတ် ပြတ်ကင်း၍ နိဗ္ဗာန်သို့ ဝင်စံပြီးဖြစ်ရာ ၂၅၀၀-ကျော်လာပြီးဖြစ်သော ဤအခါဝယ် ဆက်လက်၍ ထိုသာသနတာဝန်ကို ကျေပြွန်ပီသမြတ်ဗုဒ္ဓ၏ အလိုတော်ကျအောင် ထမ်းဆောင်ကြသော သားတော်စစ် ဖြစ်ရစ်လေအောင် ကြိုးစားဘို့အရေး အကြိမ်ကြိမ် နှလုံးသွင်းမိသကဲ့သို့ နှလုံးသွင်းမိလိမ့်မည်ဟု ယုံကြည်ပါကြောင်း – စသည်။



ရာပြည့်ပူဇော်ပွဲတွင် ဤသို့နာယူကြသည်၊ အများဘဲ ကုသိုလ်ဖြစ်ကြသည်။



ရာပြည့်ပူဇော်ပွဲတွင် ဤသို့နာယူကြသည်၊ အများဘဲ ကုသိုလ်ဖြစ်ကြသည်။

(၅၈) သိက္ခာတော် ၄၈-ဝါရှိ နာယက
မိတ္ထီလာမြို့ မန်ကျည်းကုန်း ကျောင်းတိုက်
**ဆရာတော် ဦးဉာဏိန္ဒ—၏ ပဋိသန္ထာရကထာ**

သာသနာတော်၏ အသက် သာသနာတည်ကြောင်း ရှေးဆရာတော်ကြီးများ၏ လမ်းကြောင်းကို ကောင်းမြတ်သောစိတ်ထားဖြင့် သာသနာတော်ကြီးပွါးရာ ကြီးပွါးကြောင်း သူတော်ကောင်း ဒကာ ဒကာမများ၏ ရွှေအစဉ်မပျက် ဝိနည်းပြန်ပွဲကြီးကို မပျက်မကွက် ဆက်လက်အားထုတ်ကြရုံမက ယခုလို နောက်ဆက်တွဲ နှစ်တရာပြည့် အောင်ပွဲပါ ညီညာထကြွ ကြီးစွာသော လုံ့လ ဝီရိယဖြင့် ပြုလုပ်ကြသူ တို့ကို ဆက်လက်အားထုတ်ကြပါရန် တိုက်တွန်းပါကြောင်း—စသည်၊

(၅၉) သိက္ခာတော် ၄၇-ဝါရှိ ဝိနည်းဓိုရ် ဂိုဏ်းအုပ်
အင်းစိန်မြို့ ကြို့ကုန်း တောရကျောင်းတိုက်
**ဆရာတော် ဦးဆန္ဒာဓိက—၏ ပဋိသန္ထာရကထာ**

အရည်ဝါသီ ထေရာနုထေရဖြစ်ကြကုန်သော အရှင်မြတ်တို့သည် ကိုယ်နှုတ်နှလုံး သုံးပါးလုံးကို စောင့် စည်းနိုင်ကြပါမူကား ကုန္ဒကိုးထောင်ကျော် သိက္ခာပုဒ်တို့ကို လုံခြုံစွာ ကျင့်သုံးပြီး မည်ပါသောကြောင့် သီလဝန္တဖြစ်တော်မူသော အရည်ဝါသီပဘာဝ ဂဏ္ဍက္ကဋ္ဌ ဘုန်းတော်ကြီး ဦးသီလ၏ အလိုတော်ကျ တပည့်များ ဖြစ်ကြလိမ့်မည်၊ ဆရာတော်ဘုရားကြီးကဲ့သို့ သီလသီတင်းပြန့်နှံ့ ကျော်ကြားအောင် အား ထုတ်နိုင်ကြပါစေ—စသည်၊

(၆၀) သိက္ခာတော် ၄၇-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
ရန်ကုန်မြို့ သာသနာ့ရိပ်သာ
**မဟာစည် ဆရာတော်ဘုရားကြီး—၏ ပဋိသန္ထာရကထာ**

ယင်း ဝိနည်းစာပြန်ပွဲတော်ကြီးကို စတင်ကျင်းပရန် စီမံဆောင်ရွက်တော်မူခဲ့ကြသော ပုဗ္ဗါဂါမီမထေရ် အရှင်မြတ်ဘို့ကိုရင်း ထိုအခါမှစ၍ နှစ်စဉ်မပျက် ဆောင်ရွက်ကျင်းပတော်မူခဲ့ကြသော အနုဂါမီ မထေရ် တို့ကိုရင်း ဝိနည်းတော်ကိုပြန်ဆိုကာ ရှိသေစွာကျင့်တော်မူကြသော ထေရ နဝ မဇ္ဈိမ အရှင်မြတ်တို့ကိုရင်း ဗုဒ္ဓသာသနာတော် ရှည်စွာတည်တံ့ရေး သန့်ရှင်းစင်ကြယ်ရေးအတွက် ဆောင်ရွက် စောင့်ရှောက်ကြ သော ဗုဒ္ဓသာသန အာယုဗ္ဗေဒ သမားတော်ကြီးများအနေဖြင့် ဘုရားတပည့်တော်၏ ဉာဏ်တွင် ထင်မြင် မိပါကြောင်း၊ နောင်လည်း အလားတူပင် မပျက်မကွက် အဆက်ဆက် ဆောင်ရွက်သွားနိုင်သည့်အပြင် အခြေခံ သီလစခန်းမှ သမာဓိပညာစခန်းများသို့လည်း အလွယ်ဘကူ ဆိုက်ရောက်နိုင်ကြပါစေ—စသည်၊

(၆၁) သိက္ခာတော် ၄၇-ဝါရှိ အဂ္ဂမဟာပဏ္ဍိတ
ညောင်တုံးမြို့ ရွှေဟင်္သာတောရကျောင်းတိုက်
**ဆရာတော် ဦးဝိမလ—၏ ပဋိသန္ထာရကထာ**

အစဉ်အဆက် ဆောင်ရွက်တော်မူလာကြသည့် သိဿာနုသိဿ ထေရာနုထေရတို့နှင့်တကွ သဒ္ဓါ ဉာဏ စုံညီကြ၍ မစ္ဆရိယကင်းရှင်း သူတော်စင် ဒကာ ဒကာမခပင်းတို့၏ မယွင်းမထောက် စောင့်ရှောက်



မဏ္ဍပ်မှ ဤသို့ တပါးစီ အလှူခံပြီး ပြန်ကြွတော်မူကြသည်။



သာမဏေလေးများအား ခြင်ထောင် စောင်စသည်တို့ကို ကျောင်းအမများ ဤသို့ကပ်လှူကြသည်။

မှ အရှိန်အဝါကြောင့် နှစ်တရာ အချိန်ရောက်အောင်ပင် မပျောက်မကွယ် သာသနာလောကအလယ်၌ ထယ်ထယ်ဝါဝါ တည်တံ့၍နေမှုကို မျက်ဝါးထင်ထင် မြင်ကြရပြီဖြစ်ရာ အနာဂတ်အခါမှာလည်း ဤဆရာ သမဏတို့နှင့် ဤဒကာဒကာမတို့ တွဲဘက်ကာ ဤ ဝိနယသဘာ မင်္ဂလာပွဲကြီးကို ဝှဲချီးကျင်းပ ဒုတိယရာပြည့်သို့ရောက်အောင် ပို့ဆောင်နိုင်ကြပေလိမ့်မည်ဟု ယုံကြည်မြော်လင့်ကာ ဆုပတ္ထနာ ပြုရပါသတည်း — စသည်၊

(၆၂) သိက္ခာတော် ၄၆-ဝါရှိ နာယက
ဝက်သက်မြို့ မစိုးရိမ် ကျောင်းတိုက်
**ဆရာတော် ဦးတိဿ—၏ ပဋိသန္ထာရကထာ**

ဤသို့သော ပွဲကြီးများကို ကျင်းပရာ၌ မျက်မှောက်ခေတ်လူတို့က (၂၅)နှစ်ပြည့်ပွဲကို (ငွေရတုသဘင်) နှစ်(၅၀) ပြည့်ပွဲကို (ရွှေရတုသဘင်), နှစ်(၁၀၀)ပြည့်ပွဲကို (စိန်ရတုသဘင်), အမည်ပေး၍ ကျင်းပလျက် ရှိကြသည်ဖြစ်ရာ အထွဋ်အထိပ်ဖြစ်သော ဗုဒ္ဓမြတ်စွာ သာသနာတော်ကို ချီးမြှောက်ရန် အတွက် နှစ်တရာပြည့်၍ (စိန်ရတုသဘင်)ပွဲကြီးမျိုးကို ကြုံခဲလှစွာ နှစ်ပေါင်းတရာကြာခါမှ တကြိမ်တခါသာ ကြုံကြရာသည်တွင် တိုက်တိုက်ဆိုင်ဆိုင် ကြုံလာကြရသဖြင့် ကြွရောက်တော်မူကြသော အရှင်မြတ်တို့ ဝမ်းပန်းတသာ ဂုဏ်ယူတော်မူကြသည်နှင့်အတူ ဝမ်းပန်းတသာ ချီးကျူး ဂုဏ်ယူလိုက်ရကြောင်းပါ ဘုရား — စသည်၊

(၆၃) သိက္ခာတော် ၄၆-ဝါရှိ နာယက
သာယာဝတီခရိုင် လက်ပံတန်းမြို့ ဝေဠုဝန်ကျောင်းတိုက်
**ဆရာတော် ဦးကေလာသ—၏ ပဋိသန္ထာရကထာ**

ပရိယတ္တိသာသနာတော်သည် ကန်ရိုးကန်ဘောင်နှင့်တူ၏၊ ပဋိပတ္တိသာသနာတော်သည် ရေနှင့်တူ၏၊ ပဋိဝေဓသာသနာတော်သည် ကန်ရိုးကန်ဘောင်ခိုင်လုံ၍ ရေရှိသောအခါ ရောက်သောကြာနှင့်တူ၏၊ ထို သုံးပါးသောသာသနာတော်တို့တွင် ပရိယတ္တိသာသနာတော်သည် တေဇာကြီးမြင့်သော လူနတ် နိဗ္ဗာန် သုံးတန်မည်ရှိ သမ္ပတ္တိသို့ ရောက်ကြောင်း ရကြောင်းဖြစ်သည့် ပရိယတ္တိသာသနာကို အနှစ်တရာပြည့် အောင် ရွက်ဆောင်အားထုတ်ကြကုန်သော အရှင်မြတ်များနှင့် ဒကာဒကာမအပေါင်းတို့သည် ဆတက် ထမ်းပိုး တိုး၍ အားထုတ်နိုင်ကြပါစေ — စသည်၊

(၆၄) သိက္ခာတော် ၄၆-ဝါရှိ နာယက
သာဝတ္ထိမြို့ ဗိုလ်ကိုးလုံး ကျောင်းတိုက်
**ဆရာတော် ဦးဉာဏ—၏ ပဋိသန္ထာရကထာ**

သုခေါ ဗုဒ္ဓါန မုပ္ပါဒေါ၊ သုခါ သဒ္ဓမ္မ ဒေသနာ။
သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနံ တပေါ သုခေါ။

ဟူသော ဗုဒ္ဓမြတ်စွာ ဒေသနာတော်အတိုင်း ပဲခူး ရွှေကျင်ဂိုဏ်းကြီး၏ အနှစ် ၁၀၀—ပြည့် ဝိနယ စာပြန်ပွဲကြီးသို့ အမြို့မြို့ အရွာရွာမှ ကြွလာတော်မူကြသော ဆရာတော် သံဃာတော်အရှင်မြတ်တို့သည် ရွှေကျင်ဂိုဏ်းသွေး ဂိုဏ်းစိတ် ဇာတိသွေး ဇာတိမာန် ထက်ထက်သန်သန်ဖြင့် ဆက်လက်အားထုတ်နိုင် ကြပါစေ — စသည်၊

(၆၅) သိက္ခာတော် ၄၆-ဝါရှိ ဂိုဏ်းထောက်
မိုးညှင်းမြို့ ဆင်ကျွန်း ကျောင်းကြီး
ဆရာတော် ဦးကုဿလာဘိဝံသ—၏ ပဋိသန္ဓာရကထာ

ဝိနည်းသည် သာသနာတော်၏ အသက်ဖြစ်သည်၊ ဝိနည်းတရားတော်ကို စောင့်ရှောက်သွားပါက သာသနာတော် ၅၀၀၀-တည်နိုင်သည်၊ ဝိနည်းတရားတော်တို့ကို လေးစားမှု မပြုပါမူ အရိယာသူတော်စင်တို့ ခင်မင်လေးစားအပ်သော ဝိနည်းသီလသိက္ခာ၌ ရိုသေလေးစားခြင်း ကင်းမဲ့သောကြောင့် သူတော်စင်မမည်၊ ဝိနည်းသီလတရား လေးစားကာ စိတ်အေးချမ်းမှုကို အရယူနိုင်ပါမှ သမာဓိ ပညာ ဉာဏ်တို့၏ အထောက်အပံ့ ဖြစ်ပေလိမ့်မည်—စသည်၊

(၆၆) သိက္ခာတော် ၄၅-ဝါရှိ ဝိနယဓရ
မုံပွလင်မြို့ ကြခတ်ဝိုင်းကျောင်းတိုက်
ဆရာတော် ဦးသဒ္ဓမ္မ—၏ ပဋိသန္ဓာရကထာ

အသီးရှိသော ပညောင်ပင်ကြီးကို မှီခိုကြရသော ငှက်တို့သည် ညောင်သီးကိုစားရသောကြောင့် မသေရာရောက်သဖြင့် ဝမ်းမြောက်ကြသလို သူတော်ကောင်းတို့၏ နေစရာဖြစ်သော သာသနာတော်မြတ်ကို မှီခိုနေကြသော ရဟန်းသာမဏေတို့သည်လည်း ပစ္စည်းလေးပါးစသော အာမိသအမွေ သီလစသော ဓမ္မအမွေနှစ်ပါးကို ရကြ၍ မအို မနာ မသေရာ နိဗ္ဗာန်သို့ ရောက်ကြ၍ အမြဲဝမ်းမြောက်ရသလို အရှင်မြတ်တို့သည်လည်း ဝမ်းမြောက်ဝမ်းသာဖြင့် သာသနာတော်လုပ်ငန်းကို ကြိုးပမ်းအားထုတ်နိုင်ကြပါစေ—စသည်၊

(၆၇) သိက္ခာတော် ၄၅-ဝါရှိ အနုနာယက
မုံရွာမြို့ ရွှေသိမ်တော်ကြီး ကျောင်းတိုက်
ဆရာတော် ဦးဇလန္ဒာစာရ—၏ ပဋိသန္ဓာရကထာ

မွန်မြတ်လှစွာသော စိတ်ဆန္ဒ, ထက်မြက်လှစွာသော သဒ္ဓါစေတနာ, အားကြီးလှစွာသော လုံ့လဝီရိယ, အရာအားလျော်စွာ ဆောင်ရွက်နိုင်သော ကုသိုလ်ပါဒ်ဉာဏ်ပညာ အစစအရာရာတို့၌ ပြည့်ဝစုံလင်တော်မူကြသော အရှင်ကောင်း အရှင်မြတ်တို့၏ တည်ရာဌာနဖြစ်ပေသော ဤမည်သော ပဲခူးနယ်ဌာန၌ ဤမည်သော ကြခတ်ဝိုင်းကျောင်းတိုက်ကြီး၌ ဤမည်သော နှစ်တရာပြည့် ဝိနည်းပြန် ပွဲတော်ကြီးကို ပြုစမ်းလိုက်ခြင်းသည် မှိန်လုလု မှောင်အညစ်တို့ကို အရောင်သစ်မွမ်းမံ ခြယ်လှယ်၍ တင့်တယ်တော်မူစွမ်းနိုင်ကြပါပေ၏—ဟု ကြည်နူးဝမ်းမြောက်လျက် နှစ်ထောင်းအားရ ရှိလှပါကြောင်း—စသည်။

(၆၈) သိက္ခာတော် ၄၅-ဝါရှိ ဝိနယဓရ
ဘီးလင်းမြို့ ငှက်ပျောတောကျောင်းတိုက်
ဆရာတော် ဦးဝိမလ—၏ ပဋိသန္ဓာရကထာ

ယခုလို ကြုံတောင့်ကြုံခဲ အလွန်မှပင် ကြုံကြိုက်ခဲလှစွာသော ပဲခူးခရိုင် အရညဝါသီ ဖြူစင်သီလရွှေကျင်နိကာယ ဂိုဏ်းလုံးကျွတ် နှစ်တရာပြည့် ဝိနည်းပိဋကတ် ထွန်းအမြတ်ပူဇော်ပွဲကြီးသို့ အားခဲတော်

မူကာ မန္တလေးစသော ထက်အောက်ဝေးနီး အသီးသီးသော မြို့တော်ကြီးများမှ ချီးမြှင့်ကြွရောက်တော်မူလာကြကုန်သော ဆရာတော် သံဃာတော်အရှင်မြတ်တို့အား ဧည့်သည်နာနုတ္တရိယ အနေဖြင့် ဖူးမြင်ရသည်မှာ အထူးအားရနှစ်သက်ခြင်းရှိလှသည့်ပြင် ရတ္တညူစိရပဗ္ဗဇိတ သံဃပရိဏာယက ဆရာတော်ဘုရားကြီးများ၏ ဩဝါဒတို့ကို နာကြားရခြင်းသည်လည်း မင်္ဂလာနိမိတ်ကောင်းဟု ထပ်လောင်းလျှောက်ထားလိုပါသည် – စသည်၊

## (၆၉) သိက္ခာတော် ၄၄-ဝါရှိ နာယက
## တောင်ငူခရိုင် ဆွာမြို့ စက်ရုံကျောင်း
### ဆရာတော် ဦးနိယမ—၏ ပဋိသန္ဓာရကထာ

ဝိနည်းဒေသနာတော်မရှိလျှင် မဖြစ်ကြောင်းကို အားလုံးသော ဆရာတော် သံဃာတော်များ အသိဖြစ်ပါ၍ ပဲခူးရာပြည့် ဝိနည်းစာပြန်ပွဲတော်ကြီးကို သံဃာတော်အပါး ၁၀၀၀-ပင့်ဆောင်ကာ စည်ကားသိုက်မြိုက်စွာ ပြုလုပ်မည့်အကြောင်း သိရပါ၍ ဝမ်းသာမဆုံးဖြစ်မိပါသည်၊ ထို့ပြင်လည်း တပည့်တော်များ မှီခိုအားထားရာ ရှင်တော်ဘုရား၏ သာသနာတော်ကြီးအတွက် အားတက်ဘွယ်ရာဖြစ်၍ အထူးဝမ်းမြောက်လှပါသည်–စသည်၊

## (၇၀) သိက္ခာတော် ၄၄-ဝါရှိ ကာဗျဝိဒူ ဘာသန္တရဆေက
## မလှိုင်မြို့ ကန်ကြီးသိရီမာရုံကျောင်းတိုက်
### ဆရာတော် ဦးစန္ဒဇောတိ—၏ ပဋိသန္ဓာရကထာ

ပဲခူးခရိုင် ရွှေကျင်နိကာယဆိုင်ရာ ဝိနယစာပြန်ပွဲကြီးသည် စတင်ကျင်းပလာခဲ့သော ၁၂၃၃-ခုနှစ်အချိန်မှ အစပြု၍ မင်းအဆက်ဆက်နှင့် ခေတ်အမျိုးမျိုးကို ကျော်တိုးဖြတ်သန်း လာခဲ့ရသော်လည်း အဆက်ပြတ်ခြင်း တိမ်ကောပပျောက်ခြင်း မရှိဘဲ ရံဖန်ရံခါ တွေ့ရသော ဝိပတ္တိခေတ်၏ ဝါးမျိုမှုကိုပင်ကြံ့ကြံ့ခိုင်ကာ အနှစ်တရာ ပြည့်သည့်တိုင်အောင် ရပ်တည်နိုင်ခဲ့သည်မှာ မြန်မာသာသနာဝင်၌ မကြုံဘူးသေးသော အံ့ဘွယ်ကြီးတခုပင် ဖြစ်ပါသည် – စသည်။

## (၇၁) သိက္ခာတော် ၄၀-ဝါရှိ ဝိနယဓရ နာယက
## ဓနုဖြူမြို့ မဟာဗောဓိ ရွှေဟသာကျောင်းတိုက်
### ဆရာတော် ဦးကုဝေရ—၏ ပဋိသန္ဓာရကထာ

ရဟန်းတော်များ ကိုယ်ကျင့်ဝိနည်းတရားနှင့်အညီ နေထိုင်ကျင့်ကြံမည်ဆိုက ဤလောကမှာ ရဟန္တာမဆိတ်သုဉ်းနိုင်ရာဟု ဟောတော်မူသည်များကို ထောက်ထား၍ နိဗ္ဗာန်အရောက်ပို့ပေးနိုင်သော သံဃာသာမဂ္ဂီ အကျိုးသည် အလွန်လျှင် အတိုးတန်လှပါတော့သည်၊ ဤသို့စသည်ဖြင့် ဂိုဏ်းရောင် သာသနာရောင်တောက်ပြောင်စေနိုင်ခြင်းသည်လည်း ဘုန်းတော်ကြီး ဦးသီလစသော ဆရာတော်ကြီးများ၏ ကထာမဂ္ဂစကားစဉ်ကို အစဉ်မကွာ လိုက်နာခဲ့ကြလို့သာ ဖြစ်ရကား ဤအစဉ်အလာကို နယဂ္ဂါဟ နည်းယူကြကာ သိဿာနုသိဿတို့လည်း အနှယ်မပျက် ဆက်ကာဆက်ကာ (အနာဂတေ လဒ္ဓီ ရက္ခိုသန္တိ) ဖြစ်တော်မူနိုင်ကြပါစေ – စသည်။



သူတို့လည်း ကောင်းမှုရှင်များပင်၊ အမှတ်တရ ဝမ်းသာစရာ ရိုက်ကူးထားကြသည်။



သူတို့လည်း ကောင်းမှုရှင်များပင်၊ အမှတ်တရ ဝမ်းသာစရာ ရိုက်ကူးထားကြသည်။

(၇၂) သိက္ခာတော် ၃၉-ဝါရှိ ဝိနယဓရ
သထုံခရိုင် ကျိုက်ထိုမြို့ ဆိပ်ဖူးတောင်ကျောင်း

**ဆရာတော် ဦးကေတု—၏ ပဋိသန္ဓာရကထာ**

"သမဂ္ဂါနံ တပေါ သုခေါ" ဟု ဟောတော်မူသည့်အတိုင်း တသွေမတိမ်း ရွှေကျင်ဂိုဏ်းဝင် အားလုံးတို့သည် ရှေးရှေး ဆရာတော်ဘုရားကြီးများ၏ စည်းကမ်းဥပဒေအတိုင်း လေးလေးနက်နက် လိုက်နာကျင့်ကြံရန်နှင့် စာကြည့်ခြင်း စာချခြင်း ပုတီးစိပ်ခြင်း ဘုရားဝတ်တက်ခြင်း သေနာသနဝတ်ပြုခြင်

ဝါတွင်းဝါပ လပြည့်လကွယ်တို့၌ သံဃဥပုသ်ပြုခြင်း ကောသနိက် ပဌာပိဏ်ခုတင်ဆောင်ခြင်း တရားဟောခြင်း စသည်ဘို့ကို ပြုသင့်ပါကြောင်း လျှောက်ထားလိုပါသည်—စသည်။

(၇၃) သိက္ခာတော် ၃၉-ဝါရှိ ဝိနယဓရ နာယက
ညောင်ရွှေမြို့ ကန်ကြီးပရိယတ္တိစာသင်တိုက်
**ဆရာတော် ဦးဝိမလာဘိဝံသ—၏ ပဋိသန္ထာရကထာ**

ဤသို့ ဝိနည်းတရားတော်သည် သာသနာ့အသက် သာသနာ့ရေသောက်မြစ်ဖြစ်၍ ဝိနည်းတရားတော်ကို အထွတ်တင်ကာ ရဟန္တာအရှင်မြတ်ကြီးများ ဆောင်ရွက်တော်မူလာကြသကဲ့သို့ မင်းတုန်းမင်းတရားကြီးလက်ထက်တွင် ပဌမရွှေကျောင်ဆရာတော်ဘုရားကြီးသည် မန္တလေးမြို့ ရွှေကျောင်ကျောင်းတိုက်တို့၌ ဒွေမာတိကာပြန်ဆိုနိုင်သော ပုဂ္ဂိုလ်များကိုသာ နေထိုင်စေလျက် တပည့်များအား ဝိနည်းတရားတော်အရာ ယဉ်ကျေးလိမ်မာစေကာ သီတင်းသုံးနေတော်မူစဉ် ဟံသာဝတီပဲခူးမြို့၌ ဘုန်းတော်ကြီးဦးသီလ အမှူးရှိသော ဆရာတော်ကြီးများသည် တောထွက်ကြလျက် တောရဂိုဏ်းကို တည်ထောင်၍ ၁၂၃၃-ခုနှစ်တွင် ဝိနည်းပြန်ပွဲတည်းဟူသော မီးရှူးတန်ဆောင်ကြီးကို ညှိထွန်းတော်မူခဲ့ပါသည်—စသည်။

(၇၄) သိက္ခာတော် ၃၇-ဝါရှိ ဟိတဓရ
စစ်တွေခရိုင် မြို့ဟောင်းမြို့ မဟာပညာသီဟာရာမကျောင်းတိုက်
**ဆရာတော် ဦးပညာသီဟ—၏ ပဋိသန္ထာရကထာ**

ပဲခူးခရိုင် အရညဝါသီ ရွှေကျောင်ဂိုဏ်းလုံးဆိုင်ရာ သံဃာတော်အရှင်မြတ်များက ဘုရားရှင်သာသနာတော်နှင့် ရွှေကျောင်ဂိုဏ်းကြီး၏ ကြီးပွါးမှု ညီညွတ်မှု သန့်ရှင်းစင်ကြယ်မှုတို့ကို ရှေ့ရှုတော်မူကြပြီးလျှင် ရှေးရှေးသော ရွှေကျောင်ဆရာတော်ဘုရားကြီးများ၏ အစဉ်အလာဖြစ်သည့် ဝိနည်းစာပြန်ပွဲကြီးကို အဆက်ဆက် ဆောင်ရွက်လာခဲ့ရာ ယခုနှစ်မှာ အနှစ် ၁၀၀-ပြည့်ပြီဖြစ်၍ ထိုအနှစ် ၁၀၀-ပြည့် ပွဲတော်ကြီးကို တပါတည်း ပြုလုပ်ကြခြင်းသည် ဘုရားရှင်သာသနာတော်၏ သန့်ရှင်းစင်ကြယ် အရှည်တည်တံ့ တိုးတက်ကြောင်းပင် ဖြစ်ပါသည်—စသည်။

(၇၅) သိက္ခာတော် ၃၆-ဝါရှိ ဂဏနာယက
မိတ္ထီလာမြို့ ရွာသစ်ကုန်း မဏိဇောတိကာရုံကျောင်း
**ဆရာတော် ဦးအဂ္ဂဓမ္မ—၏ ပဋိသန္ထာရကထာ**

ဝိနည်းတည်မှ သာသနာတည်မည်၊ ဝိနည်းမတည်က သာသနာမတည်ဟု သိမြင်တော်မူကြကုန်သော ပဲခူး အရညဝါသီ ရွှေကျောင်နိကာယ အာဒိကမ္မိက ဘောရဘုန်းတော်ကြီး ဦးသီလ မဟာထေရ် အစရှိသော အရှင်မြတ်တို့သည် ၁၂၃၃-ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၂-ရက်နေ့၌ ဝိနည်းစာပြန်ပွဲကြီးကို စတင်ပြုလုပ်လျက် တပည့်အဆက်ဆက်တို့သည်လည်း အစဉ်အလာကို စောင့်ရှောက်၍ မပျက်ပြုလုပ်ခဲ့သဖြင့် ယခု ရာပြည့်ပူဇော်ပွဲကြီး ကျင်းပနိုင်ပါသောကြောင့် အထူးဝမ်းမြောက်လှပါသည်—စသည်။

**ပဌမကဏ္ဍ ပြီး၏။**

# ဆဋ္ဌကဏ္ဍ

## တရာကြိမ်မြောက်

၁၃၃၂-ခုနှစ်၊ ပဲခူးခရိုင် အရညာဝါသီ ရွှေကျင်နိကာယ ဂိုဏ်းလုံးဆိုင်ရာဝိနည်းစာပြန်ပွဲတော်ကြီး
ဝင်ငွေ–ထွက်ငွေ စာရင်းရှင်းတမ်း

| အမှတ်စဉ် | ဝင်ငွေ–အကြောင်းအရာ | ကျပ် | ပြား |
|---|---|---|---|
| ၁။ | သီးသန့် မ–တည် လှူဒါန်းသောငွေ | ၈၆၉၅ | ၂၀ |
| ၂။ | ငွေပဒေသာပင်တွင် လှူဒါန်းသောငွေ | ၁၁၅၃၂ | ၁၀ |
| ၃။ | စာပြန်ပွဲအတွင်း ။ | ၉၀၃၇ | ၂၅ |
| ၄။ | (ဂ)ရက်တိုင် အရှက် မုံ့ဟင်းခါး ကောင်းမှုရှင်များ သင့်ငွေ | ၉၅၁၉ | ၇၀ |
| ၅။ | (ဂ)ရက်တိုင် နံနက်ဆွမ်း နေ့ဆွမ်း ။ ။ | ၃၉၁၆၉ | ၃၀ |
| ၆။ | (ဂ)ရက်တိုင် အချိုပွဲ ကွမ်းဆေး ။ ။ | ၃၂၀၇၅ | ၉၀ |
| ၇။ | (ဂ)ရက်တိုင် စတုမဓု အဖျော်ယမကာ ။ ။ | ၅၁၅၂ | ၅၀ |
| ၈။ | ပဒေသာပင်များနှင့် လှူဒါန်းသော ။ ။ | ၇၄၁၂ | ၁၀ |
| ၉။ | စာပြန်ပွဲအတွင်း ပစ္စည်းစုံလှူဒါန်းသော ။ ။ | ၅၁၀၇ | ၉၀ |
| ၁၀။ | ဦးချစ်-ဒေါ်အေးခင် မိသားစု၊ ၁၉-လမ်း ဈေးပိုင်း လှူဒါန်းငွေ | ၂၀၀၀ | ၀၀ |
| ၁၁။ | ဦးအင်းဟုတ်-ဒေါ်တင်တင်(စိန်ပရိက္ခရာ) လမ်း ၂၀၊ ဈေးပိုင်း ဆေးလှူဒါန်း သင့်ငွေ | ၅၅၀၅ | ၀၀ |
| | ဝင်ငွေပေါင်း | ၁၃၆၈၈၆ | ၉၅ |
| | ၁၃၃၁-ခုနှစ်၊ ၉၉-ကြိမ်မှ လက်ကျန်ငွေ | ၁၈၈၀ | ၈၀ |
| | စုစုပေါင်း | ၁၃၈၇၆၇ | ၇၅ |

ပဒေသာပင် အလှူရှင်များနှင့် တန်ဘိုးများ

| | | | | |
|---|---|---|---|---|
| ၁။ | ပဲခူးမြို့ | ဈေးချို သဟပုညကာရီအသင်းမှ ကြီးမှူး၍ ဈေးလာရောင်းသူ ဈေးလာဝယ်သူ အများကောင်းမှု ပဒေသာပင်မှ | ၅၁၄၁ | ၃၅ |
| ၂။ | ။ | ကျောက်ကြီးစု သစ်စက် ဒေါ်မမနှင့် လုပ်သားများ ပဒေသာပင်မှ | ၁၀၄၃ | ၀၀ |
| ၃။ | ။ | ပန်းလှိုင် ၂၁-လမ်းထိပ် ဆိုက်တွဲယာဉ် ဦးကျက်နီ၊ ဦးသာခင် နှင့် အဖွဲ့သားများ အများကောင်းမှု ပဒေသာပင်မှ | ၄၄၉ | ၆၀ |
| ၄။ | ။ | ရွာသစ်ရပ် ပုညကုသလကာရီအသင်းမှ ကြီးမှူး၍ အများကောင်းမှု ပဒေသာပင်မှ တန်ဘိုးငွေ | ၃၇၇ | ၁၅ |
| ၅။ | ။ | မှော်ကန် ၁၀-လမ်း ဦးတင်စိန်-ဒေါ်ခင်ညွန့် သမီး ညွန့်ညွန့်ဝေနှင့် အများကောင်းမှု ပဒေသာပင်မှ တန်ဘိုးငွေ | ၄၀၀ | ၀၀ |
| ၆။ | ။ | ရွှေခြူးဆေးပေါ့လိပ်ရုံပိုင်ရှင် ဦးသူတော် ပဒေသာပင်မှ တန်ဘိုး | | |

ထွက်ငွေဇယား

| အမှတ်စဉ် | ထွက်ငွေ-အကြောင်းအရာ | ကျပ်၊ | ပြား |
|---|---|---|---|
| ၁။ | ဘဏ္ဍာရေး ကော်မီတီ ကုန်ငွေစာရင်း | ၁၁၃၈ | ၃၅ |
| ၂။ | ဧည့်ခံကြိုဆိုရေး ။ ။ | ၁၉၇၃ | ၂၀ |
| ၃။ | မွမ်းမံပြင်ဆင်ရေး ။ ။ | ၁၉၉၀၁ | ၉၀ |
| ၄။ | ဆွမ်းကွမ်းအဖျော်ယမကာဆက်ကပ်ရေးကော်မီတီကုန်ငွေစာရင်း | ၁၂၀၄ | |
| ၅။ | ကျန်းမာသန့်ရှင်းရေး ။ ။ | ၅၆၂ | ၁၀ |
| ၆။ | ပြန်ကြားရေး ။ ။ | ၁၂၈၀ | ၅ |
| ၇။ | အထွေထွေဆောင်ရွက်ရေး ။ ။ | ၇၀၄၇ | ၁၀ |
| ၈။ | (ဂ)ရက်တိုင် (အရှုဏ်) မုံ့ဟင်းခါးကပ်လှူ ။ | ၉၅၁၉ | ၇၀ |
| ၉။ | (ဂ)ရက်တိုင် (နံက်ဆွမ်း နေ့ဆွမ်း)ကပ်လှူ ။ | ၃၉၁၆၉ | ၃၀ |
| ၁၀။ | (ဂ)ရက်တိုင် (အချိုပွဲ-ကွမ်း ဆေး) ကပ်လှူ ။ | ၃၂၈၇၅ | ၉၀ |
| ၁၁။ | (ဂ)ရက်တိုင် (စတုမဓု၊ အဖျော်ယမကာ)ကပ်လှူ ။ | ၅၁၅၂ | ၅၀ |
| ၁၂။ | ပဒေသာပင် ပစ္စည်းမျိုးစုံ စာပြန်သံဃာတော်များအား ကပ်လှူ ကုန်ငွေစာရင်း | ၁၂၆၀၀ | |
| ၁၃။ | ဦးအင်းဟုတ်-ဒေါ်တင်တင်(လှူသောဆေး) သံဃာတော်များအား ကပ်လှူ ကုန်ငွေစာရင်း | ၅၅၀၅ | |
| | ထွက်ငွေပေါင်း | ၁၃၇၉၃၀ | ၅၀ |
| | စာရင်းပိတ်လက်ကျန်ငွေ | ၈၃၇ | ၂၅ |
| | စုစုပေါင်း | ၁၃၈၇၆၇ | ၇၅ |

(ပုံ) ဦးချစ်လှိုင်
ဘဏ္ဍာရေး ဥက္ကဋ္ဌ၊ ငွေထိန်း

(ပုံ) ဦးစိန်မောင်
ဘဏ္ဍာရေး အတွင်းရေးမှူး

(ပုံ) ဦးမောင်ဦး၊ဦးမြမောင်
ဘဏ္ဍာရေး စာရင်းစစ်များ

၁၃၃၄-ခုနှစ်၊ ၁၀၂-ကြိမ်မြောက်
ဝိနည်းစာပြန်ပွဲကြီး၌ တိုးချဲ့ဖွဲ့စည်းအပ်သော ပဲခူးခရိုင်
အရညဝါသီ ရွှေကျောင်နိကာယ နာယကဆရာတော်အဖွဲ့

နာယကအဖွဲ့သည် အချို့ဆရာတော်များ ပြန်လွန်တော်မူကြ၍ အခြေအနေအရ ထပ်မံဖြည့်စွက်သင့်သည်ဟု ယူဆတော်မူကြပါသဖြင့် ရှေးဆရာတော်ကြီးများ၏ လုပ်ရိုးလုပ်ထုံးအရ အသစ် (၄)ပါးတိုးချဲ့ပြီး ဖွဲ့စည်းတော်မူကြပါသည်၊

| | | | |
|---|---|---|---|
| ၁။ | ဘုရားကလေး ဥက္ကံဆရာတော် ဦးသီလာစာရ | မဟာနာယက | (ဥက္ကဋ္ဌ) |
| ၂။ | ပဲခူး ရွှေကျောင်ဓမ္မရိပ်သာဆရာတော် ဦးဝိမလ | ဥပမဟာနာယက | (ဒု-ဥက္ကဋ္ဌ) |
| ၃။ | ကျောက်တိုင်ကန် စမ်းကြီးဆရာတော် ဦးသိရိန္ဒ | နာယက | |
| ၄။ | ပဲခူး ရွှေဘုံဆင့်ဆရာတော် ဦးပဏ္ဍိတ | နာယက | |
| ၅။ | မယင်း ဓမ္မသိင်္ဂီဆရာတော် ဦးကုသလ | နာယက | |
| ၆။ | ဈေးညောင်ပင် သိမ်ကုန်းဆရာတော် ဦးသောဘဏ | နာယက | |
| ၇။ | တာဝတိုတာ ဇလဲထော်ဆရာတော် ဦးနန္ဒသိရီ | နာယက | |
| ၈။ | သနပ္ပင် ရေကျော်ဆရာတော် ဦးပညာသာမိ | နာယက | |
| ၉။ | ပဲခူး မင်းကျောင်းဆရာတော် ဦးနိသဘ | နာယက | |
| ၁၀။ | ပဲခူး မျက်နှာတော်ဆရာတော် ဦးနာဂိန္ဒ | နာယက | |
| ၁၁။ | ပဲခူး ကြခတ်ဝိုင်းဆရာတော် ဦးဇောတိပါလ | ဝန်ဆောင်နာယက | (အတွင်းရေးမှူး) |

**မှတ်ချက်။** ။၁၁-ပါးထားရခြင်းမှာ မဲခွဲရသောအခြေအနေသို့ ဆိုက်ရောက်ခဲ့သော် မဲအရေအတွက်ချင်း မတူစေရန်ဖြစ်သည်၊

အမိန့်အရ ဂိုဏ်းဝန်ဆောင်
အရညဝါသီ ရွှေကျောင်နိကာယ၊ ပဲခူးခရိုင်

၁၃၃၄-ခုနှစ်၊ ၁၀၂-ကြိမ်မြောက်

ဝိနည်းစာပြန်ပွဲတော်ကြီး၌ နာယကဆရာတော်များ ပြဋ္ဌာန်းအပ်သော

**နာယကအင်္ဂါ ၁၀-ချက်**

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ၁၃၃၄-ခုနှစ် ၁၀၂-ကြိမ်မြောက် ဝိနည်းစာပြန်ပွဲတော်ကြီး အတွင်း နာယကဆရာတော်များ အစည်းအဝေး ဒုတိယနေ့ (၂၃-၁၁-၇၂)မှ——

(က) နာယကတိုင်း လိုက်နာရမည်ဖြစ်သော စည်းမျဉ်း၊

(ခ) နာယကအဖြစ် တင်မြှောက်ထိုက်သော စည်းမျဉ်း–

များအဖြစ် နာယကဂုဏ် (၆)ပါးနှင့်ပြည့်စုံရခြင်း, အဂတိ (၄) ပါး မလိုက်စားရခြင်းဟု အကျဉ်းချုပ် နာယကအင်္ဂါ (၁၀)ချက်ကို အညီအညွတ် ပြဋ္ဌာန်းတော်မူကြပါသည်၊

နာယကဂုဏ် (၆)ပါး

(၁) ဥဋ္ဌာန — ဂိုဏ်းဂဏ ညီညွတ်ကြီးပွါးတိုးတက်ရေးအတွက် နေရာတကာ ထကြွလုံ့လ(ဆောင်ရွက်နိုင်စွမ်း) ရှိရခြင်း၊

(၂) ဇာဂရိယ — ဂိုဏ်းဂဏကိစ္စဟူသမျှတို့၌ နိုးကြားထက်သန် (ရွှေကျင်ဂိုဏ်းကြီး မပြိုကွဲရေး စည်းလုံး ညီညွတ်ရေးတို့၌ ကြောင်းကြမှု အားထုပ်လိုမှု)ရှိရခြင်း၊

(၃) ဒယာ — ဂိုဏ်းသံဃာအပေါ်၌ ဂုဏ်သတင်း ပျက်ပြယ်မှုများ မဖြစ်အောင် ဂိုဏ်းစိတ် ဂိုဏ်းသွေးဖြင့် သနားကရုဏာ(စေတနာ မေတ္တာ ကြင်နာယုယမှု စောင့်ရှောက်မှု)ရှိရခြင်း၊

(၄) ခမာ — ထေရ်ကြီးထေရ်ငယ်အသွယ်သွယ်တို့၌ သည်းခံ (အရေးမကြီးလျှင် မကြီးသလို ကြီးလျှင်ကြီးသလို ဂိုဏ်းစည်းမျဉ်းများကို အတိတကျ လိုက်နာအောင် ပြုပြင်တွဲခေါ်ကာ သင့်တင့်လျော်ကန်အောင် နှလုံးသွင်း)နိုင်ရခြင်း၊

(၅) သံဝိဘာဂ — ဂိုဏ်းသံဃာအရေးအခင်းတို့၌ ဝေဘန် (စဉ်းစားမြော်မြင်မှု၊ အမှန်သိအောင် အားထုတ်မှု၊ ဖြေရှင်းပေးမှု)ရှိရခြင်း၊

(၆) ဣက္ခဏာ — ကြည့်ရှု (လေ့လာခြင်း စစ်ဆေးခြင်း မေးမြန်းခြင်း ငြိမ်းအေးစေ) ခြင်း ရှိရခြင်း၊

**အဂတိ ၄-ပါး**

(၇) ဆန္ဒာဂတိ — ကိစ္စခပ်သိမ်းတို့၌ မိမိနှင့် ခင်မင်ရင်းနှီးမှုကြောင့် တဘက်သတ် (မျက်နှာ) မလိုက်ရခြင်း၊

(၈) ဒေါသာဂတိ ကိစ္စခပ်သိမ်းတို့၌ မိမိနှင့် မုန်းတီးခြင်း (သဘောအချင်းချင်း မတိုက်ဆိုင်ခြင်း မိမိမလိုလားခြင်း)တို့ကြောင့် တဘက်သတ် (မျက်နှာ)မလိုက်ရခြင်း၊

(၉) ဘယာဂတိ ကိစ္စခပ်သိမ်းတို့၌ ကြောက်ရွံ့ခြင်း (အန္တရာယ်အဝဝ ဟူသမျှအတွက် စိုးရိမ်ခြင်း) တို့ကြောင့် တဘက်သတ် (မျက်နှာ) မလိုက်ရခြင်း၊

(၁၀) မောဟာဂတိ ကိစ္စခပ်သိမ်းတို့၌တွေဝေ(အသေအချာမသိခြင်း မမေးမြန်း မစုံစမ်းရသေးခြင်း) တို့ကြောင့် တဘက်သတ် (မျက်နှာ)မလိုက်ရခြင်း၊

မှတ်ချက်၊ ။မလိုက်နာနိုင်(အပြစ်ရှိလာ)သဖြင့် သုံးကြိမ်တိုင်အောင် သတိပေးပါလျက် မပြုပြင်သော နာယကအား မပြုပြင်သော ကာလပတ်လုံး နာယက (အစည်းအဝေး)မှ အခိုက်အတန့် ရပ်စဲထားရန် ဆုံးဖြတ်တော် မူကြပါသည်၊

အမိန့်အရ ဂိုဏ်းဝန်ဆောင်
အရညဝါသီ ရွှေကျောင်နိကာယ၊ ပဲခူးခရိုင်

## ပုရိမဝဿိက သံဃာတော်များစာရင်း အကျဉ်းချုပ်

| ဦးရေ | ပဓာနထေရ် | | သိက္ခာ | ကျောင်းတိုက် နှင့် မြို့/ရွာ | | ရဟန်း | ရှင် | ပေါင်း | ကျောင်းသား |
|---|---|---|---|---|---|---|---|---|---|
| ၄၇ | ဆရာတော် | ဦးပညာသာမိ | ၃၈ | သော်ကမြိုင် | ပဲခူး | ၆ | ၆ | ၁၂ | ၁ |
| ၄၈ | ။ | ဦးဝါသဝ | ၃၈ | အနောက်မြို့ထောင့် | ပဲခူး | ၅ | | ၅ | ၃ |
| ၄၉ | ။ | ဦးပဏ္ဏဝံသ | ၃၇ | ရွှေဘုန်းရှိန် | ထန်းတောကြီး | ၃ | | ၃ | |
| ၅၀ | ။ | ဦးဒေဝိန္ဒ | ၃၇ | ပဓာနိကာရာမ | ပဲခူး | ၉ | ၃ | ၁၂ | ၅ |
| ၅၁ | ။ | ဦးကုသလ | ၃၇ | အနော်မာရုံ | သနပ္ပင် | ၁၁ | ၁၂ | ၂၃ | ၃၀ |
| ၅၂ | ။ | ဦးပညာဇောတ | ၃၇ | သာသနာ့မဏ္ဍိုင် | ပဲခူး | ၁၁၀ | ၁၀၂ | ၂၁၂ | ၂၀ |
| ၅၃ | ။ | ဦးစန္ဒိမာ | ၃၇ | အမတရသာရုံ | မင်းရွာ | ၃ | ၆ | ၉ | ၄၉ |
| ၅၄ | ။ | ဦးဝေပုလ္လ | ၃၆ | မမ္မဒီပိကာရုံ | ဘုရားကြီး | ၇ | ၈ | ၁၅ | ၄၅ |
| ၅၅ | ။ | ဦးပုညိန္ဒ | ၃၆ | ဟံသာရွှေကျောင် | မှော်ကန် | ၁ | | ၁ | ၂ |
| ၅၆ | ။ | ဦးသုန္ဒရ | ၃၆ | ရတနာဘူမိ | ထောင်မင်း | ၄ | ၂ | ၆ | ၁၅ |
| ၅၇ | ။ | ဦးသီလာစာရ | ၃၅ | သာသနာ့သိပ္ပံ | ဖောင်တော်သီ | ၂ | ၆ | ၈ | ၅ |
| ၅၈ | ။ | ဦးဓမ္မပိယ | ၃၅ | ဆုတောင်းပြည့် | ပဲခူး | ၂ | | ၂ | |
| ၅၉ | ။ | ဦးဇောတိပါလ | ၃၄ | ကြခတ်ပိုင်း | ပဲခူး | ၁၇၃ | ၁၂၄ | ၂၉၇ | ၄၅ |
| ၆၀ | ။ | ဦးစန္ဒောဘာသ | ၃၄ | သုခကာရီ | ကျိုက္ကော | ၂ | | ၂ | ၁၅ |
| ၆၁ | ။ | ဦးဒါယာမ | ၃၄ | ရွှေဘုန်းပွင့် | ပဲခူး | ၆ | ၈ | ၁၄ | ၁၀ |
| ၆၂ | ။ | ဦးဇဝန | ၃၄ | မဟာဗောဓာရုံ | ပဲခူး | ၁ | ၃ | ၄ | ၃ |
| ၆၃ | ။ | ဦးမေဓာသာရ | ၃၃ | ဒက္ခိဏာရုံ | ကမာနတ် | ၂ | | ၂ | ၁၃ |
| ၆၄ | ။ | ဦးရေဝတ | ၃၃ | ဘာဝနာရုံ | ဝမ်းဘဲအင်း | ၆ | ၁၂ | ၁၈ | ၃၄ |
| ၆၅ | ။ | ဦးဝါသဝ | ၃၃ | မင်္ဂလာဇေယျ | ဗိုလ်ကုန်း | ၁ | | ၁ | |
| ၆၆ | ။ | ဦးကောဏ္ဍည | ၃၃ | ကံကြီး | ကမာပါ | ၂ | ၁ | ၃ | ၃၂ |
| ၆၇ | ။ | ဦးလက္ခဏ | ၃၃ | မြစေ့ညီနေခင် | တာဝ | ၃ | ၂ | ၅ | ၄ |
| ၆၈ | ။ | ဦးဝိဇယ | ၃၃ | ဓမ္မနိမ္မိတာရုံ | ကမ်းမြင့် | ၅ | ၇ | ၁၂ | ၂ |
| ၆၉ | ။ | ဦးသီရိဓမ္မ | ၃၂ | သာသနာ့ပဇ္ဇောတာရုံ | ပဲခူး | ၃ | ၄ | ၇ | ၂ |
| ၇၀ | ။ | ဦးသောဘဏ | ၃၂ | စွယ်တော်ရွှောင် | ပဲခူး | ၄ | ၃ | ၇ | |
| ၇၁ | ။ | ဦးသုန္ဒရ | ၃၂ | နာဂဏီ | ဘုရားသုံးဆူ | ၄ | ၄ | ၈ | ၄ |
| ၇၂ | ။ | ဦးကေသရ | ၃၂ | စန္ဒာသီရိ | သူ့ဌေးကုန်း | ၃ | ၄ | ၇ | ၆၀ |
| ၇၃ | ။ | ဦးကောသလ္လ | ၃၁ | နာဂဝန် | ဘုရားသုံးဆူ | ၅ | ၅ | ၁၀ | ၁၃ |
| ၇၄ | ။ | ဦးဝိသုဒ္ဓါစာရ | ၃၀ | နန္ဒဝန် | ဈေးညောင်ပင် | ၁၀ | ၇ | ၁၇ | ၂၃ |
| ၇၅ | ။ | ဦးဓမ္မာနန္ဒ | ၃၀ | ဓမ္မိကာရုံ | သနပ္ပင် | ၃ | ၁ | ၄ | ၁၅ |
| ၇၆ | ။ | ဦးစန္ဒိမာ | ၂၉ | ရတနာဂူဟာ | ကတွင်းခြံ | ၂ | | ၂ | |
| ၇၇ | ။ | ဦးသုန္ဒရ | ၂၉ | ကျိုက်ပွန် | ဘုရားသုံးဆူ | ၂ | ၁ | ၃ | |
| ၇၈ | ။ | ဦးကေသရ | ၂၈ | ပညာသိပ္ပံ | ပဲခူး | ၁ | | ၁ | ၁ |
| ၇၉ | ။ | ဦးအာဒိစ္စ | ၂၈ | ပညာရာမ | ပဲခူး | ၁ | | ၁ | |
| ၈၀ | ။ | ဦးပညာဇောတ | ၂၈ | ရွှေအောင်ရွှေး | ပဲခူး | ၅ | ၅ | ၁၀ | ၅ |
| ၈၁ | ။ | ဦးသီဟ | ၂၈ | မြဘုန်းရှိန် | ဒေးကနင်း | ၁ | ၇ | ၈ | ၇ |

## ပုရိမဝဿိက သံဃာတော်များစာရင်း အကျဉ်းချုပ်

| ဦးရေ | ပဓာနထေရ် | | သိက္ခာ | ကျောင်းတိုက်နှင့် မြို့/ရွာ | | ရဟန်း | ရှင် | ပေါင်း |
|---|---|---|---|---|---|---|---|---|
| ၈၂ | ဆရာတော် | ဦးအဂ္ဂဝံသာဘိဝံသ | ၂၇ | ဓမ္မမေဒနီ | ခရမ်း | ၇ | ၁၅ | ၂၂ |
| ၈၃ | ။ | ဦးသုန္ဒရ | ၂၇ | မြို့ဦး | သုခကုန်း | ၁ | ၄ | ၅ |
| ၈၄ | ။ | ဦးသောမ | ၂၇ | ရသေ့မြို့ | ကျောက်တိုင်ကန် | ၂ | | ၂ |
| ၈၅ | ။ | ဦးဝါယာမ | ၂၇ | ဆံတော်တွင်း | ပဲခူး | ၂ | | ၂ |
| ၈၆ | ။ | ဦးပဏ္ဍဝ | ၂၇ | သာသနာ့ဟိတကာရီ | ပဲခူး | ၃ | ၂ | ၅ |
| ၈၇ | ။ | ဦးဥက္ကံသ | ၂၆ | ဥတ္တရာရုံ | အိုးဘို | ၄ | ၈ | ၁၂ |
| ၈၈ | ။ | ဦးဇောတိက | ၂၆ | ဓမ္မသမ္မဒါရုံ | ဈေးဖလုံ | ၂ | ၅ | ၇ |
| ၈၉ | ။ | ဦးသောမ | ၂၅ | ဗောဓိညောင် | မွန်စု | ၃ | ၁ | ၄ |
| ၉၀ | ။ | ဦးကာရုည | ၂၅ | ဂန္ဓာရုံ | ပဲခူး | ၁၃ | ၁၀ | ၂၃ |
| ၉၁ | ။ | ဦးသောဘဏ | ၂၅ | ရွှေအတ္ထျပ် | ပဲခူး | ၈ | ၇ | ၁၅ |
| ၉၂ | ။ | ဦးပညာစက္က | ၂၄ | ဓမ္မသုခေသက | ဇိုင်းဂနိုင်းကြီး | ၁ | ၅ | ၆ |
| ၉၃ | ။ | ဦးပရမ | ၂၄ | အနောက်ကျောင်း | ဇီးပင် | ၁ | | ၁ |
| ၉၄ | ။ | ဦးဝိသုတ | ၂၃ | ပါဠိဗိမာန် | ပဲခူး | ၁၀ | ၅ | ၁၅ |
| ၉၅ | ။ | ဦးဝါသဝိန္ဒ | ၂၂ | ဓမ္မရန်အောင် | အုတ်ကျင်း | ၁၀ | ၁၀ | ၂၀ |
| ၉၆ | ။ | ဦးဝိသုတ | ၂၁ | အသောကာရုံ | ပဲခူး | ၁၂ | ၇ | ၁၉ |
| ၉၇ | ။ | ဦးဇနိတ | ၂၁ | ခေမာဦး | ပဲခူး | ၅ | ၃ | ၈ |
| ၉၈ | ။ | ဦးဝိဇယ | ၂၁ | ရေလယ် | သံကြိုးဝိုင်း | ၃ | ၇ | ၁၀ |
| ၉၉ | ။ | ဦးအာဒိစ္စ | ၂၁ | ရွှေဟင်္သာဥယျာဉ် | ပဲခူး | ၂ | | ၂ |
| ၁၀၀ | ။ | ဦးစန္ဒိမာ | ၂၀ | ပုဗ္ဗာရုံ | ပဲခူး | ၁၁ | ၁၉ | ၃၀ |
| ၁၀၁ | ။ | ဦးဉာဏုတ္တရ | ၂၀ | မြဘုန်းရှိန် | တာဆုံ | ၁ | ၁၃ | ၁၄ |
| ၁၀၂ | ။ | ဦးကုသလ | ၂၀ | သာသနာ့ပဇ္ဇောတာရုံ | မြစ်ကျိုး | ၅ | ၁၄ | ၁၉ |
| ၁၀၃ | ဘုန်းတော်ကြီး | ဦးဝေပုလ္လ | ၁၉ | အောင်မြေသုခ | ကြို့တက် | ၅ | ၂၁ | ၂၆ |
| ၁၀၄ | ။ | ဦးကေလာသ | ၁၉ | သမိဒ္ဓေါဒယ | မဇင်း | ၂ | | ၂ |
| ၁၀၅ | ။ | ဦးပဏ္ဍိတ | ၁၈ | တောရကျောင်း | ဘုရားပျို | ၃ | ၅ | ၈ |
| ၁၀၆ | ။ | ဦးပညာသာမိ | ၁၈ | စိန်ကျောင်း | တောင်သူစု | ၆ | ၂ | ၈ |
| ၁၀၇ | ။ | ဦးအာစာရ | ၁၈ | ဒက္ခိဏာရုံ | ကင်းချောင်း | ၄ | ၄ | ၈ |
| ၁၀၈ | ။ | ဦးနာဂဝံသ | ၁၈ | ရေလယ် | ကလိ | ၄ | ၁ | ၅ |
| ၁၀၉ | ။ | ဦးဝိမလ | ၁၈ | ဝေဇယန္တာ | ပဲခူး | ၁ | | ၁ |
| ၁၁၀ | ။ | ဦးဉာဏ | ၁၇ | တောရကျောင်း | သူဌေးကုန်း | ၃ | | ၃ |
| ၁၁၁ | ။ | ဦးဥေယျ | ၁၇ | လေအေးတိုက်ကျောင်း | လက်ခုပ်ကွင်း | ၆ | ၆ | ၁၂ |
| ၁၁၂ | ။ | ဦးခေမာနန္ဒ | ၁၇ | မာလာသိရီ | ရွှေပန်း | ၁ | ၁ | ၂ |
| ၁၁၃ | ။ | ဦးတိလောက | ၁၇ | ကိုးသိန်း | ပဲခူး | ၁၁ | ၁၁ | ၂၂ |
| ၁၁၄ | ။ | ဦးဇာဂရ | ၁၅ | ရွှေငုံးမင်း | ပဲခူး | ၁ | | ၁ |
| ၁၁၅ | ။ | ဦးသုနန္ဒ | ၁၅ | အဘယာရုံ | ပွဲစားကြီးကုန်း | ၃ | | ၃ |
| ၁၁၆ | ။ | ဦးဣန္ဒကဉာဏ | ၁၅ | မန်းရတနာ | ကမာစဲ | ၅ | ၄ | ၉ |

## ပုရိမဝဿိက သံဃာတော်များစာရင်း အကျဉ်းချုပ်

| ဦးရေ | ပဓာနထေရ် | သိက္ခာ | ကျောင်းတိုက် နှင့် မြို့/ရွာ | | ရဟန်း | ရှင် | ပေါင်း | ကျောင်းသား |
|---|---|---|---|---|---|---|---|---|
| ၁၁၇ | ဘုန်းတော်ကြီး ဦးဝိဇယ | ၁၅ | ဇေတုဝတီ | စေတီး | ၁ | ၄ | ၅ | ၁၃ |
| ၁၁၈ | ။ ဦးမေဃိယာဘိဝံသ | ၁၄ | သာသနာ့လင်းရောင်ခြည် | ပဲခူး | ၁၄ | ၂၉ | ၄၃ | ၁၃ |
| ၁၁၉ | ။ ဦးနန္ဒိယ | ၁၄ | ဓမ္မဂ္ဂင်္ဂါရုံ | လှာပကစ် | ၃ | | ၃ | ၄ |
| ၁၂၀ | ။ ဦးစိတြ | ၁၄ | စွယ်တော် | ပျဉ်ပုံ | ၂ | ၅ | ၆ | ၅ |
| ၁၂၁ | ။ ဦးဝါသေဋ္ဌ | ၁၃ | စိတ္တသုခ | ဝမ်းဘဲအင်း | ၁ | | ၂ | |
| ၁၂၂ | ။ ဦးပညာ | ၁၂ | ရွှေနန်းရိပ်သာ | တာဝ | ၁ | ၄ | ၅ | ၈ |
| ၁၂၃ | ။ ဦးဉာဏာစရိယ | ၁၂ | ဒီပါရုံ | ပဲခူး | ၃ | ၁ | ၄ | ၃ |
| ၁၂၄ | ။ ဦးခေမာ | ၁၂ | လောကမာတု | ဝေါ | ၂ | ၁ | ၃ | ၃ |
| ၁၂၅ | ။ ဦးဂမ္ဘီရဗုဒ္ဓိ | ၁၂ | သုခိတာရုံ | ဝေါ | ၇ | ၁၆ | ၃၃ | ၃၀ |
| ၁၂၆ | ။ ဦးသာဂရ | ၁၂ | ဓမ္မရံသီ | တကူပြွန် | ၁ | | ၁ | ၂ |
| ၁၂၇ | ။ ဦးသီလာစာရ | ၁၁ | တာကျိုး | အဗျား | ၂ | ၂၀ | ၂၂ | ၆၀ |
| ၁၂၈ | ။ ဦးသာသန | ၁၀ | ဓမ္မဝိဟာရ | ပဲခူး | ၇ | ၂ | ၉ | ၈၇ |
| ၁၂၉ | ။ ဦးအနောပမ * | ၉ | ဇေယျမင်္ဂလာ | ပဲခူး | ၃ | ၃ | ၆ | ၅ |
| ၁၃၀ | ။ ဦးနန္ဒိယ * | ၉ | ဒက္ခိဏာရုံ | ကျိုက်လှ | ၅ | ၁၇ | ၂၂ | ၁၁ |
| ၁၃၁ | ။ ဦးရေဝတ * | ၈ | ဖောင်တော်ဦး | ကွေ့တန်းရှည် | ၁ | | ၁ | ၂ |
| ၁၃၂ | ။ ဦးအဂ္ဂ * | ၈ | ရွာသစ်ကျောင်း | ဘုရားသုံးဆူ | ၃ | ၁ | ၄ | ၁ |
| ၁၃၃ | ။ ဦးဥက္ကံသ * | ၇ | မဟာစေတီ | ပဲခူး | ၇ | ၁၆ | ၂၃ | ၅ |
| ၁၃၄ | ။ ဦးဇနိန္ဒ * | ၇ | လေသာ | ကမာစ် | ၃ | ၆ | ၉ | ၂၅ |
| ၁၃၅ | ။ ဦးနန္ဒမာလာ * | ၆ | သတိပဋ္ဌာန် | လှော်ကား | ၁ | | ၁ | ၅၀ |
| ၁၃၆ | ။ ဦးပဏ္ဍဝ * | ၄ | ရွှေကျောင်းကုန်း | ဖလေး | ၁ | | ၁ | ၅ |
| ၁၃၇ | ။ ဦးကုသလ * | ၂ | ရွှေကျင်ကျောင်း | ကော့ဝင်း | ၂ | | ၂ | ၆ |
| | | | | ယခုနှစ် | ၈၄၄ | ၈၃၀ | ၁၆၇၄ | ၁၆၀၃ |
| | | | | ယခင်နှစ် | ၇၈၃ | ၇၄၇ | ၁၅၃၀ | ၁၇၄၉ |

ပဓာနမရေးသော * ကျောင်းများ၌ မပျက်စီးစေရန် ကျောင်းနီးဆရာတော်များထံ အဆုံးအမခံစေ၍ ခေတ္တစောင့်ရှောက်ထားပါသည်။

ပဲခူး အရညဝါသီ ရွှေကျင်နိကာယ (၁၀၄) ကြိမ်မြောက် သက်တော်ရှည် ဝိနည်းစာပြန်ပွဲကြီးသို့ ရှေးနှစ်များ နည်းတူ ကတိကဝတ်အတိုင်း တန်ဆောင်မုန်းလဆုတ် (၂) ရက်နေ့ နေ့ဆွမ်းမှီ ဝါဆိုရဟန်းတော်အားလုံး ကြွရောက်နိုင်ပါရန် ကြိုတင်ပင့်လျှောက်ပါသည်ဘုရား။



ပဲခူးမြို့ သီရိမင်္ဂလာ ကြခတ်ဝိုင်း ကျောင်းတိုက်၏ အနောက်ဘက်အထွက် မုခ်ပေါက်နှင့် ပြာသာဒ်ဆောင်ကြီးဖြစ်သည်၊ ၁၃၃၆-ခုနှစ်မှာ သံဃာတော် ၂၈၇-ပါး ဝါဆိုတော် မူကြသည်၊ နေ့စဉ် ဆွမ်းခံ သံဃာတန်းကြီး အရှေ့မုခ်ပေါက်မှထွက်၍ အနောက်မုခ်ပေါက်မှ ဤသို့ပြန်ကြွ ဝင်လာကြသည်။

(က) ဘုရားမြတ်စွာ သာသနာတော်သည် နေပမာ–လအဝန်းကဲ့သို့ ကြာမြင့်စွာ တောက်ထွန်း တည်တံ့ပါစေသော်....၊

(ခ) ကမ္ဘာသူ-ကမ္ဘာသား လူအများတို့သည် အရာရာ ဘေးမသန်းဘဲ အမြဲတမ်း ရှင်လန်း တိုးတက်ကြပါစေသော်....၊

(ဂ) အသက်နှင့်ခန္ဓာ မငဲ့ညှာဘဲ အစဉ်ကျော်လွှား ဖြဘ်သန်းပြုစုခဲ့သော သာသနာပြု ကုသိုလ်ထူး များကိုလည်း အကျွန်ုပ်နှင့် ထပ်တူထပ်မျှ ရယူနိုင်ကြပါစေသော်....၊

(ဃ) အကျွန်ုပ်နှင့်အတူ ဦးဘမ်း-ပဲ့ထမ်း လောကဓံ လမ်းကြမ်းဝယ် မမောမပန်း သာသနာပြု အမြိုက်စခန်းသို့ ကြွသုမ်းချီတက် လိုက်ပါလာခဲ့ကြသော ဒုလ္လဘဒါန မမ္မပူဇာ စေတနာရှင် သာသနာပြု ပုဂ္ဂိုလ်ထူး-ပုဂ္ဂိုလ်ချွန်-ပုဂ္ဂိုလ်မွန် အပေါင်းတို့အားလည်း အထူး ကျေးဇူးမြင် မှတ်တမ်းတင်ကာ ပညာဂုဏ်ရှိန် ဝင်းဝင်းထိန်၍ စည်းစိမ်ဖြိုးမောက် တန်ခိုးတောက်လျှက် ရောက်သည့်နေရာ ရန်ဘေးကွာပြီး နိဗ္ဗူကြွင့်န်း ဘုံရွှေနန်းကို စံမြန်းလွယ်ကူ အမြန်ဆုံး ဆွတ်ခြူပန်ဆင်နိုင်ကြပါစေသော်....။

အဋ္ဌမကဏ္ဍပြီး၏။

# နဝမကဏ္ဍ

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ပဲခူးစာပြန် အနှစ် (၁၀၀)ပြည့် ဝိနည်းပိဋကတ် ထွင့်အမြတ်
ပူဇော်ပွဲကြီး၌ တိုင်းအသီးသီး ခရိုင်အသီးသီးမှ ဂဏပါကဋ ဂဏနာယက ဆရာတော်
သံဃာတော်အပါး (၁၀၀၀)တို့သည် အတိအကျလိုက်နာကြရန် အညီအညွတ်
သတ်မှတ်ဆုံးဖြတ်အပ်သော

# ရွှေကျင်ဂိုဏ်းကျင့်ထုံးကြီး

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## ရွှေကျင်ဂိုဏ်း ဥပဒေ

(၁) "ယာဝကီဝဉ္စ ဘိက္ခဝေ ဘိက္ခူ အဘိဏှံ သန္နိပါတာ သန္နိပါတဗဟုလာ
ဘဝိဿန္တိ။ ဝုဒ္ဓိယေဝ ဘိက္ခဝေ ဘိက္ခူနံ ပါဋိကင်္ခါတဗ္ဗာ၊ နော ပရိဟာနိ"

ဟူသော ပါဠိတော်နှင့်ညီစွာ ဂိုဏ်းသံဃာတော်တို့ မပြတ်မပြတ် တွေ့မြင်တိုင်ပင်စည်းဝေးခြင်းသည် သာသနာတော် မဆုတ်ယုတ်မပျက်ပြား တိုးပွါးစည်ပင်ကြောင်း အပရိဟာနိယတရားဖြစ်၍ တလ နှစ်ကြိမ် သံဃာထေရ်ကြီးရှိရာသိမ်၌ အနီးအပါး ငါးရာတွင်းကွာ, တတိုင်ကွာ ရဟန်းသံဃာတော်တို့ သွားရောက်စည်းဝေး၍ သုတ္တုဒ္ဒေသ သံဃဥပုသ်ပြုပြီးလျှင် သံဃထေရ်ကဖြစ်စေ, သံဃထေရ် တိုက်တွန်း လွှဲအပ်သော ပုဂ္ဂိုလ်ကဖြစ်စေ ဤဥပဒေစာကို ဘတ်ရွတ်၍ ဟောပြောဆုံးမရန် ရှိသမျှကို ပြောဟော ဆုံးမ ဩဝါဒပေးရာနာခံ၍ နေရင်းရပ်ဌာန်သို့ ပြည်လည်ကြ၍ ပြောဟောဆုံးမလိုက်သမျှကို နေရာတကျ ကောင်းမွန်စွာ ကျင့်ကြံ နေထိုင် အားထုတ်ရခြင်း။

(၂) "အနာယကာ ဝိနဿန္တိ၊ နဿန္တိ ဗဟုနာယကာ"။—

ဟူသည်နှင့် ညီစွာ ဂိုဏ်းသံဃာတော်များမှာ ကိုးကွယ်ရာမဲ့ မရှိစေရ၊ ဂိုဏ်းဂဏအတွင်း တစုံတရာ အာပတ္တာဓိကရုဏ်း, ဝိဝါဒါဓိကရုဏ်း, အနုဝါဒါဓိကရုဏ်း ဆုံးဖြတ်ဆင့်ဆိုရန် ပေါ်ပေါက်လာလျှင် ဆုံးဖြတ်ဆင့်ဆိုဘို့ရာ တနှစ်တကြိမ်, ခြောက်လတကြိမ် ဝါဝင်, ဝါကျွတ် သွားရောက် ဩဝါဒခံဘို့ရာ သံဃအစည်းအဝေးရှိသည့်အခါ သံဃနာယက ဝိနည်းဓိုရ် ဂိုဏ်းအုပ် သမုတ်တင်ထားလေ့ ရှိကြ၍ ဒါယကာတို့က ကျောင်းထိုင်ဘုန်းကြီး တောင်းသည့်အခါ—

"ငါးဝါပြည့်ဘိ၊ ဒွေမာတိကာ၊ သုတ်လေး ဘာဏဝါရ၊ အမ္ဗဋ္ဌတု၊ ဝတ္တာစကား၊
တရားသုံးပုဒ်၊ အားထုတ်ဘို့ရာ၊ ဘာဝနာနှင့်၊ ကမ္မာကမ္မ၊ နိဿယ၊ မုတ္တာအင်္ဂါ ခုနစ်တည်း"—

ဟူသော နိဿယမုတ္တ အင်္ဂါခုနစ်ပါးနှင့် ပြည့်စုံရုံမျှသာဖြစ်သော ပုဂ္ဂိုလ်ကို ထည့်အပ်လိုလျှင် အထက် သံဃနာယက ဝိနည်းဓိုရ် ဂိုဏ်းအုပ်ပုဂ္ဂိုလ်ထံ လျှောက်ထားခေါ်ပြ အခွင့်ရမှ ရဟန်း, သာမဏေ

လက်မခံစေရ၊ လက်ခံလိုလျှင် နိဿယမုတ္တ အင်္ဂါပြည့်စုံသော ရဟန်း ၊ ကျောင်းနီး နိသျည်းပေးနိုင်သော ပုဂ္ဂိုလ်ထံ ဥပဇ္ဈာယ်ယူ၍နေသော သာမဏေများကိုသာ လက်ခံစေ၍–

"ဆယ်ဝါပြည့်တင်း၊ ဝိဘင်းနှစ်ဖြာ၊ ကမ္မာကမ္မ၊ ခန္ဓကပုဒ်၊
နာမ်ရုပ်ပိုင်ပိုင်၊ ဟောပြနိုင်၊ ကျောင်းထိုင် ငါးအင်္ဂါ"–

ဟူသော နိသျည်း ဥပဇ္ဈာယ်ကျောင်းထိုင် အင်္ဂါ ငါးပါးနှင့် ကျမ်းဂန်တတ်မြောက်၍ ဖြစ်စေ၊ အာစရိယလဒ္ဓေါပဒေသကို ရ၍ဖြစ်စေ ပြည့်စုံသော ပုဂ္ဂိုလ်ကိုလည်း အထက် သံဃနာယက ဝိနည်းဓိုရ် ဂိုဏ်းအုပ်ပုဂ္ဂိုလ်ထံခေါ်သွား လျှောက်ထား ခွင့်ရမှ ကျောင်းကန်နေထိုင်စေရခြင်း။

(၃) အခြားသောဂိုဏ်းဂဏတို့က ရွှေကျင်ဂိုဏ်းသို့ဝင်၍ ကောင်းမွန်စွာ နေထိုင်လိုပါသည်ဟု စပ်ရာစပ်ရာ ဝင်ရောက်လာသော ပုဂ္ဂိုလ်များကို ထေယျသံဝါသက ၊ အန္တိမ ပါရာဇိက ဝတ္ထုများနှင့် အမှုအခင်း မဖြစ်ပွါးစဘူး၊ ဖြစ်ပွါးဘူးသော်လည်း ယုံကြည်လောက်သော ဝိနည်းဓိုရ်ထံမှ ဖြတ်စာ ဝိနိစ္ဆယကိုရဘူး၍ စိတ်ကောင်းနှလုံးကောင်းရှိသည်ဟု ခတ်သဘောကိုသိသော ပုဂ္ဂိုလ်ကိုသာ လက်ခံ သိမ်းပိုက်၍ ကျောင်းကန်နှင့် တော်သသူဖြစ်လျှင် အထက်နာယက ဝိနည်းဓိုရ်ထံ တောင်းပန်ခေါ်ပြ အခွင့်ရမှ ကျောင်းကန်နှင့် နေရာချထားရခြင်း။

(၄) နီးရာနီးရာ နာယကဝိနည်းဓိုရ် ဂိုဏ်းအုပ်ဂိုဏ်းချုပ် ဆရာတော်ကြီးများထံ မကြာမကြာ သွားရောက် ဆုံးမခံလျက် တနှစ်တခါ သံဃာစာရင်း၊ ပရိယတ်ပဋိပတ်စာရင်း ပို့သွင်းရခြင်း။

(၅) စာပြန်ပွဲသဘင် အစည်းအဝေး၊ ဥပုသ်ပြု အစည်းအဝေး၊ တရားနာ အစည်းအဝေး စသော သံဃာ့အစည်းအဝေးရှိသောအခါ အညီအညွတ် ကြွလာ၍ အာယောဂပတ် ဘွဲ့ခြင်း၊ ပခုံး နှစ်ဘက်ခြုံခြင်း၊ စကားတီးတိုးပြောနေခြင်း၊ စက်ဆုပ်ရွံရှာဘွယ် ကျယ်လောင်စွာ ချွဲခန်း သလိပ် ဟက်ခြင်း၊ ဒူးထောင်ပေါင်ကား ထိုင်နေခြင်း၊ တုံးလုံးပက်လက် ခြေလက်ကားယား အိပ်ငိုက်ခြင်း စသော အဂါရဝများကို ပယ်ရှားရှောင်ကြဉ်၍ ထေရ်စဉ်ဝါစဉ်အတိုင်းနေ၍ ရိုသေစွာနာခံရခြင်း။

(၆) "သန္နိပတိတာနံ ဝေါ ဘိက္ခဝေ ဒွယံ ကရဏီယံ ဓမ္မီ ဝါ
ကထာ အရိယော ဝါ တုဏှီဘာဝေါ"–

ဟောတော်မူသည်နှင့်ညီစွာ ဆွမ်းစဉ်ပရိတ်ရွတ်၊ မသာ အသုဘစသော အရေးကိစ္စဖြင့် သံဃာ စုဝေးမိကြသောအခါ အဘယ်အလှူမှာ ဟင်းချိုသည် လဘက်ကောင်းသည် စသော တိရစ္ဆာနကထာ၊ ရယ်စရာ မောစရာစကားတို့ကို ပြောဟော၍ တသောသောရယ်မော၍မနေပဲ ပဋိသန္ထာရစကား၊ သဒ္ဒါ သင်္ဂြိုဟ်နှင့် စပ်သောစကား၊ ဝိနည်းအဆုံးအဖြတ်စကား၊ ဇာတ်နိပါတ် ဝတ္ထုသက်သေ သံဝေဂစကား၊ သမထဝိပဿနာကမ္မဋ္ဌာန်းစကား စသည်များကို ပြော၍သော်၎င်း၊ တရားကို နှလုံးသွင်းလျက် စကား မပြော တုဏှီဘောသော်၎င်း နေရခြင်း။

(၇) “ဒဏ္ဍေနေကေ ဒမယန္တိ၊ အင်္ကုသေဟိ ကသာဟိ စ။
အဒဏ္ဍေန အသတ္ထေန၊ နာဂေါ ဒန္တော မဟေသိနာ။”–

ဟူသော ပါဠိတော်နှင့်ညီစွာ ဘုရားသားတော်ပီပီ ဘုရားရှင်အတုကို နည်းမှီလျက် ရပ်သူ ရွာသား ကျောင်းသားရှင်ငယ်တို့ကို ဆဲရေးငေါက်ငမ်း ကြမ်းတမ်းရိုက်နှက် ပုတ်ခတ်၍ ဆုံးမလေ့မရှိပဲ နူးညံ့ချိုသာသောစကားဖြင့် သဲဒဏ် ရေဒဏ်ပေးခြင်း, မြက်တလင်းသုတ်သင်စေခြင်း, အချိန်နာရီ ပိုင်းခြား၍ စာအံစေခြင်း, ဘုရားရှိခိုးစေခြင်းစသည်ဖြင့် ယဉ်ကျေးလိမ္မာအောင် ဆုံးမရခြင်း။

(၈) ကျောင်းသားလူငယ်ကို သျှောင်ထုံး၍ ခေါင်းဇပါင်းပေါင်း၍ပေးခြင်း, ခွေးငယ်ကြောင်ငယ်တို့ကို လက်ပေးသင်ခြင်း, ကိုင်တွယ်ကစားခြင်းစသော သမာဓိပျက်ပြားကြောင်း, ထိုသူငယ်တို့၏ ရှိသေဂါရဝ သက္ကစ္စနည်းပါးကြောင်း အမှုတို့ကိုမပြု စောင့်ထိန်းရခြင်း။

(၉) တစုံတခုဝယ်ခြမ်းရန်ရှိသည့်အခါ ဈေးဆိုင်ကန္နားသို့ ရဟန်းသာမဏေတို့ မသွားမလိုက် မပါစေရ၊ မနေသာ၍ ဆရာ့ကိစ္စ, သံဃကိစ္စနှင့် လိုက်ပါရလျှင်လည်း အလိုရှိသောဝတ္ထုကို ရွေးချယ်ပြသပြီး၍ ကယဝိက္ကယ ဒုဗ္ဗိစာရဏာမဖြစ်ရအောင် ဆိတ်ဆိတ်နေရခြင်း။

(၁၀) ဂေလညစသော အကြောင်းမရှိပဲလျက် လှည်းရထားစီးခြင်း၊ ထီးဆောင်းခြင်း၊ မြို့တွင်းရွာတွင်း၌ ဘိနပ်စီးနင်းခြင်း၊ နေလွဲကွမ်းစား ဆေးဝါးဆေးသောက်ခြင်း၊ ရောက်တတ်ရာရာ ပရိက္ခရာရောင်းချ၍ ရွှေငွေ အနာမာသ စုထားခြင်း၊ ကြွေးမြီ အတိုးအပွါး ချေးငှါးပေးချခြင်း၊ ဘုရားခွင့်ပြုတော်မမူအပ်သော ဒါယကာများကို ကျွေးမွေးပေးကမ်းခြင်း၊ မဏ္ဍပ် ကန္နား ပွဲရုံများ၌ လူတို့ ခမ်းနားကျင်းပရန် ကော်ဇော, ကန့်လန့်ကာ, ဖျာ ရိုင် သင်ဖြူး ငှါးရမ်းခြင်း၊ ကျောင်းတကာကြီး, ဘုရားတကာကြီး, သူဌေးကြီး, သူကြွယ်ကြီး စသည်ဖြင့် ကြီးတလုံးကို အသုံးများစွာချ၍ ပြောဆိုလေ့ရှိခြင်း၊ ရဟန်း, သာမဏေတို့၏ သိက္ခာဂုဏ်သိရ် အရှိန်အစော်ကို မငဲ့မညှာ ဒါယကာကြီးများကို ခင်ဗျား, ကျွန်တော်နှင့် ပြောဆိုလေ့ရှိခြင်း၊ ဒါယကာချမ်းသာလျှင် ဝမ်းသာ, ဒါယကာဆင်းရဲလျှင် ဝမ်းနည်းသည့် အမှုအရာကိုပြသော သဟသောကီ, သဟနန္ဒီ, သုခိတေ သုခိတော, ဒုက္ခိတေ ဒုက္ခိတော လောကဝတ် ပျူငှါပြုခြင်း အစရှိသော အနနုလောမိက ဂိဟိသံသဂ္ဂ, ကုလဒူသနရှစ်ပါး, အနေသနနှစ်ဆဲ့တပါးစသည်များကို ပယ်ရှားရှောင်ကြဉ်လျက် ဥပုသ်အသင်းပါ သံဃာထဲက ထိုကဲ့သို့သောပုဂ္ဂိုလ် တစုံတယောက် ပေါ်ပေါက်လာလျှင်လည်း ကောင်းမွန်စွာ မြစ်တားဆုံးမရခြင်း၊ မြစ်တားဆုံး၍မရ ဥပုသ်အစည်းအဝေးသို့မှ မလာမဝင်လျှင် အထက်နာယက ဝိနည်းမိုရ် ဂိုဏ်းအုပ်ပုဂ္ဂိုလ်များထံ သွား၍လျှောက်ထားရခြင်း၊ အထက်နာယက ဝိနည်းမိုရ် ဆရာတော်များက “ဂရုကော ခေါ သံဃဘေဒေါ”ဟောတော်မူသည်နှင့် ညီစွာ အမှတ်မဲ့ လျစ်လျူရှု၍ မနေပဲ အရေးတခု အလေးပြု၍ သံဃာမကွဲမပြား ပိပြားသေဝပ် ညီညွတ်စေ့စပ်အောင် ၃-ကြိမ်တိုင်တိုင် နှိပ်ကွပ်ဆုံးမ ပြောဟောရခြင်း။

(၁၁) သံဃနာယက ဆရာတော်ကြီးများ ဆုံးမစကားကိုမှ မနာမယူ ဒုဗ္ဗစပြုနေသူကိုကား ကရုဏာလွန် ခန္တီချွန်သော သီလဝန်, ဂုဏဝန်, ပညာဝန်အကျော် ဆရာတော်ဘုရားကြီး၏ တပည့်သားမြေး ဖြစ်ကြသည့်အတိုင်း သည်းခံခြင်းများစေ၍ လူရောရှင်ပါ ကွဲပြားလျက် ခိုက်ရန်ဖြစ်ပွါး ငရဲများ

ကြောင်း ဖြစ်သော ဆွမ်းစဉ်ပရိတ်ရွတ်ခဲ့ခြင်း, မသာ အသုဘရှု အတူမလိုက်ခြင်း, စရပ်တခုတည်း အတူ မတည်းခြင်း, ကြော်ငြာစာကမ်းလျက် အရှက်ခွဲခြင်း စသော အဓမ္မကတိကအမှုတို့ကို လူသိရှင်ကြား မပြုမူ၍–

"ယဿ သဗ္ဗမဟောရတ္တိံ၊ အဟိံသာယ ရတော မနော။
မေတ္တံ သော သဗ္ဗဘူတေသု၊ ဝေရံ တဿ န ကေနစိ"။

ပါဠိတော်ရှိသည်နှင့်အညီ မေတ္တာ, ကရုဏာ မပျက်စေမူ၍ ထိုသူ့ကျောင်းကန်, အုံး, အိပ်ရာ, အိုးခွက်, ကန့်လန့်ကာ, ဆွမ်း, ဟင်း, ရေ, အဖျော်ယမကာ စသောပစ္စည်းကို သုံးဆောင်ခြင်း, စာပေကျမ်းဂန် တက်ခြင်းဟူသော ပစ္စယသမ္ဘောဂ, ဓမ္မသမ္ဘောဂနှစ်ပါးတွင် ပါဝင်သော အမှုမျိုးကိုသာ ဝေးစွာ ရှောင်ကြဉ်လျက် သနားကြင်နာ မေတ္တာသက်ဝင် ချစ်ခင်ပေါင်းသင်း နေထိုင်ရခြင်း။

(၁၂) ကျောင်းထိုင်ပုဂ္ဂိုလ်မှာ တသောင်းမက ပုံနှိပ်၍ နိုင်ငံအရပ်ရပ် ပျံ့နှံ့လျက်ရှိသော ဝိနယကောသလ္လစာအုပ်ကို လက်ကိုင်ထား၍ ဒွေမာတိကာ, ခုဒ္ဒသိက္ခာတို့ကို ကျေပွန်စွာ ရမိ,နက်ထင် အချက်မြင်အောင် လေ့လာ၊ မာတိကာ အဋ္ဌကထာ ကေါ်ကို အနက်အဓိပ္ပါယ် သိမြင်အောင် အားထုတ်၊ ဥပုသ် ၉-ပါး, ပဝါရဏာ ၉-ပါး, သက်န်း ၉-ထည်, သပိတ် ၉-လုံး–

"ပွင့်, သီး, မှုန့်, မြေ၊ ဝါး, ပူ, ခြေ၊ ဝဋ္ဋေ ဒွေရှစ်ဖြာ"–

ဟူသော ကုလဒူသန ရှစ်ပါး၊ ခုဒ္ဒကပါဌ အဋ္ဌကထာ, မူလဋီကာတို့၌ လာသော–

"ဝေဠုံ ပုပ္ဖံ ဖလံ ပတ္တံ၊ ဒန္တကဋ္ဌံ မုခေါဒကံ။
သိနာနံ မတ္တိကံ စုဏ္ဏံ၊ အထောပိ စာဋုကမျတံ။
မုဂ္ဂသူပျံ ပါရိဘဋျံ၊ ဇင်္ဃပေ့သနိကံ တထာ။
ဝေဇ္ဇံ ပဟိဏကံ ဒူတံ၊ ပတိပိဏ္ဍာနု ဝတ္တကံ။
ခေတ္တနက္ခတ္တ ဝိဇ္ဇာ စ၊ အင်္ဂဝိဇ္ဇန္တိ ဧဝိတံ။
ကပ္ပေန္တိ တေ နိဿာယ၊ ကေဝိသတျနေသနံ ။"–

ဟူသော အနေသန နှစ်ဆဲ့တပါးစသည်များကို သိနားလည်အောင် ကြံစည်အားထုတ်ရခြင်း။

(၁၃) အခန်းနေ စာသင်သားတို့မှာ ဘိက္ခုမာတိကာကို နှုတ်ရဆောင်ရွက်၊ ခုဒ္ဒသိက္ခာကို အနက်ထင်အောင် သင်ကြားအားထုတ်ရခြင်း။

(၁၄) ညဦးနံနက် ဝတ်တက်ခေါင်းလောင်းထိုး၍ ဆရာကျောင်းထိုင်ဘုန်းကြီးနှင့်တကွ ရဟန်း, သာမဏေ, ကျောင်းသား သူငယ်များပါ ဘုရားဝတ်တက်ရာသို့လိုက်၍ ပါတိမောက်, ရှင်ကျင့်ဝတ်, ကျောင်းသားရွတ်, ပရိတ်ကြီး, ကြည်ညိုဘွယ်သော သုတ္တန် သံဝေဂ ဂါထာများကို တနေရာစီခွဲ၍ အညီ အညွတ်ရွတ်ဘတ်ပြီး၍ သဟသေယျမဖြစ်ရအောင် နံနက်ဝတ်တက်ရာမှ ပြန်သည့်အခါ အိပ်ရာ တိုက် ခန်းသို့ မဝင်စေပဲ ကျောင်းသားသူငယ်များပါ လွင်တီးခေါင်၌ နေထိုင်စေရခြင်း။

(၁၅) "န တာဝ သုပိတုံ ဟောတိ၊ ရတ္တိ နက္ခတ္တမာလိနီ။
ပဋိဇဂ္ဂိတု မေဝေသာ၊ ရတ္တိ ဟောတိ ဝိဇာနတံ။
သံသာရဝိသဝက္ခာယ၊ ဒွေယေဝ မဓုရာ ဖလာ။
ကဗျသတ္တာနုယောဂေါ စ၊ ပတိပတ္ယာ နုယုဥ္ဇနံ။
ကတိပာ စရေယျ သာမညံ၊ စိတ္တံ စေ န နိဝါရယေ။
ပဒေ ပဒေ ဝိသီဒေယျ၊ သင်္ကပ္ပါနံ ဝသာနုဂေါ။
ဥဒယဗ္ဗယသင်္ခါရေ၊ နိဗ္ဗိန္ဒိတ္ဂာန ပဏ္ဍိတော။
သကိစ္စ မနုယုဥ္ဇေယျ၊ မောဃံ ကာလံ န ခေပယေ၊
အဓိသီလာ ဓိစိတ္တာနံ၊ အဓိပညာယ သိက္ခနာ။
သကိစ္စမိတိ ဝိညေယျာ၊ နာညာ ကာမဂဝေသနာ။
အနိစ္စန္တဿ နိဗ္ဗာနံ၊ ဝိတသံဝေဂဗုဒ္ဓိနော။
သဗ္ဗမ္ပိ ကတကမ္မန္တံ၊ သံသာရဒီဃကာရဏံ။
အနိစ္စန္တဿ နိဗ္ဗာနံ၊ ကာမံယေဝ ဂဝေသတော။
သဗ္ဗမ္ပိ ကတကမ္မန္တံ၊ ကဋသိဝဒ္ဓိကာရဏံ ။"-

စသော တရားဂါထာများနှင့် ညီစွာ ကလေးသူငယ် ထိန်းကျောင်းခြင်း, ယပ်တောင်တချောင်း တောင်းတစီးနှင့် မငြီးမငွေ့ ပြောလိုက်၍နေခြင်းစသော အမှုလွတ် ဗာဟိရကိစ္စနှင့် အချည်းနှီးကာလ ကို မကုန်ခန်းစေပဲ နေ့အခါ စာပေကျမ်းဂန် သင်ကြားပို့ချ ကြည့်ရှုခြင်း၊ နံနက်ဝတ်တက်ပြီးခါ ၁-နာရီ ခန့် ၁-နာရီခွဲခန့် ကြာအောင် နိသဇ်, ရုက္ခမူ, အဗ္ဘောကာသိကစုတင်များကို ဆောက်တည်၍ အမြဲ စီးဖြန်းနေကျ လက်ကိုင်ရှိသော ပါဠိဟာရိယကမ္မဋ္ဌာန်းကို စီးဖြန်းနေထိုင်ရခြင်း။

(၁၆) ကျောင်းသားသူငယ်များကို တလ လေးသီတင်း ဝါတွင်း ဝါပ ဥပုသ်စောင့်စေ၍ ကျောင်းထိုင်ဘုန်းကြီးနှင့်တကွ ကျောင်းသားလူငယ်ပါ ကျန်းမာသည့်အခါ တလလေးသီတင်း ဝါတွင်း, ဝါပ ကောသနိက်စုတင် ဆောက်တည်လေ့ရှိရခြင်း။

(၁၇) "ပဥ္စိမေ ဘိက္ခဝေ အာဒီနဝါ အပ္ပါသာဒိကေ"-

စသော ပါဠိတော်နှင့်ညီစွာ မြင်သူ, ကြားသူ ရဟန်းရှင်လူတို့ နှလုံးမသာ မကြည်ညိုဘွယ်ရာ, ကြည်ညို ပြီးသောသူအချို့တို့လည်း ကြည်ညိုသဒ္ဓါပျက်ဘွယ်ရာ စာပြန်ပွဲ, အလှူရုံမဏ္ဍပ်ကန္နားတို့၌ ကစားတတ်, ခိုက်ရန်ဖြစ်တတ်, ဒေါင်းလန်း ပန်းကန်တို့ကို ချိုးတတ်ခွဲတတ်, အလှူဝတ်ကို လုယက်တတ်, လျှပ်ပေါ် လောက်လက် အရက်သောက် ဘိန်းစားနှင့် အလားတူသော ကျောင်းသား, ကပ္ပိယတို့ကို အလှူရုံ မဏ္ဍပ် ကန္နား, စာပြန်ပွဲများသို့ မခေါ်ခဲ့ရခြင်း။

(၁၈) တစုံတယောက်သော ကျောင်းသား အလှူရုံ မဏ္ဍပ် ကန္နား စာပြန်ပွဲများ၌ ပိုက်ဆံ ကစားခြင်း, ခိုက်ရန်ဖြစ်ပွါးခြင်း စသော မကြည်ညိုဘွယ်အမှုကို ပြုခဲ့သော် ဆရာဖြစ်သူ နေရာမကျ လိမ္မာ အောင် မဆုံးမခြင်းကြောင့် ဖြစ်ရကား ဆရာဘုန်းကြီးပါ မြတ်စွာဘုရားကို ရေဒဏ် တဆဲ့ငါးလုံး ကပ်လှူ ပြီးလျှင် ဥပုသ်ပြုရာ သံဃာ့အစည်းအဝေး၌ လျှောက်ထားရခြင်း။

(၁၉) ကျန်းမာပကတိ ရှိလျက်နှင့် ပျင်းရိသည်အတွက်ကြောင့် စက္ကူ့ခြေကို စောင့်ခြင်း စသော ဂါမပ္ပဝိသနသိက္ခာပုဒ်ကို လုံခြုံအောင် မထိန်းနိုင်၍ မကြည်ညိုဘွယ် ငယ်လှသော သာမဏေများကို အလှူရုံမဏ္ဍပ်ကန္နားသို့ ကိုယ်စားမစေမလွှတ်ရ။

(၂၀) "ဒေသေထ ဘိက္ခဝေ ဓမ္မံ အာဒိကလျာဏံ မဇ္ဈေကလျာဏံ
ပရိယောသာနကလျာဏံ သာတ္ထံ သဗျဉ္ဇနံ ကေဝလပရိပုဏ္ဏံ
ပရိသုဒ္ဓံ ဗြဟ္မစရိယံ ပကာသေထ၊ အဿဝဏတာ ဓမ္မဿ
ပရိဟာယန္တိ" –

ဟူသော ပါဠိတော်နှင့်အညီ တရားနာရခြင်းနှင့် ကင်း၍ လိမ္မာယဉ်ကျေးခြင်းမဖြစ်နိုင်ရကား ကျောင်းသို့ရောက်လာသော ဥပုသ်သည် ဒါယကာ, ကျောင်းတိုက်ရှိ ရဟန်း, သာမဏေ, ကျောင်းသားများကို တလလေးသီတင်း ဝါတွင်း, ဝါပ နေ့တရား ညတရားပြောဟောလေ့ရှိရခြင်း။

(၂၁) မိမိ၏ ဆုံးမဩဝါဒစကားကို လေးစားနာယူသော ရပ်သား ရွာသူ လူဒါယကာတို့ကို သင့်လျော်ရာအရပ် စရပ်, တန်ဆောင်း, ဘုရားကျောင်းများ၌ သင်္ကုတ်, ရေချမ်း, ပန်း, ဆီမီး ပူဇော်လှူဒါန်းလျက် ဝတ်တက် ဝတ်ကပ် ရွတ်ဘတ်သရဇ္ဈာယ်တတ်အောင် စည်းကြပ် သင်ပြလေ့ရှိရခြင်း။

(၂၂) ခရီးဒေသစာရီ လှည့်လည်သွားလာသည့်အခါ ကုက္ကုစ္စသံသယ မကင်းစကောင်းသော ဝိသဘာဂကျောင်းကန်များ၌ မတည်းမခို မနေမနား မစားမသောက်ရ၊ သဘာဂကျောင်းကန်၌လည်း တည်းခိုနေထိုင်ရန် နေရာအာဝါသကို မရသေး၍ အာဝါသိကမဖြစ်ရသေးခင် ဘိနပ်ချွတ်ခြင်းစသော အာဂန္တုကဝတ်ကို မချွတ်မယွင်းစေရ၊ ဝါသူပကတ ရစကောင်းသော သိက္ခာပုဒ် ရှစ်ပါးမှတပါး ဩက္ကိတ္တ-စက္ကူစသော သိက္ခာပုဒ်များကို စောင့်ထိန်းခြင်းငှါ ခဲယဉ်းလှသော ရွာတွင်း အိမ်လပ်, လှည်းပေါ်များ၌ တည်းခိုညဉ့်အိပ်ခြင်းကို မပြုရ၊ မဂ္ဂသညာဖြင့် ရွာကိုဖြတ်သန်း၍သွားရာ၌လည်း ရွာအရံရှိလျှင် အရံမှ, အရံမရှိလျှင် ခဲနှစ်ကျမှစ၍ သုပ္ပဋိစ္ဆန္န, ကာယဗန္ဓန, ဝိကာလေဂါမပ္ပဝိသန သုံးပါးမှတပါး ဘိနပ်ချွတ်ခြင်း, စက္ကူ့ခြေကို ထိန်းခြင်းစသော ဂါမပ္ပဝိသနသိက္ခာပုဒ်တို့ကို စောင့်ချုပ်လျက် ဝင်ထွက်သွားလာရခြင်း။

(၂၃) "ဉ္ဇတ္တိမိဿေ ကုတော သီလံ၊ ဉ္ဇတ္တိ မလံ ဗြဟ္မစရိယဿ"။

ဟူသည်နှင့်အညီ လူသူထွက်၍ သာသနာတော်မှ ပျက်စီးစုတေ့ လွယ်ကြောင်း၊ လူပင်မထွက်သော်လည်း မကောင်းသတင်း ကျော်စောခြင်းပွက်၍ ဂုဏ်ကျေးဇူးပုပ်ပျက်ကြောင်းဖြစ်သော မာတုဂါမ, မယ်သီလတို့ကို ဆွမ်းချက်ဟင်းချက် ကပ္ပိယပြုလုပ် မွေးထားခြင်း၊ စာပေကျမ်းဂန် ချပို့ သင်ကြားခြင်းများကို အလျဉ်းမပြုရ၊ ဝေးဝေးကြီး ရှောင်ကြဉ်ရခြင်း။

(၂၄) "ကြိယာကာရကသမ္ဘန္ဓံ၊ ယေ န ဇာနန္တိ မာဏဝါ။
ပဿုဟိယေဝ တေ တုလျာ၊ ခုရသိင်္ဂဝိဝဇ္ဇိတာ။
ယော နိရုတ္တိံ ပဇာနာတိ၊ ဇာနမ္ပိ ပိဋ္ဌကတ္တယံ။
ပဒေ ပဒေ ဝိကင်္ခေယျ၊ ဝနေ အန္ဓဂဇော ဝိယ"။–

ဟူသော သဒ္ဒါငယ်၊

"အာဘိဓမ္မိကာယေဝ ကိရ ဓမ္မံ ကထေန္တာပိ အကထေန္တာပိ
ဓမ္မကထိကာ နာမ"–

ဟူသော အဋ္ဌကထာတို့နှင့်ညီစွာ သဒ္ဒါမဘတ်, အဘိဓမ္မာမတတ်က အရှိန်အစော် အာနုဘော်ကင်းပ အပြစ်ဒေါသ အာဒီနဝများလှသောကြောင့် သဘောသကန် ဉာဏ်ပဋိဘာန်နှင့် ပြည့်စုံ၍ ကျမ်းဂန်တတ်မြောက် အခြေရလောက်သော စာသင်သားတို့ကို စာပွဲသဘင်အခါပြန်ဘိုရာ ဝိနည်းတွင်၍သာမက သဒ္ဒါသုတ်နက်, သင်္ဂြိုဟ်ပါဠိအနက်, ပုဒ်စစ်, နာမ်ဂိုဏ်း, စာစပ်, ဘေဒစိန္တာ စသည်များကိုလည်း ဉာဏ်အားလျော်စွာ ကျက်အံ ပြန်ဆိုစေရခြင်း။

(၂၅) "အနာယကာ ဝိနဿန္တိ၊ နဿန္တိ ဗဟုနာယကာ။
ထီနာယကာ ဝိနဿန္တိ၊ နဿန္တိ သုသုနာယကာ"။–

ဟူသည်နှင့်ညီစွာ ဂိုဏ်းသံဃာအတွင်း၌ အမှုအခင်း တစုံတရာ ဆုံးဖြတ်ရန် ပေါ်ပေါက်လာလျှင် ကြေအေးပြီးပြတ်အောင် နှိပ်ကွပ်ဆုံးဖြတ်သူမရှိက အဓိကရုဏ်းကျယ်ပွါး စကားများ၍ သံဃာ နှစ်ပက္ခ, သုံးပက္ခ ကွဲပြားသဖြင့်–

"သံဃေ ခေါ ပန ဘိက္ခဝေ ဘိန္နေ အညမညံ အက္ကောသာ စ
ဟောန္တိ၊ အညမညံ ပရိဘာသာ စ ဟောန္တိ၊ အညမညံ ပဋိက္ခေပါ
စ ဟောန္တိ၊ အညမညံ ပရိစ္စဇနာ စ ဟောန္တိ။ တတ္ထ အပ္ပသန္နာ
စေဝ နပ္ပသီဒန္တိ၊ ပသန္နာနဥ္စ ဧကစ္စာနံ အညထတ္တံ ဟောတိ။
အယံ ဘိက္ခဝေ ပဌမော ဓမ္မော သဒ္ဓမ္မဿ သမ္မောသာယ အန္တရ-
ဓာနာယ သံဝတ္တတိ"–

ဟူသော ပါဠိတော်နှင့်အညီ အချင်းချင်း ဆဲရေးပြစ်တင် ရှောင်ကြဉ်ရန်ပွါး အများမချမ်းသာ သာသနာကွယ်ပျောက်လွယ်ကြောင်းဖြစ်၍ ဂိုဏ်းသံဃာအတွင်း အမှုအခင်း တစုံတရာပေါ်ပေါက်လာလျှင် နှိပ်ကွပ်ဆုံးဖြတ်မည့် ဓမ္မကထိက ဝိနည်းဓိုရ် နာယကပုဂ္ဂိုလ်ကို သင့်ရာ သံဃာ့အစည်းအဝေး၌ မနည်းလွန်း, မများလွန်း သမုတ်တင်ထားလေ့ပြုရခြင်း။

(၂၆) သမုတ်တင်ထားအပ်သော ထိုဝိနည်းဓိုရ် ဓမ္မကထိက နာယကမထေရ်ကြီး၏ ဆုံးမစကားကို အများလိုက်နာလျက် သီတင်းကျွတ်ပဝါရဏာအခါ ဝိနည်းဓိုရ်ဆရာတော်ကြီးရှိရာ၌ နီးရာနီးရာ ဂိုဏ်းသံဃာအားလုံး စုရုံးစည်းဝေး၍ မဟာပဝါရဏာပြုပြီးလျှင် တဥတုတခေါက်, နှစ်ခေါက်, သုံးခေါက်, လေးခေါက်, ငါးခေါက် အနီးအဝေး အလျောက် နာယကမထေရ်ကြီးများထံ သွားရောက်၍ ဆုံးမဩဝါဒခံရခြင်း။

(၂၇) ရွှေကျောင်းဆရာတော်ဘုရားကြီး၏ တပည့်သားမြေး ရွှေကျောင်းတိုက်သွေး သက်ဝင်ကြသော အနီးအဝေး အရပ်ရပ် ဂိုဏ်းသံဃာအပေါင်းတွင် ဝိနည်းဓိုရ် နာယကအဖြစ်ဖြင့် ရှေးကဆရာတော်ဘုရားကြီးများ သမုတ်တင်မြှောက်ပြီး အသီးသီး အနွတ္တအလျောက် သံဃာတင်မြှောက် သမုတ်အပ်သော ပုဂ္ဂိုလ်တို့ကလည်း အမိန့်အာဏာကို ပေးစွမ်းနိုင်သော သာသနာပိုင် သာသနာပြုဆရာတော်ကို ပူဇော်တင်မြှောက်သော သာသနဒါယကာ သာသနာပြုမင်း လစ်ဟင်း ကင်းလွတ်နိုက်ဖြစ်သော်လည်း–

"မဟာဇနေန သမ္မတောတိ ခေါ ဝါသေဋ္ဌ မဟာသမ္မတော
မဟာသမ္မတောတိ ပဌမံ အက္ခရံ ဥပနိဗ္ဗတ္တံ"–

ဟူသကဲ့သို့ သံဃာသဘောတူတင်ကြသော သာသနာ့ဝန်ကို လွှဲသွန်ရှောင်တိမ်းခြင်းငှါ မသင့်ပေရာဟု နှလုံးထားကြ၍ တခုတည်းသော ဂါမသိမ်၌ သံဃဥပုသ်လောက်လျှက်နှင့် ဥဒကုက္ခေပ, သတ္တဗ္ဘန္တရ, ဗဒ္ဓသိမ်များသို့သွား၍ ပါရိသုဒ္ဓိ, အဓိဋ္ဌာန်ဥပုသ် မပြုကောင်းသောကြောင့်၎င်း၊ ဆိုအပ်ခဲ့ပြီးသော အဘိဏှသန္နိပါတ အပရိဟာနိယတရား တိုးပွါး၍ သာသနာတော် စည်ပင်ထွန်းကား ကြီးပွါးစေခြင်းငှါ၎င်း ဤဥပဒေစာပါ သံဃာ့အစည်းအဝေးများကို မစည်းမကြပ်ရသေးသော အရပ်များ၌ မဖြစ်မနေရ ဖြစ်မြောက်အောင်စည်းကြပ်လျှက် စွမ်းရည်သတ္တိနှင့်ပြည့်စုံ၍ သာသနာတော် ဝန်ကို ရွက်ဆောင်နိုင်လောက်သော လဇ္ဇီအမျိုးကောင်းသားများကို သင့်ရာစာပြန်ပွဲ အစည်းအဝေး, ပဝါရဏာပွဲ အစည်းအဝေးစသည်တို့၌ ဝိနည်းမိုရ်မမှုကထိက နာယကအကြီးအကဲတင်မြှောက်ပြီးလျှင် ထိုဆရာတော်များကို ငါတို့ကိုးကွယ်ရာပေတည်းဟု ကျေးဇူးတတင် ဂိုဏ်းဝင်သံဃာတို့က ထိုဆရာတော်တို့ ပြောဆိုဆုံးမ ဩဝါဒပေးရာ မငြင်းမဆန် လိုက်နာခံ၍ ကျင့်ကြံအားထုတ်ရခြင်း။

(၂၈) ဘုန်းကြီးပြန် ရုပ်သေးပွဲ၌ ခဲပစ်သူရဟန်းနှစ်ပါးကိုပုလိပ်သားတို့ ခဲနှင့်တကွဖမ်းမိ၍ကြိမ်ဒဏ်ချက်ရေ ၂၀-စီ အစိုးရတို့က တပ်ရိုက်ကြောင်း, ပွဲကြည့်သောရဟန်းများကို ပုလိပ်သားတို့ရိုက်နှက်၍ ရဟန်းနှစ်ကျိပ်ငါးပါးလောက် ထိပ်ပေါက်ခေါင်းကွဲရှိကြောင်းများကို ကြားသိရသည့်အတိုင်း သာသနာတော် ညှိုးလျော်နွမ်းပါးလှသည်ကို ဝမ်းနည်းဘွယ်ကောင်းလှသည်ဖြစ်၍ ဘုန်းကြီးပြန်, မယ်တော်ပြန်, ဘတော်ပြန် မသာအသုဘများ၏ ရုပ်သေး, ဇာတ်, သဘင်, အငြိမ့်ပွဲလမ်းများဖြင့် စည်ကားခြင်းကို အလိုရှိ၍ သင်္ဂြိုဟ်ချပို့ရန် ပိုက်ဆံ စရိတ်ကြေးငွေများကို အောက်ကျေညာလယ် ရွာဘေ့တောင်းရမ်း၍ အခမ်းအနားအကြီးအကျယ် မပြုမလုပ်ဘဲ သီလဂုဏ်, သမာဓိဂုဏ်, ပညာဂုဏ်နှင့် ပြည့်စုံသော ကျေးဇူးရှင်ဖြစ်၍ ပူဇော်လိုလျှင် သေသည့်အခါပူဇော်မည့်အတွက် အသက်တော်ရှင်စဉ် ဆရာမိဘတို့ကို ပူဇော်ချီးမြှောက်ရခြင်းသည် လွန်မင်းစွာ အကျိုးရှိ၏ဟု နှလုံးထား၍ သေလွန်မှ ပူဇော်ချီးမြှောက်လိုလျှင်လည်း မိမိတို့ဆရာ၏အရိုးဓာတ်ရုပ်ပုံကို စာချ၍နေပုံ, တရားဟော၍နေပုံ, ရဟန်းတရားကို အားထုတ်၍နေပုံစသည်ဖြင့် မိမိကြည်ညိုရာရုပ်ပုံကို ပြည့်စုံသပ္ပါယ်စွာထုလုပ်၍ အုတ်တိုက် ကျောက်ဂူတို့မှာ တင်သွင်းတည်ထား ပိဋကတ်သုံးပုံများကို ရေးသားပြုစု၍ ဆရာ့ကိုယ်စား တရားဟောပြ စာပေများပို့ချနိုင်လျှင် ဟောပြောပို့ချ၊ မစွမ်းနိုင်၍သော်၎င်း, လူဖြစ်၍သော်၎င်း မပြောမဟောမပို့ချနိုင်လျှင် ပြောဟောပို့ချနိုင်မည့် ပညာရှိကိုတင်ထား ဆရာ့ကိုယ်စား ပူဇော်ချီးမြှောက်ရလျှင် မြတ်စွာဘုရားသာသနာတော်သည် ဆရာရှိစဉ်ကဲ့သို့ပင် အစဉ်အဆက် တိုးတက်စည်ပင်ပေလိမ့်မည်ဟု အရှည်ကိုမြင်တတ်သော ပညာဉာဏ်ဖြင့် အဖန်ဖန်စဉ်းစားကြ၍ ဘုန်းကြီးပြန်, မသာအသုဘ သံဝေဂအခန်းတို့၌ ပရမ်းပတာ ရယ်စရာရုပ်ကောင်းကျွမ်းထောင်တွန်းလိုမ့် တလိမ့်ခေါက်ကွေး ရုပ်သေးဇာတ်သဘင် မစီရင် မကျင်းပ မကစားကြမူ၍—

"အဗျာဝဋာ တုမှေ အာနန္ဒ ဟောထ တထာဂတဿ သရီရပူဇာယ"—

ဟူသော ဘုရားအမိန့်တော်အတိုင်း မြတ်စွာဘုရားကို သင်္ဂြိုဟ်သောနည်း, သီဟိုဠ်ကျွန်း၌ ရဟန်းတော်များကို သင်္ဂြိုဟ်သည့်နည်းများအတိုင်း အဝေးရပ်နေ တပည့်သားမြေးများ ရောက်လာနိုင်လောက်

ရုံ ခုနစ်ရက်, အလွန်ဆယ့်ငါးရက်မျှထား၍ ဒါယကာတို့တတ်စွမ်းနိုင်သမျှ အဖျင်းဆုံး ခေါင်းတလုံး, ခေါင်းတင်ရန်ကုတင် ညောင်စောင်းတချပ်, လောင်တိုက်၌ လေးတိုင်စိုက် ခြောက်တိုင်စိုက် အလောင်းစင်, တအိမ်လျှင် သနပ်ခါးနံ့သာ ထင်းတချောင်းစီ၊ ဤမျှလောက်သော အဆောက်အဦတို့ဖြင့် လူအများ ထမ်းပိုးလက်ပွေ့လျက်, လှည်းရထားနှင့်သော်လည်း တင်လျက် ငြိမ်သက်ဆေးလေးစွာ ညှိုးငယ်သံဝေဂ ရသော မျက်နှာနှင့် လုပ်တိုင်းသို့ ယူဆောင်ကာ နံ့သာထင်းပုံထက်သို့ တင်ပြီးလျှင် မီးတင် ဖုတ်ကြည်း သင်္ဂြိုဟ်ရလျှင် အားရရောင့်ရဲနိုင်ရခြင်း။

( ၂၉ ) ပြဆိုပြီးခဲ့သော ဥပဒေအချက်များနှင့် မညီမညွတ် ယွင်းချွတ်ဘောက်ပြန်သောပုဂ္ဂိုလ် တစုံတယောက် ပေါ်ပေါက်လာခဲ့လျှင်—

"ယေ ပဿန္တိ ယေ သုဏန္တိ၊ တေဟိ ဝတ္တဗ္ဗာ"—

ပါဠိတော်နှင့် ညီစွာ မြင်သူ, ကြားသူပုဂ္ဂိုလ်တို့က မေတ္တာ, ကရုဏာကို ရှေ့ထားလျက် ကာလ, ဘူတ, သဏှ, အတ္ထသဥှိတ, မေတ္တာစကား ဤအင်္ဂါငါးပါးနှင့်ပြည့်စုံစွာ ပြောဆိုဆုံးမရခြင်း၊ ပြောဆို ဆုံးမ၍မရလျှင် အထက်ဝိနည်းမိုရ်နာယက မထေရ်ကြီးများထံ လျှောက်ထား၊ မထေရ်ကြီးများက အဓိကရုဏ်း မကျယ်မပွါး ပိပြားသေဝပ်အောင် နှိပ်ကွပ်ဆုံးမရခြင်း။

( ၃၀ ) ဆုံးမခံရသော ပုဂ္ဂိုလ်ကလည်း အထက်သံဃာ့ဦးစီး နာယကမထေရ်ကြီးမှစ၍ သီတင်း သုံးဘော်များ အကျိုးလိုလား တရားရေအေး တိုက်ကျွေးဖျောင်းဖျ၍သော်၎င်း, မည်တွန်ဒဏ်ပေး၍ သော်၎င်း ဆုံးမသော်လည်း မျက်မာန်စိတ်ဆိုး နှုတ်မလှုံမထိုးပဲ ငါ၏အကျိုးဖြစ်ပွါး သာသနာတော် စည်ပင်ထွန်းကားအောင် ဟောကြားဆုံးမ နှိပ်ကွပ်တော်မူကြပေသည်ဟု ဝမ်းမြောက်ဝမ်းသာ လိုက်နာ ခံ၍ နောင်အဘန်ဘန် ဆုံးမဩဝါဒပေးလှယ်ကြောင်း ကောင်းမွန်ရှိသေစွာ ကြည်သာအေးမြ လျှောက် ထား၍ ရဟန်းတရားကို အားထုတ်နေထိုင်ရခြင်း—

ဤသုံးဆယ်မျှလောက်သော ဩဝါဒစကား ဥပဒေအချက်များကို ရွှေကျင်ဂိုဏ်းသံဃာ၏ နာယက ဦးစီး အကြီးအမှူး ဖြစ်တော်မူသော မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီး ပိုင်းခြား ဆုံးဖြတ် တည် ထား အပ်သတည်း။

ဤဆိုခဲ့ပြီးအပ် အရပ်ရပ်သော ဩဝါဒကထာ ဥပဒေစာနှင့် ညီညွတ်စွာ ကျင့်ကြံအားထုတ် ကြ၍ သိက္ခာသာဇီဝ တူမျှသော ရဟန်းသံဃာတော်တို့ ချင်းချင်းဖြစ်က ဝိဝါဒဖြစ်ပွါး ကွဲပြားခြင်း မဖြစ်နိုင်ရာ၊ ဥပဒေနှင့်မညီပြုလုပ် သိက္ခာပုဒ်တော်ကို နင်းကျော်ဖျက်ဆီး၍ လှည်းစီး, နွားမွေး, အတိုး ပေး, ပရိက္ခရာလဲ, နေလွဲကွမ်းစား, ဆေးဝါးဆေးသောက်, အင်္ဂါမမြောက်ပဲ ကျောင်းနေ, ရွှေငွေလုပ် အဂ္ဂိရတ်ထိုး အလဇ္ဇီဒုဿီလအမှုမျိုးကို လိုက်စား၊ ပစ္စည်းလေးပါး လှူဒါန်းရှာကြသော ဒါယကာများကို အားမနာ၊ ရဟန်းသံဃာချင်းကိုလည်း မရှက်၊ အထက်က သာသနာပြု မင်းချီးမြှောက်သော ဂိုဏ်းအုပ် ဂိုဏ်းထောက် အာဏာလည်းကင်းဝေး၊ လာလတ္တံ့သော အပါယ်ဘေးကိုလည်း မကြောက်၊ စိတ်ရောက် ရာ ကိုယ်ပါ၊ပြုလိုရာပြုကျင့်ကြ၍ သိက္ခာသာဇီဝမတူမျှသော အဓမ္မဝါဒီ အလဇ္ဇီဒုဿီလပုဂ္ဂိုလ်များအတွက်

ရဟန်းသံဃာ ဆရာချင်းချင်း မယောမရှက်သောကြောင့် တကာချင်းချင်းလည်း ကွဲအက်တတ်သည်၊ အချင်းချင်းခိုက်ရန်ပွါး၍ အပါယ်လားဘို့ရာသာဖြစ်၍ နေတတ်သည်၊ ထို့ကြောင့် ခိုက်ရန်မပွါး အပါယ် မလားရအောင် အလဇ္ဇီဒုဿီလပုဂ္ဂိုလ်တို့နှင့် ပစ္စယသမ္ဘောဂ, ဓမ္မသမ္ဘောဂ မယောရှက်သော်လည်း မေတ္တာမပျက် အပ်စပ်သည့်အချက်များ၌ ရန်မျက်မထား စကားနီးနှော ပြောဟောပေါင်းသင်း၍ နေ ထိုင်ကြကုန်ရာသည်။

လဇ္ဇီ သူတော်ကောင်း, လဇ္ဇီသူယုတ်မာ, အလဇ္ဇီသူတော်ကောင်း, အလဇ္ဇီသူယုတ်မာဟု ပုဂ္ဂိုလ် လေးမျိုးရှိသည်အနက် ဣဿာ, မစ္ဆေရ, မယာ, သာဌေယျ, ပါပိစ္ဆာ, မဟိစ္ဆာ, ပကာသန, ဒေါသ, မာန ခက်ထန်လှသော လဇ္ဇီသူယုတ်မာဘက်ကဖြစ်စေ, ထိုကဲ့သို့ သဘောရှိသော အလဇ္ဇီသူယုတ်မာ ဘက်ကဖြစ်စေ, နှစ်ဘက်စုံက ဖြစ်စေ မေတ္တာမသက် တရားပျက်၍ ရဟန်းချင်းချင်း မညီမညွတ် မစပ် မရှက် ကွဲအက်ထိပါး ခိုက်ရန်ဖြစ်ပွါး၍ တရားမဲ့နေခဲ့ကြမှုကား မိမိ၏အကျိုးစီးပွါး, လောက၏ အကျိုး စီးပွါး, သာသနာတော်မြတ်၏ အကျိုးစီးပွါးတို့ကို လိုလားတောင့်တကုန်သော ပစ္စယဒါယကာဖြစ်သူ လူတို့သည် ဤဆိုလတ္တံ့သော နည်းတို့ဖြင့် ငရဲမများ ကုသိုလ်ပွါးအောင် နှလုံးထားကြရမည်၊ အားထုတ် ကျင့်ကြံကြရမည်။

ရွှေကျင်ဂိုဏ်း ဥပဒေ ပြီး၏။

ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက် ပဲခူးစာပြန် အနှစ် (၁၀၀) ပြည့် ဝိနည်းပိဋကတ် ထွင့်အမြတ်
ပူဇော်ပွဲကြီး၌ တိုင်းအသီးသီး ခရိုင်အသီးသီးမှ ဂဏပါကဋ ဂဏနာယကဆရာတော်
သံဃာတော် အပါး (၁၀၀၀) တို့သည် အတိအကျလိုက်နာကြရန်
အညီအညွတ် သတ်မှတ်ဆုံးဖြတ်အပ်သော—

# ဓမ္မဝိနယခေတမ်း

ဇာတိ, ဇရာ, ဗျာဓိ, မရဏ, သောက, ပရိဒေဝ, ဒုက္ခ, ဒေါမနဿ, ဥပါယာသ အစရှိသော တဆဲ့တပါး သော မီးတို့ဖြင့် တညီးညီး တပြောင်ပြောင် အမြဲလောင် အပ်သည် ဖြစ်၍ မျက်စိတမှိတ် လျှပ်တပျက်မျှ သက်သာ ရာမရ သံသာရဝဋ္ဋဒုက္ခတို့ဖြင့် မပြတ်နှိပ်စက်အပ်သည်ကို မပြတ် အောက်မေ့လေ့, ဆင်ခြင်လေ့, ကြောက်ရွံ့လေ့ ရှိကုန်သော ပုဂ္ဂိုလ်အရှင်မြတ်တို့သည် ဤယခုဆိုလတ္တံ့ သော သမ္မာပဋိပတ်အကျင့် ဝတ်အတိုင်း ဝမ်းမြောက် ဝမ်းသာ သဒ္ဓါကြည်လင် ရွှင်လန်းသောစိတ်ဖြင့် ကြိုးပမ်း အားထုတ်တော်မူနိုင်ကြစေကုန်သတည်း။

---

## ၁-ရှေးကျင့်တိုက် သံဃာတို့ကို ဆုံးမသော နိဿယဝေါဒ

သိတင်းသုံးနေအံ့သော၌ ဆိုက်ရောက်လာသော အာဂန္တုကပုဂ္ဂိုလ်တို့ သုံးရက်, သုံးကြိမ်တိုင် တိုင် လျှောက်ထားလာမှ ဆရာမထေရ်ကြီးက ပုဂ္ဂိုလ်အင်ကိုထောက်ထား၍ သနားခွင့်ပြုလိုလျှင် ခွင့် ပြုခြင်း။ ခွင့်ပြုသောအခါ၌လည်း အလုံးစုံခွင့်မပြုလိုက်ပဲ ဤတိုက်တာတွင် သံဃာထေရ်ပုဂ္ဂိုလ်ကြီးတို့ထံ လျှောက်ထားဦးတော့၊ ဤမျှသာခွင့်ပြုခြင်း။ ၎င်းပုဂ္ဂိုလ်ကြီးများထံ ကျိုးနွံစွာလျှောက်ထား၍ ခွင့်ရ လျှင် ပုဂ္ဂိုလ်ကြီးတို့ထံမှ အခွင့်ရပါကြောင်းကို အထက်ဆရာကြီးထံ ပြန်လျှောက်ထားရခြင်း။ဦးပဉ္စင်းကြီး ပုဂ္ဂိုလ်တို့ထံမှ အခွင့်ရလျှင် အာမခံဆရာရှာတော့ဟု အထက်ဆရာကြီးက ခွင့်ပေးရခြင်း။ အာမခံဆရာ ရခဲ့သော် ၎င်းအာမခံ ဆရာနှင့်တကွ ဆရာကြီးထံရောက်၍ ၎င်းအာမခံဆရာက ဤပုဂ္ဂိုလ်၌ ဆိုဆုံးမရန် ရှိသမျှကို ဘုရားတပည့်တော်က ဆုံးမပါမည်၊ ဤပုဂ္ဂိုလ် တစုံတရာဘောက်ပြန်တိမ်းယိမ်းရှိလျှင် ဘုရား တပည့်တော်အား ထိုက်ရာဒဏ် သနားတော်မူပါဟု လျှောက်ထားဝန်ခံရခြင်း။ ထိုအခါ မထေရ်ကြီးက အာမခံတတ်, အာမခံအပ်နှစ်ရပ်သောပုဂ္ဂိုလ်တို့ နှလုံးသွင်းရန်, သတိထားရန်, ပြုကျင့်ရန်များကို ဟော ပြောပြသ ဆုံးမရခြင်း။ ၎င်းနောက် အာမခံနှင့်တကွ တိုက်တွင်းရှိ မိမိထက်ကြီးသမျှ ပုဂ္ဂိုလ်တို့ထံ တပါး စီ စေ့အောင် နေရာကျောင်းသို့လိုက်၍ တပည့်တော်အား သနားသဖြင့် ဆိုဆုံးမတော်မူပါ၊ ဆုံးမ တော်မူသမျှကို မသွေမလှန် လိုက်နာခံပါမည်ဘုရားဟူ၍ လျှောက်ထားရခြင်း။ ၎င်းနောက် သံဃာ

ကြီးငယ်တို့ တကၠဝတ်တက်ရာ သံဃာ့အစည်းအဝေးတွင် အစုံအညီ ရှေးနည်းအတိုင်း မိမိအား သံဃာတော်များ မရှုံမခကြာက် ဆိုဆုံးမဝံ့အောင် ကျိုးနွံစွာ ဘိတ်ကြား လျှောက်ထားရခြင်း။ ၎င်းသံဃာတော်အလယ်တွင် အခမ္မိယ ပစ္စည်းရှိခဲ့လျှင် ကုန်စင်အောင် စွန့်ပစ်ပြီး၍ ဘုရားတပည့်တော်၌ အကပ္ပိယ အခမ္မိယ ပစ္စည်းအသုံးအဆောင် တစုံတခုမရှိ၊ စင်ကြယ်ပါကြောင်းကို ဘုရားရှင် မျက်မှောက်တော်ဝယ် သံဃာတော်တို့အလယ် လျှောက်ထားရခြင်း။ သူတပါးထံမှ ရအပ်သော အကပ္ပိယကုလဒူသန စသည်ဖြင့်ဖြစ်သော လဇ္ဇီပုဂ္ဂိုလ်အမျှား သံသယမကင်းစအပ်သော ဆွမ်း, သင်္ကန်း ပစ္စည်းတို့ကိုလည်း သိလျက်, သံသယမကင်းပဲလျက် မသုံးဆောင်ပါ၊ ဘုရားတပည့်တော်လည်း ကုလဒူသနအမှု၊ အကြောင်းမဲ့ နေလှဲ့ကွမ်းစား,ဆေးဝါးဆေးသောက်,ထီးဆောင်း, ဘိနပ်စီးစသော အလဇ္ဇီမှုတို့ကို မလွန်ကျူးမိအောင် အထူးသတိပြု၍ ရှောင်ကြဉ်ပါမည်၊ ပုထုဇဉ်ဂတိအလျှောက် ရှန့်ကြမ်းသော အာပတ်ကြီးတို့၌ သတိမှောက်မှားရှိလျှင် နွံနာအောင် ဒဏ်ထမ်း၍ အာယတိ သံဝရဖြင့် ကောင်းမွန်စွာ စောင့်ရှောက်ပါမည်ဘုရားဟု လျှောက်ထားဝန်ခံရခြင်း။ ထိုအခါ သံဃာကြီးပုဂ္ဂိုလ်တို့က ဤ ယခုလျှောက်ထား ဘိတ်ကြားသောပုဂ္ဂိုလ်တို့၏ ဤတိုက်တာ၌ သီတင်းသုံးနေခြင်းကို သဘောမတူသောပုဂ္ဂိုလ်ရှိလျှင်, မဆုံးမဝံ့ကြသောပုဂ္ဂိုလ်ရှိလျှင် မိန့်တော်မူကြ၊ သဘောတူလျှင် ဆိတ်ဆိတ်နေကြဟု ဘိတ်ကြားရခြင်း။ ထို့နောက် သံဃာသဘောတူကြသည့်အခါ ဆရာကြီးထံ ဒွေမာတိကာတို့ကို ပြန်ဆိုရခြင်း။ ဒွေမာတိကာ ပြန်ဆိုပြီးသည့်အဆုံး၌ အာမခံနှင့်တကွလာ၍ ဆရာမထေရ်ကြီးထံ နိသျည်းယူရခြင်း။ အာမခံပုဂ္ဂိုလ်က နိသျည်းဆရာတို့ ပြုကျင့်အပ်သောဝန်ကို ဘုရားတပည့်တော်က ကြောင့်ကြပြု၍ ကြည့်ရှုပြုစုပါမည် ဝန်ခံရခြင်း။ နိသျည်းဆရာ၌ပြုရသော မျက်သစ်ရေ, ဒန်ပူပေးခြင်းစသော ဝတ်နိဗဒ်တို့ကို ငါ့ရှင် အလိုရှိသမျှနေတော့၊ ငါ၌ပြုရသော ဝတ်နိဗဒ်တို့ကို ငါခွင့်လွှတ်ပါ၏ဟူ၍ ခွင့်ပြုပြီးလျှင် သင့်ရာကျောင်း၌ ကျောင်းနေပုဂ္ဂိုလ်ကြီးထံ အပ်နှံ၍ ထားရခြင်း။ ၎င်းနောက် ဉာဏ်နုလှ စာပေအားနည်းလှသော့သူကို ချန်ထား၍ ညရွတ်သုတ်ကို အနက်ထင်အောင် လေ့လာ၍ ပါဠိကို နှုတ်ငုံမရမချင်း တပါးစာကို မတက်စေရ၊ ညရွတ်သုတ်စုကိုရမှ တပါးစာကို တက်စေရခြင်း စသည်တည်း။ ဤကား ဤတိုက်အတွင်း သီတင်းသုံးနေလိုသော ပုဂ္ဂိုလ်တို့ပြုရသော ပုဗ္ဗပယောဂ အကျင့်ပဋိပတ် ဥပဒေ နည်းတည်း။

---

## ၂-အာမခံပုဂ္ဂိုလ် ကျင့်ရာသောဥပဒေ

မိမိအာမခံအပ်သောပုဂ္ဂိုလ်၌ အဝတ်အရုံတို့ကို နေရာကျနအောင် ကြောင့်ကြတခု ကြည့်ရှုပြုပြင်သွန်သင်ပြရခြင်း။ ဆွမ်းစားကျောင်း ဘုရားဝတ်တက်ရာကျောင်း, စာအံ သရဇ္ဈာယ်ရာသိမ် တန်ဆောင်း, ဥပုသ်ပြုရာသိမ်တန်ဆောင်း အရပ်တို့၌၎င်း၊ နဝကမ္မ ပြုလုပ်ကြသည့်အခါ၌၎င်း ကျင့်ရာသောနည်း၊ ဆရာသမား သီတင်းသုံးဘော်တို့၌ ကျင့်ရာသော နည်း စသည်တို့၌ ဆရာမထေရ်ကြီး ဆုံးမ၍ထားအပ်သည့်အတိုင်း နေရာကျနအောင် မိမိအာမခံအပ်သော ပုဂ္ဂိုလ်တို့အား ကြောင့်ကြတခု အာရုံပြု၍ သွန်သင်ဆုံးမရခြင်း။ မိမိအာမခံအပ်သောပုဂ္ဂိုလ် တစုံတခုပြောပလောက်အောင် ဘောက်ပြန်၍ ဒဏ်ထမ်းရလျှင် အမှုအင်ကိုကြည့်၍ အာမခံတတ်သောပုဂ္ဂိုလ်လည်း ၎င်းပုဂ္ဂိုလ်၏ ထက်ဝက်ဒဏ်ကို ထမ်းရခြင်း။ မိမိ အာမခံအပ်သောပုဂ္ဂိုလ် အရပ်တပါးထွက်ပြေးလျှင် အထက်ဆရာကြီးထံ လျှောက်၍

ဒဏ်အခေါက်နှစ်ဆယ် ထမ်းရခြင်း။ မိမိအာမခံအပ်သောပုဂ္ဂိုလ်အား ဒဏ္ဍစသဘောထင်၍ မဆုံးမနိုင်လျှင် မထေရ်ကြီးတို့ထံ ပန်၍ အာမခံကို ပြန်နုတ်ရခြင်းစသည်တည်း။ ။ဤကား အာမခံတတ်သော ပုဂ္ဂိုလ် ကျင့်ရာသော ဥပဒေနည်းတည်း။

---

### ၃ အာမခံအပ်သည့်ပုဂ္ဂိုလ် ကျင့်ရာသော ဥပဒေ

အာမခံဆရာ ဆုံးမသမျှကို တရားနှင့်ညီသော, မညီသော၊ သို့လော, သို့လား ဆင်ခြေမတက် သက်သက်ကျိုးနွံစွာ နာခံရခြင်း၊ ၎င်းအာမခံဆရာသာ ငါ့မှာ စင်စစ် ကိုးကွယ်ရာဖြစ်တော့သည်၊ ငါ့အား သူမဆိုမဆုံးမဝံ့၍ အာမခံကို ပြန်နုတ်ခဲ့သော် တစုံတယောက် အာမခံဆရာမရနိုင်ရာသည်ဖြစ်၍ ငါသွား ရတော့မည် ကေန်ဖြစ်တော့သည်ဟု နှလုံးထား၍ အာမခံဆရာ၌ လွန်စွာရိုသေကျိုးနွံ တုပ်ဝပ်ရခြင်း၊ ကျေးဇူးတဘင် ချစ်ခင်မေတ္တာဖြင့် ရှိသေစွာ ဝတ်ကြီးဝတ်ငယ်ပြုရခြင်း၊ အာမခံဆရာထံ ရံခါရံခါ သွား လာ၍ တရားဆုံးမခံရခြင်း စသည်တည်း။ ။ဤကား အာမခံအပ်သော ပုဂ္ဂိုလ်ကျင့်ရာသောဥပဒေနည်း တည်း။

၎င်းဝတ်နှင့်မညီ အမှတ်မဲ့ပြုခဲ့လျှင် တိုက်အုပ်, တိုက်ကြပ်, မထေရ်ကြီးတို့က အာမခံဆရာ နှင့်တကွ ဒဏ်ပေးရခြင်း၊ မထေရ်ကြီးတို့ပါ အမှတ်မဲ့နေခဲ့သော် ၎င်းအာမခံတတ်, အာမခံအပ် နှစ်ရပ် သော ပုဂ္ဂိုလ်တို့နှင့်တကွ တိုက်အုပ် မထေရ်တို့ပါ အထက်ဆရာကြီးက ဒဏ်နွံနာအောင် ပေးခြင်းကို ပြုကြစတမ်း။ ။ဤကား အာမခံအပ်သောပုဂ္ဂိုလ်ဘောက်ပြန်ရာ၌ ကျင့်ရာသော ဥပဒေနည်းတည်း။

---

### ၄ အဝတ်အရုံ၌ ကျင့်ရာသော ဥပဒေ

သင်းပိုင်ကို အလွန်ရှည်စွာ တွဲလျားချ၍ ဝတ်ခြင်း, အလွန်တိုစွာဝတ်ခြင်း, ဆင်နှာမောင်းကဲ့သို့ ရှေ့အစွန်းရှည်ခြင်း, ထန်းရွက်ယပ်ဝန်းကဲ့သို့ ရှေ့အစွန်းတိုခြင်း, ငါးမြီးကဲ့သို့ အစထွက်ခြင်း, အထက် အစကို အတွင်းသို့လိပ်၍ သင်းသဖြင့် လူတို့ကဲ့သို့ ခါးပုံထိုး၍ဝတ်ခြင်း, ချက်ကိုဘော်၍ဝတ်ခြင်း, ပုဆိုး ဝတ်သကဲ့သို့ အစကိုချည်လိမ်၍ ဝတ်ခြင်းစသော ဘောက်ပြန်သော ဝတ်ခြင်းမရှိစေရ၊ မတိုလွန်းမရှည် လွန်း သားလုံးဖုံးအဆုံးကို ဖုံးမိရုံမျှပြုလျက် တိမဏ္ဍလ ဝတ်နည်းကျအောင် အရှိအသေကောင်းမွန်စွာ အခါခပ်သိမ်းဝတ်ခြင်း၊ ကိုယ်ရုံနေ့ကိုင် သင်္ကန်းကို သင်းပိုင်ထက် မရှည်လွန်းစေရ, တဘက်နိမ့်မြင့် မရှိ စေရ, ဖိုးရိုဖွားရား ဖရိုဖရဲ မရှိစေပဲ ရှေ့အစွန်း, နောက်အစွန်း နှစ်ဖက်ကို ဖုံးလွှမ်း၍ ညီညွတ်စွာ အခါ ခပ်သိမ်း သတိထား၍ရုံခြင်း၊ ဘုရားရှိခိုးပူဇော်ရာတို့၌ လကျာလက်ရုံးကို ဖုံးလွှမ်းခြင်း, လက်ဝဲလက်ရုံး ကို ဘော်ခြင်းစသော ဒုပ္ပါရုပနတို့ကို မဖြစ်စေရ အခြားနေ့ရာတို့ထက် သတိပြု၍ ဝတ်ရုံခြင်း၊ စာတက် သွားရာ, ဆွမ်းစားကျောင်းသို့ သွားရာစသည်တို့၌ သွားတိုင်း, သွားတိုင်း သင်းပိုင်, ကိုယ်ဝတ်ကို ပြင် ဆင်၍ အရှိအသေ ကောင်းမွန်စွာ ဝတ်ရုံခြင်း၊ ရေချိုးရာတို့၌ ကိုယ်ရုံနှင့်တကွ မချိုးနိုင်လျှင် ထိုမှဤမှ မသွားမလာ နေရာမြဲတိုင်း၌သာ ထိုင်၍ချိုးရခြင်း၊ နဝကမ္မအမှု စသည်ပင်ရှိသော်လည်း ကိုယ်ရုံကိုမချ ထားပဲ အမြဲရန်း၍ ရုံ၍နေခြင်း၊ ပူအိုက်သည့်အခါ သင်္ကန်းအစွန်းနှစ်ဘက်ကို ပခုံးနှစ်ဘက် လက်ဝဲ

လက်ျာ သိုင်းတင်ခြင်း, လည်ပင်းရောက်ခြင်း, ခါးပန်း၍ဝတ်ခြင်း, ရောဂါအန္တရာယ်မရှိပဲ နေပူမိုးသဲးစွတ် မရှိပဲ တိုက်တာအတွင်း ထိုမှ ဤမှ သက်န်းကို ဦးခေါင်းခြုံ၍သွားခြင်း စသော သမဏသာရုပ္ပမရှိသော ဝတ်ရုံခြင်းတို့ကို မဖြစ်စေရ၊ ကောင်းမွန်စွာ အခါခပ်သိမ်း သတိထား၍ ဝတ်ရုံခြင်းစသည်တည်း။ ။ ဤကား ဝတ်ရုံခြင်းတို့၌ ပြုကျင့်ရသော ဥပဒေနည်းတည်း။

---

## ၅-ဆွမ်းစားကျောင်း၌ ပြုကျင့်ရာသော ဥပဒေ

ဆွမ်းတော်တင် ကရဒက်ခေါက်သည့်အခါ သင်းပိုင်, ကိုယ်ဝတ်တို့ကို ညီညွတ်စွာ ပြင်ဆင်လျက် ဆွမ်းတော်တင်ရာ ဘုရားကျောင်းသို့ မနှေးမလျင် ကောင်းမွန်စွာသွား၍ ဘုရားရှိခိုး ဝတ်တက်ရခြင်း၊ ဆွမ်းတော်ပွဲအုပ်ရောက်လာသည့်အခါ ဆွမ်းတော်, ပန်းတော်, ရေချမ်းတော် ကပ်လှူပြီးသည့်နောက် ဆွမ်းစားကရဒက် ခေါက်သည့်အခါမှ ဘုရားကျောင်းက ဆင်း၍ ဆွမ်းစားကျောင်းသို့ တက်ခြင်း၊ ဆွမ်းစားကျောင်းသို့ တက်သည့်အခါ မထေရ်ကြီးတို့ရှေ့ အရှိအသေ ကုန်းကိုင်းညွတ်တွားလျက် သီတင်းကြီးတို့ကို မတိုးမဝှေ့ မနှေးမလျင် ကောင်းမွန်ရိုသေစွာဝင်သွား၍ မိမိနေမြဲတိုင်းနေရာ၌ ထက်ဝယ်ဘွဲ့ခွေ ထိုင်နေ၍ ဆွမ်းစားခြင်း၊ ဆောင့်ကြောင့်ထိုင်၍ မစားရခြင်း၊ စားတော်စားဘက် သံဃာများစွာစုံညီမှ စားရခြင်း၊ ဆွမ်းလုပ်ကို မငယ်လွန်း, မကြီးလွန်း အဝန်းညီအောင် အလွန်အားထုတ် ပြုပြင်၍ စားရခြင်း၊ ထိုမှ ဤမှ များစွာမကြည့်၊ သူတပါးမျက်နှာကိုလည်း မေ၍မကြည့်၊ သပိတ်ဆွမ်းလုပ်တို့ကိုသာ ကြည့်၍ သေခိယ သိက္ခာပုဒ်တော်, ပဋိကူလသညာကမ္မဋ္ဌာန်းတို့ကို နှလုံးထား၍စားခြင်း၊ ဇွန်းရှိလျက် ဟင်းရည်ခွက်ကို လက်နှင့်နှိုက်၍ မစားရခြင်း၊ ဟင်းရည် ဟင်းဖတ် မများလွန်းစေရ အတိုင်းအရှည်နှင့် ယှဉ်၍ စားရခြင်း၊ ဆွမ်းစားပြီးသည့်အခါ ကျယ်လောင်စွာ လုပ်ဆေခြင်း, ချဲ့ဟက်ခြင်း, ဆွမ်းစားပွဲ အနီး ဒန်ပူစားခြင်း, သွားကြားထိုးခြင်း, ဖုတ်သလဲမှုန်မှုန်ခါတွက်ခြင်းစသော မကြည်ညိုဘွယ်ကို မပြုမိ စေခြင်း၊ မိမိအား ထိုက်လျောက်သော စားခွက်, သောက်ခွက်တို့ကို ဆေးလျှော်သိမ်းဆည်းပြီးလျှင် ဆွမ်းစားကျောင်းပေါ်၌ အရှည်အကြာမနေ မိမိနေရာသို့ ဆင်းသွားခြင်း၊ တနေရာမှထ၍ တနေရာ၌ မစားသောက်ရခြင်း၊ သစ်သီးခဲဘွယ် ဝေဘန်သော ဖလဘာဇက, ခဇ္ဇဘာဇကပုဂ္ဂိုလ်တို့၌ တစုံတခွန်းမျှ ကဲ့ရဲ့ပြစ်တင်မပြုခြင်း၊ ဆွမ်းလိုက်ပါလေဘ့, ဟင်းလိုက်ပါလေဘ့ စသည်ဖြင့် များစွာမတောင်းမရမ်း မခေါ်မအော်ခြင်း၊ အကြောင်းထူး ဝိသေသမရှိလျှင် ဆွမ်းစားကျောင်းသို့ တက်သည့်အခါမှစ၍ ဆွမ်းစားကျောင်းမှ ဆင်း၍ သွားသည်တိုင်အောင် တစုံတခွန်းမျှ စကားပြောဆိုမရှိရခြင်း၊ ဆွမ်းစား ကျောင်းအုပ် ပုဂ္ဂိုလ်ကြီးတို့ပင်သော်လည်း အာဂန္တုကိစ္စ, ပြောပလောက်သော ဂိလာနကိစ္စ, ပြောပလောက်သော သံဃကိစ္စ, တနေကုန် တညဉ့်ကုန် သွားရမည့်ကိစ္စကို ချန်ထား၍ တပါးသောကိစ္စဖြင့် ကရဒက်မခေါက်မီ ဆွမ်းချက်တဲမှ ဆွမ်းကို မယူဆောင်စေရခြင်း၊ မိမိတို့သပိတ်ဖြင့် ပတ္တပိုဏ်စားသူကို ချန်ထား၍ ပြောပလောက်အောင် အသည်းအသန် မနာမဖျား အနည်းငယ်သောအကြောင်းများနှင့် ဆွမ်းစားကျောင်းမှ ဆွမ်းကိုယူဆောင်စေ၍ အခြားနေရာ၌ တခွဲတခြားမစားရခြင်း၊ ဤသို့စသော သံဃ ဝိဝါဒကင်း၍ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာနေရကြောင်း ကောင်းမြတ်သော အမှုအကျင့်တို့ကို ပြုကျင့် ခြင်းစသည်တည်း။ ။ဤကား ဆွမ်းစားကျောင်း၌ ကျင့်ရသော ဥပဒေနည်းတည်း။

### ၆-ဘုရားဝတ်တက်ရာကျောင်း၌ ကျင့်ရသော ဥပဒေ

ဘုရားဝတ်တက်ကရဒက်ခေါက်လျှင် မကြာလွန်းစေရ၊ ပြောပလောက်သော သံဃကိစ္စ ဆရာကြီးကိစ္စမှတပါး မိမိကိစ္စဖြင့် ကိစ္စကြီးငယ်ရှိသေးသည်ဟု အမြွက်မပြုပဲ ဆောလျင်စွာ ဘုရားကျောင်းသို့သွားရခြင်း၊ သင်းပိုင်, ကိုယ်ဝတ်တို့ကို ရှေးအခြားနေရာထက်မက သတိထား၍ အဝန်းသုံးပါး အလွန်ညီညွတ်အောင်ဝတ်လျက် အစွန်းနှစ်ဘက်ကို မပေါ်စေရအောင် ကောင်းမွန်စွာ ဖုံးလွှမ်း၍ တဘက်ရုံ လက်ကန်တော့စမွယ်တင်၍ ငြိမ်သက်သောဣန္ဒြေဖြင့် ကောင်းမွန်ရှိသေစွာ သွားရခြင်း၊ ဘုရားကျောင်းသို့ မရောက်မီအကြား စကားအများပြောဆိုခြင်းမရှိ၊ ဘုရားဂုဏ်တော်စသော ကမ္မဋ္ဌာန်းကို စွမ်းအားရှိသမျှ နှလုံးထား၍ သွားရခြင်း၊ မထေရ်ကြီးတို့ကို တွေ့မြင်လျှင် ဘိနပ်ချွတ်ခြင်း, ရှိသေကိုင်းညွတ် တုပ်ဝပ်ခြင်း, သီတင်းကြီးတို့ကို ရှိခိုး၍ သီတင်းငယ်တို့ကို မတိုးမဝှေ့ မထိမခိုက်စေရ၊ ဘုရားကျောင်း သံဃာ့အစည်းအဝေးသို့ ကောင်းမွန်စွာဝင်လျက် ဘုရားရှင်ကိုမြင်လျှင် မြင်ချင်း လက်အုပ်ချီ၍ ရှိခိုးခြင်း ပူဇော်ခြင်း၊ ရေချမ်းတော်, ပန်းတော် ကပ်လှူပြီး ဘုရားပူဇော်ပြီးနောက် ပါတိမောက်, ညရွတ် နံနက်ရွတ်သုတ်တို့ကို အညီအညွတ်ရွတ်ရခြင်း၊ ၎င်းအခါ ပျင်းမူပျင်းရာမလုပ် အစွမ်းရှိသမျှ အားပါးထုတ်၍ အများနည်းတူ ကြည်ဖြူသဒ္ဓါ ကောင်းမွန်စွာ ရွတ်ခြင်း၊ အနာရောဂါစသော အကြောင်းထူးဝိသေသရှိ၍ ဝတ်တက်ဝတ်ကပ် မလိုက်နိုင်လျှင် သင့်ရာပုဂ္ဂိုလ်အား အကြောင်းနှင့်တကွ မှာထားလိုက်ခြင်း၊ ၎င်းပုဂ္ဂိုလ်က သံဃထေရ်အား လျှောက်ထားခြင်း၊ မိမိအောက်အခြားမဲ့ ဝတ်တက်နေကျ ပုဂ္ဂိုလ်မပါလာလျှင် ၎င်းပုဂ္ဂိုလ်က သံဃထေရ်အား လျှောက်ကြားခြင်း၊ အကြောင်းမဲ့ နေရစ်ခဲ့သော်၎င်း, အကြောင်းထူးရှိသော်လည်း မှာထားခြင်းငှါ အခွင့်ရလောက်လျက် မမှာမထား လျှောက်လျှား နေရစ်ခဲ့သော်၎င်း နှံ့နှာအောင် ဒဏ်ထမ်းရခြင်း၊ ဝတ်တက်ပြီးအဆုံး၌ သံဃထေရ်ကြီးတို့ ခွင့်လွှတ်သည့်အခါမှ ကောင်းမွန်စွာ ဖြည်းညင်းသက်သာနေရာမှထ၍ ဘုရားရှင်ကို နောက်ဆုတ်ရှိခိုးလျက် သံဃာများကို မထိမခိုက်စေရ၊ ကြမ်းနင်းသံ မမြည်မကြားစေရအောင် ရှိသေစွာ ဘုရားကျောင်းက ဆင်းသွားရခြင်း၊ အကြောင်းထူး ဝိသေသ မရှိလျှင် ဘုရားကျောင်းသို့ တက်သည်မှစ၍ ဆင်းခဲ့သည့်တိုင်အောင် တစုံတခွန်းမှ စကားမပြောမဆို တုဏှီဘာဝ ပြန်ခဲ့ခြင်း၊ ဤသို့စသော သံဃာတော်တို့ ကုသိုလ်တရား အထူးဖြစ်ပွါးခြင်း အကြောင်း ကောင်းမြတ်သော အကျင့်ဝတ်ပဋိပတ်တို့ကို ပြုကျင့်ကြရမည်။ ။ဤကား-ဘုရားရှိခိုး ဝတ်တက်ရာကျောင်း၌ ပြုကျင့်ရသော ဥပဒေနည်းတည်း။

---

### ၇-ညဉ့်အခါ စာပြန်ရာ သိမ်တန်ဆောင်း၌ ကျင့်ရသော ဥပဒေ

ဘုရားရှိခိုး ဝတ်တက်ရာမှ ပြန်လည်ပြီးနောက် တစုံဘရာအကြောင်းထူး ဝိသေသမရှိလျှင် အရပ်တပါး မသွားမလာ စာပြန်ရာသိမ်တန်ဆောင်းသို့ မနှေးမလျင် ကောင်းမွန်စွာ သွား၍ မိမိနေမြဲတိုင်း နေရာ၌ ထိုင်၍ ထ၍ စာပြန်သရဇ္ဈာယ်ခြင်း၊ ရှုပ်ရှက်ခတ် စကြံသွား၍ စာမအံရခြင်း၊ စကြံသွား၍ အံလိုလျှင် သိမ်တန်ဆောင်းအောက် အနီးအနား မြေပြင်တလင်း၌ဆင်း၍ စာအံရခြင်း၊ မိမိအနီးအပါး အိပ်ငိုက်သူကိုမြင်လျှင် မနှိုးပဲမနေရခြင်း၊ မိမိအိပ်ငိုက်သည်ကို သူတပါးတို့နှိုးလာလျှင် မအိပ်ချင်အောင်

ထိုင်၍မအံ့ ထ၍အံ့ခြင်း၊ အောက်သို့ဆင်းသဖြင့် စကြံသွား၍အံ့ခြင်း၊ စာပြန်ရာ၌ အကျယ်အပွါး စာစကားကိုမျှ ပြော၍မနေရခြင်း၊ ပြောပလောက်သော အကြောင်းထူးဝိသေသမရှိလျှင် စာပြန်ရာ သိမ်တန်ဆောင်းသို့ တက်သည်မှစ၍ စာအံ့တိတ် ကရဒက်ခေါက်သည်တိုင်အောင် အကျိုးမရှိသောစကားကို တစုံတခွန်းမျှ မပြောမဆိုခြင်း၊ စာအံ့တိတ် ကရဒက်ခေါက်လျှင်ခေါက်ချင်း သိမ်ပေါ်၌ စကားပြော၍မနေပဲ, အရှည်အကြာ စာအံ၍မနေပဲ စာပြန်ရာအကြီးအအုပ်သံဃထေရ်ရှိရာ လက်အုပ်ချီ၍ အရိုအသေမနေးမလျင် သိမ်တန်ဆောင်းမှဆင်း၍ မိမိနေရာကျောင်း အိပ်နေကျအခန်းတွင်း၌ သင့်လျော်လျောက်ပတ်သော ကမ္မဋ္ဌာန်းကို စွမ်းအားရှိသမျှ နှလုံးသွင်း၍အိပ်ရခြင်း၊ သူတပါးအိပ်ခန်း, သူတပါးနေရာတို့၌ အမှတ်မဲ့အိပ်မိလျှင် နံနက်ထအခါ ဒဏ်ဆယ်ခေါက် ထမ်းရခြင်း၊ ဆယ်ဝါမှအောက်ငယ်သော ကျန်းမာပကတိရှိသော ပုဂ္ဂိုလ်တို့ သိမ်တန်ဆောင်း သံဃာစည်းဝေးရာအရပ်မှ အခြားမိမိနေရာစသည်တို့၌ အမှတ်မဲ့စာအံ၍နေသူမှာ ဒဏ်ဆယ်ခေါက်၊ အိပ်၍နေသူမှာ ဒဏ်အခေါက်သုံးဆယ်ထမ်းရခြင်း၊ ဆယ်ဝါထက်ကြီးသူ ပုဂ္ဂိုလ်ဘို့လည်း မည်သည့်အရပ် နေရာမဆို စာအံ့တိတ် ကရဒက်မတီးမချင်း နှစ်ပါး, သုံးပါးစသည်စု၍ အလွတ်စကား အလကားပြောဆိုနေခဲ့သော် ဒဏ်ဆယ်ခေါက်၊ အိပ်၍နေခဲ့သော် ဒဏ်အခေါက်သုံးဆယ်ထမ်းရခြင်း၊ကိုယ်လက်မချမ်းမသာ ရောဂါစသောအကြောင်းရှိ၍ သိမ်တန်ဆောင်းသို့တက်သဖြင့် စာမအံနိုင်သော် သိမ်တန်ဆောင်းအုပ် မထေရ်ကြီးထံ ခွင့်ပန်လျှောက်ထားပြီးမှ မိမိကျောင်းသို့သွားရခြင်း၊ နေ့တိုင်းပင် စာမအံနိုင်လျှင် အထက်ဆရာကြီးထံ လျှောက်ထား၍နေရခြင်း၊ စာမအံနိုင်သူပုဂ္ဂိုလ်ဖြစ်လျှင် သူတပါးစာအံမတိတ်မီအတွင်း မအိပ်မလှည်း ပုတီးစိပ်၍ ကမ္မဋ္ဌာန်းကို ပွါးများ၍နေရခြင်း၊ သံဃထေရ်ကြီး ဖြစ်သူတို့လည်း အချင်းချင်း အခြားကိစ္စ တိုင်ပင်ရန်ရှိသော်လည်း မသွဲမကင်းသာလျှင် ထိုအခါမတိုင်ပင်ရလျှင် အကျိုးမပြီးလောက်သော အကြောင်းကိုကြည့်၍ သူတပါးတို့ စာအံကြသည့်အတွင်း စာအံ့တိတ် ကရဒက်မခေါက်မီ မတိုင်ပင်ပဲ အများနည်းတူ စာအံနိုင်လျှင် စာအံ၊ စာမအံနိုင်လျှင် ပုတီးစိပ်ပြီး၍ စာအံ့တိတ်ကရဒက် ခေါက်ပြီးသည့်နောက်မှသာ ချင်းတို့ချင်းတိုင်ပင်ရန်ရှိသည်များကို တိုင်ပင်ပြောဆိုခြင်း၊ ၎င်းဆိုအပ်ခဲ့ပြီးသည့်အတိုင်း နေရာမကျ အမှတ်မဲ့ပြုခဲ့မိလျှင် မိမိလျှောက်လျှားဘာသာ ဒဏ်ဆယ်ခေါက် စသည်ထမ်း၍ မည်သည့်အပြစ်ကြောင့် ဒဏ်ထမ်းရပါကြောင်းကို သံဃထေရ်အား လျှောက်ကြားရမည်။ ။ဤကား ညဥ့်အခါ စာပြန်ရာ သိမ်တန်ဆောင်း၌ ကျင့်ရသော ဥပဒေနည်းတည်း။

---

## ဂ-ဥပုသ်ပြုရာ သိမ်တန်ဆောင်း၌ ကျင့်ရသော ဥပဒေ

ဥပုသ်ပြုကရဒက် ခေါက်လျှင်ခေါက်ချင်း မကြာလွန်းစေရ ဥပုသ်ပြုရာ သိမ်တန်ဆောင်းသို့သွားရခြင်း၊ ကိုယ်ဝတ်ကိုယ်ရုံကို လက်ကန်တော့စမွယ်တင်လျက် တဘက်ရုံနည်းကျအောင် ဝတ်ရုံပြီးလျှင် ငြိမ်သက်သော ဣန္ဒြေရှိသည်ဖြစ်၍ သိမ်တန်ဆောင်းသို့ ကောင်းမွန်စွာလာရခြင်း၊ သီတင်းကြီးတို့ကို ရိုသေကိုင်းညွတ်လျက် သီတင်းငယ်တို့ကိုလည်း တိုးဝှေ့တိုက်ခိုက်မရှိ သံဃထေရ်ရှိရာ လက်အုပ်ချီ၍ အရိုအသေ သံဃာ့အစည်းအဝေးသို့ ဝင်ရခြင်း၊ ပါတိမောက်ပြမည့် ပုဂ္ဂိုလ်သည် ဥပုသ်မပြုမီ အဘိတ်နေ့တရက်ကလာ၍ မထေရ်ကြီးထံ အမေးအဖြေနှင့်တကွ ပါတိမောက်ပြန်ရခြင်း၊ ပါတိမောက်ပြန်သည့်အခါ ညောင်းညာပင်ပန်းခြင်းစသော အနည်းငယ်သော အကြောင်းကို အကြောင်းပြုသဖြင့် အကျဉ်း

သခေ်ပမပြပဲ အခါခပ်သိမ်း အကျယ်ဝိတ္ထာရပြခြင်း၊ ပါတိမောက်ပြပြီးသည့်နောက် မေတ္တာသုတ်စသည်တို့ကို အညီအညာရွတ်ရခြင်း၊ ရွတ်ပြီးသည့်နောက် ဆုံးမရန်ရှိသည်များကို သံဃထေရ်တို့က ဆုံးမပြီး၍ ခွင့်လွှတ်ခါမှ အစဉ်အတိုင်းထ၍ ဖြည်းညင်းသက်သာစွာ သိမ်တန်ဆောင်းမှ ဆင်းသက်ခြင်း၊ ဤသို့စသော အကျင့်ကို ပြုကျင့်အပ်၏။ ။ဤကား ဥပုသ်ပြုရာ သိမ်တန်ဆောင်း၌ ပြုကျင့်ရသော ဥပဒေနည်းတည်း။ ။ၚင်းအတိုင်းမညီ ဖောက်ပြန်ခဲ့ကြလျှင် အာမခံနှင့်တကွ ထိုက်ရာဒဏ်။

---

## ၉-နဝကမ္မပြုလုပ်ရာ၌ ကျင့်ရသော ဥပဒေ

နဝကမ္မကရဒက် ခေါက်လျှင်ခေါက်ချင်း မကြာသွန်းစေရ သံဃာ့အစည်းအဝေးသို့ သွားရခြင်း၊ ညီညာဖျဖျ နောက်မကျရအောင် အထူးသတိပြုရခြင်း၊ မိမိအာမခံအပ်သောပုဂ္ဂိုလ် နောက်မကျရအောင် အထူးသဖြင့် ကြည့်ရှုနှိုးဆော်ခြင်း၊ သံဃာ့ထေရ်ညွှန်ချဝေဘန်ရာအမှုကို တွက်ချက်ခိုကပ်မရှိ စွမ်းအားအလျောက် အားထုတ်ချက်ဆောင်ခြင်း၊ ကိုယ်လက်မအီမသာ ရောဂါစသော အကြောင်းရှိလျှင် သံဃာကြီး, ပုဂ္ဂိုလ်ကြီးများထံ ပန်ကြားလျှောက်ထား၍ နေရခြင်း၊ မပန်ကြား အမှတ်မဲ့နေခဲ့သော် သင့်လျော်အောင် ဒဏ်ထမ်းရခြင်း၊ အကြောင်းထူးဝိသေသမရှိ အမှတ်မဲ့ပျင်းမူရာ ခိုကပ်နေရစ်ခဲ့သော်ၚင်း, အလွန်ကြာမြင့်စွာ နောက်ချန်၍နေရစ်ခဲ့သော်ၚင်း လျှောက်လျှားဘာသာ ဒဏ်အခေါက်နှစ်ဆယ်, သုံးဆယ်စသည်ထမ်း၍ မထေရ်ကြီးတို့ထံ မည်သည့်အပြစ်နှင့် ဒဏ်ထမ်းရပါကြောင်းကို လျှောက်ရခြင်း၊ နဝကမ္မပြုလုပ်သည့်အခါ အကျိုးမရှိ နိရတ္ထက တိရစ္ဆာနကထာ ရယ်မောစရာ စကားတို့ကို မပြောမဆိုမိအောင် အထူးသတိပြုရခြင်း၊ ၚင်းနဝကမ္မပြုလုပ်ကြရာ ဝိုင်းဖွဲ့၍ လက်ဘက်ရည်သောက်ခြင်းစသော လူတို့ကဲ့သို့ ဟော့ရမ်းသော အမှုအရာတို့ကို မပြုခြင်း၊ အကြီးအအုပ် သံဃာ့ထေရ်တို့မှတပါး သံဃာငယ်ချင်းချင်း မည်သူမည်ဝါ မလာကြသည်, အဟုတ်အဟတ် မလုပ်ကြသည်စသည်ဖြင့် မညည်းတွားရခြင်း၊ ကျယ်လောင်စွာ မခေါ်မအော်ရခြင်း၊ နေရာကျအောင် မလုပ်သည်, မတတ်သည်, ပျင်းသည်,ဖျင်းသည် စသည်ဖြင့် သူတပါးအမှုကို မကဲ့ရဲ့ရခြင်း၊ ဤနဝကမ္မ ပြုလုပ်ကြသည့်အခါ ငါ၏တွက်တာနှင့် တစုံတခု အပြစ်တင်ရန်, ပြောဆိုရန်မရှိပါစေသတည်းဟု အထူးသတိပြု၍ အရှိအသေ ငြိမ်သက်သောဣန္ဒြေဖြင့် ကောင်းမွန်စွာ ပြုလုပ်အားထုတ်ခြင်း၊ သံဃာ့ထေရ်ကြီးတို့က တခုခုကိုစေခိုင်းရာ တခွန်းတည်းသော စကားဖြင့် မငြင်းမဆန် သွားလာအားထုတ် ပြုလုပ်ခြင်း၊ အမှုကိစ္စပြီး၍ မထေရ်ကြီးတို့ခွင့်ပြုသည့်အခါမှ လိုရာအရပ်သို့ ဘဲသွားခြင်း၊ အမှုမပြီးမီ အကြောင်းအထူး ဝိသေသရှိ၍ ဘဲသွားလိုသော် မထေရ်ကြီးများထံ ပန်ကြား၍သွားရခြင်း စသည်တည်း။ ။ဤကားနဝကမ္မပြုလုပ်ရာ၌ ပြုကျင့်ရသော ဥပဒေနည်းတည်း။

---

## ၁၀-ရေခပ်ရေချိုးသွားရာ၌ ပြုကျင့်ရသော ဥပဒေ

နှစ်ပါး,သုံးပါး စသည် တိုင်ပင်ပေါင်းစု၍မသွားခြင်း၊ လမ်းခရီးအကြား သူတပါးနှင့် ပေါင်းဆုံမိသော်ၚင်း, ရေခပ်ဆိပ်၌ အများနှင့် ပေါင်းဆုံမိသော်ၚင်း စကားများစွာ မပြောဆိုရခြင်း၊ သုံးပါး, လေးပါးစု၍ အတူရေမချိုးရခြင်း၊ မိမိထက် ခြောက်ဝါကြီးသော အာစရိယမတ္တမထေရ်ကြီးတို့ အနီးအ

ပါး ရေမချိုးရခြင်း၊ ၎င်းမထေရ်တို့၏ အထက်အညာကနေ၍ ရေမချိုးရခြင်း၊ တိစီဝရိက်စုတင်ဥက္ကဌ် ဆောင် ပုဂ္ဂိုလ်မဟုတ်ပဲလျက် မလျှောက်မပတ် အချည်းနှီးချွတ်၍ရေမချိုးပဲ ရေသနုပ်နှင့်တကွ ချိုးရ ခြင်း၊ အချင်းချင်းစကားပြောလျက် ရယ်မောမြူးတူး ရေကူးရေကစား ထိုမှ၍မှ ကူးသန်းသွားလာ ခြင်းကိုမပြု ချိုးမြဲတိုင်းသောနေရာ၌ ငြိမ်သက်သောဣန္ဒြေရှိသဖြင့်ရေချိုးရခြင်း၊ ပုဆစ်ဖမျက်နှစ်လောက် ရုံမျှသော ရေ၌သော်သည်း ရေအပြင်ကို ခြေနှင့်ခတ်ခြင်း, လက်နှင့်ပုတ်ခြင်း, လက်ချောင်းနှင့်တောက် ခြင်းကို ပြုကာမျှဖြင့်လျှင် ဟသခမ္မသိက္ခာပုဒ်ဖြင့် ပါစိတ်အာပတ် သင့်ကြောင်းကို အဋ္ဌကထာ၌ မိန့်ဆို ရကား ရေချိုးရာ၌ အလွန်အာပတ်နှင့် နီးသည်ဖြစ်၍ ပျော်ရွှင်လိုသောစိတ်ဖြင့် လက်ခြေ ကိုယ်အင်္ဂါ တို့ကို လှုပ်ရှားရောက်ရက်မရှိစေရ အထူးသတိပြု၍ ချိုးရခြင်း၊ ရေချိုးရေခပ်ဆိပ်၌ အတိုင်းထက်အလွန် အရှည်အကြာ မနေရခြင်း၊ ဤသို့ စသော အကျင့်ဝတ်တို့ကို ပြုကျင့်ကြရမည်။ ။ဤကား ရေချိုး ရေခပ်ရာ၌ပြုကျင့်ရာသော ဥပဒေနည်းတည်း။ ။၎င်းဥပဒေနှင့်မညီ ဖောက်ပြန်ခဲ့ကြလျှင် အာမခံဆရာ ကျောင်းနေပုဂ္ဂိုလ်တို့ပါ ထိုက်ရာဒဏ်။

---

## ၁၁-မြို့တွင်းရွာတွင်းသို့ဝင်ရာ၌ ကျင့်ရာသော ဥပဒေ

မြို့တွင်းရွာတွင်းသို့ ဝင်လိုသောပုဂ္ဂိုလ်သည် ဆရာမထေရ်ကြီးထံ ပန်ကြားလျှောက်ထား၍ အခွင့် ပြုမှဝင်ရခြင်း၊ အကြင်ကိစ္စအမှုဖြင့် အကြင်ဒါယကာ့အိမ်သို့ သွားအံ့သောငှါ မထေရ်ကြီးထံပန်လျှောက် ၍၊ ထိုကိစ္စပြီးစီးသည့်အခါ ထိုမှ၍မှ မလယ်မပတ် နေမြဲကျောင်းအရပ်သို့ ဖြောင့်ဖြောင့်မတ်မတ် ပြန် လည်ခဲ့ရခြင်း၊ ပြန်လည်ပြီးသည့်အခါ ဆရာမထေရ်ကြီးထံလာ၍ မြို့တွင်းရွာတွင်း၌ ဖြည့်ကျင့်အပ်သော ဩက္ကိတ္တစက္ခုစသော သေခိယသိက္ခာပုဒ်တော် လုံခဲ့သည်,မလုံခဲ့သည်၊ ကျိုးပေါက်ခဲ့သည်, မပေါက်ခဲ့သည် များကို လျှောက်ထား၍ ကျိုးပျက်ပြောက်ကျားရှိခဲ့လျှင် သဲဒဏ်, ရေဒဏ်ဆယ်ခေါက်, ဆယ့်ငါးခေါက် စသည်ထမ်း၍ ဒေသနာကြားရခြင်း စသည်တည်း။ ။ဤကား မြို့တွင်းရွာတွင်းသို့ ဝင်သောအခါ ပြု ကျင့်ရာသော ဥပဒေနည်းတည်း။ ။၎င်းအတိုင်း မပြုမကျင့် အမှတ်မဲ့လွန်ကျူးသူတို့မှာ တိုက်မှအပ။

---

## ၁၂-ဇာတိနေရင်းရပ်ရွာသို့ အခိုက်အတန့်ပြန်လိုသော ပုဂ္ဂိုလ်တို့ ပြုကျင့်ရာသော ဥပဒေ

ရပ်ရွာသို့ အခိုက်အတန့် ပြန်သွားလိုသောပုဂ္ဂိုလ်သည် အာမခံဆရာ သံဃာ့ထေရ်ပုဂ္ဂိုလ်ကြီး, အထက်ဆရာမထေရ်ကြီးတို့ထံ စေ့နှံ့အောင် လျှောက်ထားပြီးမှ ပြန်သွားရခြင်း၊ လမ်းခရီးအကြား အဓမ္မိယမိစ္ဆာဇီဝဖြင့် သံသယမကင်းစကောင်းသော ကျောင်း အိပ်ရာ နေရာ, အစားအသောက်တို့ကို စားသောက်မှီဝဲ,တည်းခိုခြင်း စသော သိက္ခာပုဒ်တော်နှင့် မလျော်သောအမှုကို မဖြစ်စေရ အထူးသတိ ပြု၍ စောင့်ရှောက်ခြင်း၊ ရပ်ရွာသို့ပြန်ပြီးသည့်နောက် အကြောင်းထူးဝိသေသမရှိပဲ လခွဲ, ဆယ်ရက်ထက် အလွန် ရပ်ရွာ၌ အရှည်အကြာ မနေရခြင်း၊ အကြောင်းရှိသည်ဖြစ်၍ အရှည်အကြာနေခဲ့ရလျှင် နှစ်လ ကျော်, သုံးလကြာမှ ပြန်လာခဲ့သောပုဂ္ဂိုလ်တို့အား အာမခံဆရာ အသစ်ရှာ၍ တခြားပုဂ္ဂိုလ်သစ်တို့ နည်းတူစွာ သံဃာ့မထေရ်ကြီးတို့ထံ အသစ်လျှောက်ရခြင်း၊ အခွင့်ရမှ နေရခြင်း၊ အကြောင်းထူးဝိသေသ ကိစ္စမရှိ အမှတ်မဲ့ရှည်ကြာစွာ ရပ်ရွာ၌နေခဲ့သော် ရောက်သည့်အခါ နှိနာလောက်အောင် ဒဏ်များစွာ

ထမ်း၍ သံဃာကိုနှစ်သိမ့်စေလျက် အာမခံဆရာအသစ်ရှာ၍ သံဃာ့မထေရ်ကြီးတို့ခွင့်ပြုမှ ဒွေမာတိကာစသည်ကို အသစ်ပြန်ဆို၍ နေရခြင်း၊ ဤသို့စသော အကျင့်တို့ကို ပြုကျင့်ကြရမည်။ ။ဤကား ရပ်ရွာပြန်ရာ၌ ပြုကျင့်ရာသော ဥပဒေနည်းတည်း။

---

## ၁၃-ပရိဝါသ်မာနတ်ဆောက်တည်ရာ၌ ပြုကျင့်ရာသော ဥပဒေ

ကာမဝိတက်ကို ကြံမိကာမျှဖြင့် သံဒဏ်များစွာထမ်း၍ စိတ်ကိုနှိပ်ကွပ်ဆုံးမကြသော နေရဥ္စရာ မြစ်နား ဥရုဝေလဝါသီ တောအရပ် ရသေ့တာပသပုဂ္ဂိုလ်တို့ အကျင့်များကိုဆောက်၍ သဒ္ဓါစွဖြင့် ဂရုက အာပတ်သို့ရောက်လျှင် နိဗ္ဗာန်လောက်အောင် ဒဏ်ထမ်း၍ နေ့ညဥ့် မဖုံးမလွှမ်း ဆောလျင်စွာ အာဝီကတာပြုခြင်း၊ ညဥ့်လွန်အောင် ဖုံးလွှမ်း၍ ပဋိစ္ဆန္နပရိဝါသ်ကို ဆောက်တည်ခဲ့ရလျှင် တရက်,တရက် ဖုံးလွှမ်းသည်၏အတွက်ကို သံဒဏ်,ရေဒဏ်ငါးခေါက်စီ တာချ၍ ဝတ်နေရက်များတိုင်း ဒဏ်များစွာထမ်းရခြင်း၊ အပ္ပဋိစ္ဆန္နမာနတ်မျှနေသော်လည်း ကမ္မဝါစာဆရာ, ကာရကသံဃာတို့ကို အလွန်မြတ်နိုးစေခြင်း၌ စေတီတော်, သံဃာတော်အား ရေဒဏ်ငါးလုံး, ဆယ်လုံးလှူပြီးမှ သံဃာကို မာနတ်တောင်းပန်သျှောက်ထားရခြင်း၊ ပကတတ်ရဟန်းအနီး တဆယ့်နှစ်တောင်အတွင်း ဘိနပ်မစီးမသွား, ပုစ္ဆာပြဿနာမမေးမဖြေ, ပကတတ်ရဟန်းတို့နှင့် တမိုးတရံတည်း မအိပ်မနေရခြင်းစသော ဒဏ်သားရဟန်းတို့ ကျင့်ရာသော ဝတ်တို့ကို အရိုအသေ ကောင်းစွာ ကျင့်ဆောက်တည်ခြင်း၊ ပရိဝါသ်, မာနတ်ကြားရာအရပ်၌ ဒဏ်သား, ပကတတ်သားနှစ်ပါးလုံးပင် တိရစ္ဆာနကထာများကို မပြောမဆိုပဲ သင့်လျော် လျောက်ပတ်သော ကမ္မဋ္ဌာန်းကိုနှလုံးထား၍ ကောင်းမွန်စွာနေထိုင်ရခြင်း၊ဤသို့စသော အာသဝေါက်လေသာကင်းကြောင်း ကောင်းမြတ်သော သလ္လေခအကျင့်တရားတို့ကို သံဃာရဘိရုက မဟာသမဏ သကျပုတ္တတို့ပီပီ ညီညွတ်သော ကိုယ်စိတ်နှလုံးရှိသည်ဖြစ်၍ ကောင်းမွန်စွာ ကျင့်ဆောက်တည်နိုင် ကြပါစေကုန်သတည်း။ ။ ဤကား ပရိဝါသ်,မာနတ် ဆောက်တည်ရာ၌ ကျင့်ရာသော ဥပဒေနည်းတည်း။

---

## ၁၄-အထက်ဆရာမထေရ်ကြီး ပြုကျင့်ရာသော ဥပဒေ

တပည့်ပရိသတ်တို့အား ပါဠိ,အဋ္ဌကထာစသည်တို့ကို စွမ်းအားအလျောက် ပို့ချပြသခြင်း၊ တလလျှင် လေးသီတင်း,ရှစ်သီတင်းစသည်ဖြင့် တရားစကားဟောကြားပြသ၍ ပရိသတ်တို့အား သဒ္ဓါတရားတက်ပွါးစေခြင်း၊ အခါအခါ၌ ဩဝါဒအနုသာသနီ မပြတ်ပေးသဖြင့် ပရိသတ်ကို ယဉ်ကျေးအောင်ဆုံးမခြင်း၊ နိဂ္ဂဟာရဟ, ပဂ္ဂဟာရဟ ပုဂ္ဂိုလ်တို့အလျောက် ချီးမြှောက်နှိပ်ကွပ်ဆုံးမခြင်း၊ နှုတ်မကြမ်းတမ်းခြင်း၊ အချော်အဖျင်းမပြောခြင်း၊ နဝကမ္မအမှုမထူခြင်း၊ ပဥ္စင်းငယ်,သာမဏေငယ်တို့နှင့် ရောနှောခြင်းစသော သင်္ဂဏိကာရာမတာ, စကားများခြင်း ဘဿာရာမတာ, အိပ်ကြူးခြင်း နိဒ္ဒါရာမတာ စသော ရဟန်းတရားမှ ဆုတ်ယုတ်ကြောင်း မကောင်းသော အမူအရာတို့ကိုမဖြစ်စေရ အထူးသတိပြုခြင်း၊ ပဥ္စင်းငယ်, သာမဏေငယ်တို့ နေရာတိုက်ခန်း စသည်တို့သို့ လည်ပတ်သွားလာ တရားလွတ်စကား ပြောဆိုမရှိခြင်း၊ မိမိထံရောက်လာသော တပည့်,ပရိသတ်တို့အား အကျိုးမရှိ အသွတ်စကား, ရယ်မောဘွယ်ရာ စကားများကိုကြဥ်၍ လျောက်ပတ်သော ဩဝါဒကထာ, ဓမ္မကထာစသော အကျိုးစီးပွါးများ

လောက်သော စကားတို့ကိုသာ ပြောဆိုခြင်း၊ ဆန္ဒာဒေါသာဘယာဂတိသို့ မလိုက်ခြင်း၊ ပစ္စည်းလာဘ်တို့၌ ခင်မင်မက်မောနှမြောစုံမက်မရှိခြင်း၊ မျက်နှာကြီးငယ် မရွယ်မထောက် သံဃာအားကျေးဇူးနည်းများ ပုဂ္ဂိုလ်အားလျော်စွာ အနုဂ္ဂဟနှစ်ပါးဖြင့် တပည့်သားတို့အား ချီးမြှောက်ထောက်ပံ့ခြင်း၊ ပုဂ္ဂလိကပစ္စည်း, သံဃိကပစ္စည်း, ဂရုဘဏ်ပစ္စည်း, လဟုဘဏ်ပစ္စည်းရပ်များကို တရားအလျောက် နေရာရောက်အောင် သုံးဆောင်ဝေဘန် ဖြန့်ချိခြင်း၊ သံဃိကပစ္စည်းကို ပုဂ္ဂလိကပစ္စည်းကိုကဲ့သို့ပြု၍ အမှတ်မဲ့ မသုံးဆောင်မဝေဘန်ခြင်း၊ တခြားပုဂ္ဂိုလ်တို့မှ ရအပ်သော ပစ္စည်းလာဘ်တို့ကို အမေ့မြိယပစ္စည်းမှန်းသိလျက်, သံသယမကင်းစကောင်းပဲလျက် အများနှင့်ဆက်ဆံရာ, ဘဏ္ဍာသိုမှီးရာ ဆွမ်းစားကျောင်း စသည်တို့သို့မပို့မတင်စေပဲ အနပေက္ခစွန့်ပစ်ခြင်း၊ စွန့်၍တဘန် ရပြန်လျှင်လည်း သုံးဆောင်ဝေဘန် လက်ခံသိမ်းထားမရှိခြင်း၊ တစုံတခု အမှုအဓိကရဏ်း ပေါ်ပေါက်လာလျှင် လူရှင်အများ ကြားသိတော့မည်, တိုက်တာ ကျက်သရေ ပျက်တော့မည်ဟု ဖုံးလွှမ်းလျှို့ဝှက်မပြု၊ အမှုအင်ကိုကြည့်ရှု၍ ထင်ရှားသင့်သည်ကိုထင်ရှားအောင် တိုက်အုပ်, တိုက်ကြပ်အရာ လွှဲထားအပ်သော ဦးပဉ္စင်းတပည့်ကြီးတို့နှင့်သဘောတူစီရင်ဆုံးမခြင်း၊ မလိမ်မာသူ အောက်လူငယ်တို့ တဘက်စကားဖြင့် တပည့်ကြီးပုဂ္ဂိုလ်များကို မေးမြန်းတိုင်ပင်မပြုပဲ တပည့်ကြီးပုဂ္ဂိုလ်များအား ပြစ်တင်စကား မပြောမဆိုခြင်း၊ တဆင့်စကား နားကြားရုံမျှဖြင့်အမှုသည်ကို မမေးမမြန်းရခင် ရှေးဦးတင်၍ တစုံတယောက်သော တပည့်ကိုမျှ ကဲ့ရဲ့ရှုတ်ချ ဒေါသအမျက်မထားခြင်း၊ ကျောင်းသားသူငယ်ကိုသော်မှလည်း ပြင်းထန်စွာသော ဒေါသစိတ်ဖြင့် အော်အင်ငေါက်ငမ်း ဆွဲရမ်းရိုက်နှက် ပုတ်ခတ်ခြင်းကိုမပြု၊ အမှုနှင့်လျော်စွာ သင့်ရာဒဏ်ကိုပေး၍ ကြောက်ရွံ့ယဉ်ကျေးလောက်အောင် ဆုံးမခြင်း၊ ဂုဏ်မာနဖြင့် ဝင့်ဝါပလွှား ဝါကြွားသော ကိုယ်အမှုအရာ, နှုတ်အမှုအရာ အကျင့်တို့ကို မိမိလည်း မဖြစ်စေရ၊ သူတပါးတို့ကိုလည်း မဖြစ်စေရ၊ အထူးသတိပြု၍ ပရိသတ်ကို ဆုံးမစောင့်ရှောက်ခြင်း၊ မိမိ၌သိက္ခာပုဒ်တော် အာပတ်အရာနှင့်စပ်၍ သံသယမကင်းသဖြင့် တပည့်ဦးပဉ္စင်းတို့ လျှောက်ထား စောဒနာလာသည့်အခါ မကြည်လင်မနှစ်သက်သော အမှုအရာတို့ကို မဖြစ်စေရ၊ ဆရာအရာ၌ တည်သောတပည့်ကောင်း ဖြစ်ပေသည်တကားဟု ကောင်းမွန်စွာ နှလုံးထားလျက် နားခံသာသောစကားဖြင့် အကြောင်းအားလျော်စွာ ပြန်ကြားပြောဆိုခြင်း၊ ဒါယကာတို့နှင့် အနုလောမိကဂိဟိသံသဂ္ဂ အနေသနအမှုအရာတို့ကို မိမိလည်းမဖြစ်စေရ, တပည့်ပရိသတ်တို့ကိုလည်း မဖြစ်စေရအောင်မပြတ်မလပ် ဟောပြောဆုံးမခြင်း၊ စာပေကျမ်းဂန် သင်အံသရဇ္ဈာယ်ခြင်း ပရိယတ်အရာ, ပုတီးစိပ်ခြင်း ကမ္မဋ္ဌာန်းစီးဖြန်းခြင်း ပဋိပတ်အရာတို့၌ မပြတ်မလပ် အားထုတ်နှိုးဆော် တိုက်တွန်းခြင်း၊ မည်သည့်စာကိုဘက်သနည်း၊ မည်သည့်စာကို ဆောင်သနည်း၊ မည်သည့်ကမ္မဋ္ဌာန်းကို အားထုတ်သနည်းစသည်ဖြင့် ရံဖန်ရံခါမေးမြန်း၍ တပည့်ပရိသတ်တို့အား တရားတိုးတက်အောင် ကြံဆောင်နှိုးဆော်ခြင်း၊ ငါဆုံးမ၍ထားအပ်သော ဥပဒေနည်းအတိုင်း ကျင့်ဆောင်နိုင်ပါ၏လော စသည်ဖြင့် မေးမြန်း၍ တပည့်ပရိသတ်တို့အား ဥပဒေနည်းအတိုင်း နေရာကျအောင် အထူးသဖြင့် ကြည့်ရှုခြင်း၊ ပြောပလောက်အောင်ဖျားနာသည့် တပည့်ရဟန်း, သာမဏေတို့ကို အထူးအာရုံပြု၍ ကြည့်ရှုမှိုင်းမခြင်း၊ တပည့်ပရိသတ်တို့လိုရာပစ္စည်းရပ်ကို စွမ်းအားအလျောက် ချီးမြှောက်ပေးကမ်း ဝေဘန်ခြင်း၊ တပည့်ပရိသတ်တို့ ဖြစ်ဟန်ပျက်ဟန်,နေပုံနေဟန်, ကျင့်ကြံဟန်တို့ကို အမှန်သိရအောင် သူလျှိုတမန်တို့ကိုသော်လည်း လွှတ်၍မပြတ်မလပ် ထောက်လှမ်းမေးမြန်းစုံစမ်းခြင်း၊ ၂-ကြိမ်, ၃-ကြိမ် ပြောဆိုဆုံးမ၍သော်မှမရ ဒုဗ္ဗစဘပည့်, အလဇ္ဇီတပည့်တို့ကို ဆန္ဒာ,ဘယာမလိုက် တိုက်တာအတွင်းမှ နှင်ထုတ်ခြင်း၊ မလိမ်မာသူ လူငယ်တို့ကို မမြှောက်

စားခြင်း၊ အများသံဃာ သဘောမတူသောပုဂ္ဂိုလ်ကို အကြီးအအုပ်အရာ မလွှဲထားခြင်း၊ သံဃာယုံမှတ်အပ်သည်ဟု လွှဲထားအပ်သော တပည့်ပုဂ္ဂိုလ်ကြီးတို့နှင့် တိုင်ပင်၍ အလုံးစုံအမှုကြီးငယ်တို့ကို စီရင်ဆုံးဖြတ်ခြင်း၊ "ခမာ ဇာဂရိယုဋ္ဌာနံ၊ သံဝိဘာဂေါ ဒယိက္ခဏာ" ဟူသော သည်းခံခြင်း, နိုးကြားခြင်း, ထကြွလုံ့လရှိခြင်း, ပစ္စည်းပရိက္ခရာ ဝေဘန်ဖြန့်ချီခြင်း, သနားတတ်ခြင်း, အရာရာမျိုးတို့၌ သဇာန, ဒုဇ္ဇန အဆိုးအကောင်း တပည့် ပရိသတ်တို့၏ အခြင်းအရာကို မှန်ကန်စွာသိအောင် ပညာဖြင့် ရှုဆင်ခြင်ခြင်း။ ဤနာယကဂုဏ် ခြောက်ပါးနှင့် ပြည့်စုံအောင် နှလုံးထားခြင်း။ ။ဤကား ဦးခိုင်နာယက ပြုလုပ်သူ ဆရာမထေရ်ကြီး ပြုကျင့်ရသော ဥပဒေနည်းတည်း။

---

## ၁၅-ဆရာမထေရ်ကြီးနှင့်တကွ သံဃာသဘောတူ တိုက်အုပ်တိုက်ကြပ်အရာ လွှဲထားအပ်သော ပုဂ္ဂိုလ်ကြီးတို့ပြုကျင့်ရသော ဥပဒေ

မထေရ်ကြီးထံ ရံခါရံခါသွားလာ၍ မထေရ်ကြီးဆုံးမရာ နာခံမှတ်သားခြင်း၊ ဆရာမထေရ်ကြီး ဆုံးမအပ်သော ဥပဒေနည်းအတိုင်း နေရာကျအောင် ပရိသတ်ငယ်သားတို့၌ ကြောင့်ကြတခု အာရုံပြု၍ ကြည့်ရှုဆုံးမခြင်း၊ ဆရာမထေရ်ကြီး ပညတ်အပ်သော အမှုဥပဒေနည်းတို့ကို ဆရာကြီးထံ မပန်မကြား အမှတ်မဲ့မနုတ်ထားခြင်း၊ ပညတ်သစ်ဥပဒေ အထွေအထူးထားပြန်လိုလျှင် ဆရာမထေရ်ကြီးနှင့်တိုင်ပင်၍ ထားရခြင်း၊ တစုံတယောက် အောက်ငယ်သားတို့ တဆင့်စကာဖြင့် ဆရာမထေရ်ကြီးအား ပြစ်မှားကဲ့ရဲ့မပြုရခြင်း၊ ပုဂ္ဂိုလ်တို့ချင်းချင်း တပါးသြဇာကို တပါးမဖျက်ခြင်း၊ တယောက်ကျေးဇူးမဲ့ကို တယောက်ကွယ်ရာ အတင်းအဖျင်းမပြောပဲ ကျေးဇူးဂုဏ်ကိုသာ ရှာကြံ၍ပြောဆိုခြင်း၊ အောက်ငယ်သားတို့ အဆင့်ကုန်းချောစကားနှင့် ပုဂ္ဂိုလ်ကြီးချင်း မကွဲပြားရအောင်, သူပြောလာတိုင်း မယုံမိအောင် အထူးသတိပြုခြင်း၊ မနာလိုကုန်းချောစကား မိမိထံ ပြောကြားလာသော ငယ်သားတို့ကို နှိမ်နာအောင် ဒဏ်ပေးဆုံးမြည်ခြင်း၊ အောက်ငယ်သားတို့ သူ့တပည့်,ငါ့တပည့် သူ့အသင်း, ငါ့အသင်း ကွဲပြားမရှိစေရ၊ တဘတည်းသားတို့ကဲ့သို့ ညီညွတ်စေ့စပ်အောင်, တလုံးတစည်းတည်းဖြစ်အောင် ပရိသတ်အလုံးကို ဆုံးမကြည့်ရှုစောင့်ရှောက်ခြင်း၊ အစားအစာနှင့်စပ်သော ပစ္စည်းလာဘ်ကို သူ့ဟာ,ငါ့ဟာ သီးသန့်ကွဲပြား မသိုထားပဲ မိမိပုဂ္ဂလိကရအပ်သော အစားအစာ,ပစ္စည်းလာဘ်တို့ကိုသော်လည်း သူ့အပြစ်တင်လောက်အောင် ရခဲ့၍ရှိလျှင် ဆွမ်းစားကျောင်းသို့တင်၍ သံဃာ့ဘောင်သို့ ပို့ချခြင်း၊ သံဃာ့အလယ် သံဃာငယ်တို့ရှေ့ ပုဂ္ဂိုလ်ကြီးချင်း တယောက်တခြား ကွဲပြားငြင်းခုံ မပြုရခြင်း၊ သံဃာမှအပ သင့်တင့်ရာအရပ်ဝယ် ချင်းတို့ချင်း ညှိနှိုင်းတိုင်ပင်၍ သဘောညီမျှပြီးသော စကားအမှုတို့ကိုသာ သံဃာလယ်၌ ပြောဆိုဆုံးမခြင်း၊ ပရိသတ်အလယ် ကျယ်လောင်စွာ အော်အင်ငေါက်ငမ်း မကြမ်းတမ်းစေရခြင်း၊ အခါခပ်သိမ်းကျယ်လောင်စွာ ရယ်ရွှင်မြူးထူးမပြုရခြင်း၊ ဆရာမထေရ်ကြီးလာဘ်, သံဃာ့လာဘ်ပစ္စည်းတို့ကို အညီအညွတ် ဝေဘန်မိအောင် အထူးသတိပြုရခြင်း၊ သံဃကိစ္စ၌ အထူးရွက်ဆောင်ဘော်ရသော သံဃာဘာရနိတ္ထရဏ ပုဂ္ဂိုလ်,အများသံဃာ့တွက်တာ အနုမောဒနာ တရားစသည်ဟောကြား ရွက်ဆောင်တတ်သော သရဘာဏက ပုဂ္ဂိုလ်, သံဃာအား အစေ့အစပ်ဖြစ်အောင် ဟောကြားပေတတ်သော ဓမ္မကထိကပုဂ္ဂိုလ်,သံဃာကို စာဝါများစွာတို့ဖြင့် ကျေးဇူးများစွာရှိအောင် ရွက်ဆောင်ချီးမြှင့်လေ့ရှိသော ဂဏဝါစကပုဂ္ဂိုလ်, သမ္မုတိ ရအောင် ဖျားနာသော ဂိလာနပုဂ္ဂိုလ်တို့ကို နဝကမ္မအမှုသစ်မှ နုတ်ထားခြင်း၊ သက်နိုး, သပိတ်,

ပရိက္ခရာအထူးချီးမြှောက်ခြင်း စသည်တို့ကို ပြုလုပ်မိအောင် ဆရာမထေရ်ကြီးထံ ပန်ကြားလျှောက်ထား၍ ချီးမြှင့်သင့်သော ပုဂ္ဂလဝိသေကို အထူးချီးမြှင့်ခြင်း၊ နိဂ္ဂဏှာရဟ-နှိပ်နင်းထိုက်သူ ပုဂ္ဂိုလ်တို့ကို နိုင်နင်းအောင် နှိပ်ကွပ်ဆုံးမခြင်း၊ ကျောင်းသားလူငယ်တို့ကိုသော်လည်း ကျယ်လောင်စွာ အော်အင်ငေါက်ငမ်း ရိုက်နှက်ပုတ်ခတ်မရှိစေရ၊ သင့်လျော်အောင်သာ ဒဏ်ပေး၍ နိုနာယဉ်ကျေးအောင် ဆုံးမခြင်း၊ ဆုံးမ၍မရ ဒုဗ္ဗစကျင့်သူတို့ကို ဆရာမထေရ်ကြီးထံ လျှောက်ထားခြင်း၊ မိမိတို့လည်း နှိပ်နင်းနိုနာလောက်အောင် မဆုံးမ၊ ဆရာမထေရ်ကြီးထံလည်း မလျှောက်ထား၊ ဆန္ဒာ့ဘယာ့မောဟာဂတိလိုက်၍ အမှတ်မဲ့ အရှည်အကြာခနမိလျှင် သတိရသည့်အခါ နိုနာလောက်အောင် ဒဏ်ထမ်းရခြင်း၊ အထက်ဆရာမထေရ်ကြီး၌ မတော်မလျော်သော အပြစ်ကိုမြင်လျှင် ပြောဆိုလျှောက်ထားဝံ့ခြင်း၊ လျှောက်ထားသောအခါ ဆရာမထေရ်ကြီး သဘောမတူရှိခဲ့လျှင်လည်း မျက်မှောက်မျက်ကွယ် အဆောတလျင် ပြစ်တင်ကဲ့ရဲ့မပြုပဲ သံဃာ့အလယ် လှန်ပြန်ပြောဆိုမပြုပဲ လျှောက်ပတ်သည့်အခါမှ နေရာတကျ ပြောဆိုလျှောက်ထားခြင်းစသော တပည့်တို့အင်္ဂါ အဓိမတ္တပေမ, အဓိမတ္တဂါရဝတရားများကို အထူးနှလုံးထား၍ အထက်ဆရာကြီးနှင့် ယုဂဂ္ဂါဟ့ပဋ္ဌာသ မပြုမိအောင် အထူးသတိပြုခြင်း စသည်တည်း။ ။ဤကား ဆရာမထေရ်ကြီးက တိုက်အုပ်, တိုက်ကြပ်အရာ လွှဲထားအပ်သော ပုဂ္ဂိုလ်ကြီးတို့ ကျင့်ရာသော ဥပဒေနည်းတည်း။

---

## ၁၆-တိုက်သား သံဃာငယ်ဦးပဥ္စင်းတို့ ကျင့်ရာသော ဥပဒေ

တိုက်အုပ်, တိုက်ကြပ်, ဦးပဥ္စင်းကြီးတို့ ဆုံးမစကားကို တရံတဆစ်မျှ ခွန်းတုံ့မပြန်မလှန်ခြင်း၊ ဆရာမထေရ်ကြီ တို့ထံ ရံခါရံခါသွား၍ တရားဆုံးမခံခြင်း၊ ၎င်းမထေရ်ကြီး, ပုဂ္ဂိုလ်ကြီးတို့၌ အလွန်ရှိသေဦးညွတ်တုပ်ဝပ်လေ့ရှိခြင်း၊ ဆရာမထေရ်ကြီး, ပုဂ္ဂိုလ်ကြီးတို့ သံဃာလယ်၌ မောဟာဂတိကြောင့် မဟုတ်သည့်အရာကိုပင် ပြစ်တင်ပြောဆိုမိသော်လည်း သံဃာလယ်၌ ခွန်းတုံ့ပြန်လှန်မငြင်းဆန်ပဲ ခန္တီ့သောဝစဿတာ မင်္ဂလာတရားများကို နှလုံးထား၍ ဆိတ်ဆိတ်သည်းခံသဖြင့် လျှောက်ပတ်သင့်လျော်သောအခါမှ အဟုတ်အမှန်သဘောကျအောင် ကောင်းမွန်ရိုသေစွာ လျှောက်ထားရခြင်း၊ တိုက်အုပ်, တိုက်ကြပ်, ဦးပဥ္စင်းကြီးတို့၏ အပြစ်အနာကို မရှာမရှု ကျေးဇူးဂုဏ်ကိုသာ ရှုလေ့ရှိခြင်း၊ ၎င်းတိုက်အုပ်, တိုက်ကြပ်, ဦးပဥ္စင်းကြီးတို့ သဘောတူ စီရင်ဆုံးဖြတ်အပ်ပြီးသောအမှု, ငြိမ်းစေအပ်ပြီးသောအဓိကရုဏ်းတို့ကို ဆန္ဒာ့ဘယာလိုက်၍ စီရင်ဆုံးဖြတ်ကြသည် စသည်ဖြင့် တစုံတခွန်းမျှ ကဲ့ရဲ့ရှုတ်ချမပြုရခြင်း၊ အရိုအသေ လက်အုပ်မိုး၍ ရှိခိုးလျှောက်ထားခြင်း၊ သီတင်းကြီးတို့ကိုပန်၍ ဆီမီးထွန်းခြင်း, ဆီမီးငြိမ်းခြင်း, ပုစ္ဆာပြဿနာမေးခြင်း, ဖြေခြင်း, တရားစကားဟောပြောခြင်း, စာအံခြင်း, စာချခြင်း, မိမိနေရာ သီတင်းကြီးပုဂ္ဂိုလ်လာလျှင် နေရာမှထကြွခြင်း, ရှိခိုးဝတ်ချပြုခြင်း၊ ဆရာမထေရ်ကြီးထံ ဆည်းကပ်သောအခါ, သံဃာ့ဘောင်သို့ သက်ဝင်သောအခါတို့၌ သီတင်းကြီးနေရာ, သီတင်းငယ်နေရာ မှတ်သား၍ မိမိအား လျှောက်ပတ်သောနေရာတို့၌ နေရခြင်း၊ မိမိထက်ကြီးသော သီတင်းကြီးတယောက် လာပြန်လျှင် ၎င်းပုဂ္ဂိုလ်၏အောက် နောက်ကိုဆုတ်၍ အသာကောင်းမွန်စွာနေရခြင်း၊ ယုတ်သောအပိုင်းအခြားအားဖြင့် ၇-နှစ်ရွယ် သာမဏေငယ်တို့ကိုသော်လည်း နင့်,ဟယ် စသော အဂါရဝစကားတို့ကိုငှင်း၊ ရဟန်းငယ်ချင်းချင်း, သာမဏေငယ်ချင်းချင်း မင်း,ငါဟူသော စကားကိုငှင်း၊ လူတို့ချင်းကဲ့သို့ ခင်ဗျားဟူသော

စကားကို ခေါ်ဆိုသုံးစွဲလေ့မရှိ အတိသက္ကစ္စဖြစ်အောင် အယုတ်ဆုံးအားဖြင့် ၇-နှစ်ရွယ် သာမဏေငယ်ချင်းတို့သော်လည်း အချင်းချင်း ဦးထိပ်ရှက်ပါသည်ဘုရား, တင်ပါသည်ဘုရား စသည်ဖြင့် အရိုအသေပြောဆိုလေ့ရှိခြင်း၊ မထေရ်ကြီးဆရာ, အာမခံဆရာ, ကမ္မဝါဆရာ, ရှင်ပြုရာ သရဏဂုံပေးသောဆရာတို့၌ ပြုရာသောဝတ်နီဗဒ်ကို မလစ်မလပ် မပြတ်ပြုမိစေခြင်း၊ သတိလစ်လပ် မအားလပ်၍ အငါးခပ်သိမ်း မပြုစွမ်းနိုင်လျှင် ၎င်းဆရာတို့ထံ ဝတ်နီဗဒ် လစ်လပ်သည့်အရာများကို သနားခွင့်ပြုတော်မူပါဟု ခွင့်ပန်လျှောက်ထား၍နေရခြင်း၊ ရေချမ်းတော်, ပန်းတော်စသော မိမိစွမ်းနိုင်ရာ တခုခုသော ဝတ်နီဗဒ်တို့ကို နေ့စဉ်မပြတ်စေရ၊ စေတိယင်္ဂဏ, ဗောဓိယင်္ဂဏဝတ်တို့ကို အမြဲအားထုတ်ပြုစုခြင်း၊ ချင်းတို့ချင်း ကတောက်ကဆတ် ခိုက်ရန်ဖြစ်ကြောင်း မကောင်းသောစကားတို့ကို မပြောမဆိုမိအောင် အထူးသတိပြုခြင်း၊ မလိမ်မာလှသည့် ပုဂ္ဂိုလ်တို့က ငေါက်ငမ်းပြောဆို ခံရသည့်အခါမှာ ငေါက်လျှင်ငေါက်ချင်း, အော်လျှင်အော်ချင်းတို့ကို မဖြစ်စေသဖြင့် ဆိတ်ဆိတ်သည်းခံသဖြင့် ဆရာမထေရ်ကြီး, ပုဂ္ဂိုလ်ကြီးများထံ၌သာလျှင် အကြောင်းခြင်းရာကို တိုင်ကြားလျှောက်ထား ပြောဆိုလေ့ရှိခြင်း၊ ယင်းသို့သည်းမခံ လှန်ပြန်ပြောဆိုရှိလျှင် ၂-ဦးလုံးကိုပင် အာမခံဆရာတို့က ဒဏ်နှိနှာအောင် ပေးရခြင်း၊ အကြောင်းထူးဂိသေသမရှိပဲ သူတပါးတိုက်ခန်းသို့ မလယ်မပတ်မသွားမလာရခြင်း၊ အကြောင်းကိစ္စမရှိပဲ ၃-ပါး, ၄-ပါးစု၍ စကားတပြောပြောမနေထိုင်ရခြင်း၊ မိမိနှင့်စပ်လျဉ်း၍ တပည့်သူငယ်လက်ခံလိုလျှင် အထက်ဆရာကြီးထံ ခွင့်ပန်လျှောက်ထား၍ အခွင့်ရသည့်အခါ တိုက်အုပ်, တိုက်ကြပ် ပုဂ္ဂိုလ်တို့ထံ အပ်နှံလျှောက်ထား၍ သူတော်ငယ်ပြုလုပ်စေပြီးလျှင် သူတော်ငယ်တို့ကို အုပ်ထိန်းဆုံးမသူဆရာ့ထံ ဘိတ်မန်လျှောက်ထား၍ ငါ့တပည့်,သူ့တပည့်ဟု ကေလာယန စွဲလမ်းခြင်း အားမကြီးစေရ၊ သံဃာတော်, ဘုံတပည့် အမှတ်နှင့်ထား၍ သံဃာတော်တို့ ဆုံးမပြောဆိုတိုင်း, သုံးစွဲစေခိုင်းတိုင်း ဝမ်းမြောက် ဝမ်းသာရှိနိုင်မှ တပည့်သူတော်ငယ်တို့ကို လက်ခံမွေးမြူခြင်း၊ ရှင်ပြုသောအခါ၌လည်း ဆယ့်ငါးနှစ်, ဆယ့်ခြောက်နှစ်အချိန်လိမ်မာလောက်သော အရွယ်ရောက်မှ ငြိမ်သက်သော ရှင်သာမဏေတို့ဣန္ဒြေနှင့် ကောင်းမွန်စွာ နေနိုင်ဟန်ထင်မှ ဆရာမထေရ်ကြီး, သံဃာ့ထေရ်ပုဂ္ဂိုလ်ကြီးတို့ သဘောတူမှ လိင်, ဒဏ်, သေခိယစသော ရှင်ကျင့်ဝတ်ပဋိပတ်တို့ကို နှုတ်တက်အာဂုံရ၍ သရဏဂုံကို ဌာန်, ကရိုဏ်း, နိဂ္ဂဟိတန္တ, မကာရန္တ, သိထိလ, ဓနိတ ပီသအောင် သင်ပြီးမှ အာမခံဆရာရှိမှ ရှင်သာမဏေပြုစေရခြင်း၊ ရှင်သာမဏေပြုပြီးနောက် ခုနစ်ရက်ပတ်လုံး အာမခံဆရာက ဝတ်နည်း, ရုံနည်း, ဆွမ်းစားနည်းတို့ကို အသေအချာ ကြပ်မကြည့်ရှု ဆုံးမပဲ့ပြင်၍ လိမ်မာယဉ်ကျေးပြီးမှ ဆွမ်းစားကျောင်း ရှင်သာမဏေ အပေါင်းအဘော်တို့နှင့် အတူတကွစားစေရခြင်း၊ မိမိတပည့် ရှင်သာမဏေငယ်တို့ကို လွန်စွာခင်မင်စွဲလမ်းခြင်း သတ္တကေလာယနမရှိစေပဲ ယခင်သူတော်ငယ်ကဲ့သို့ အလုံးစုံ သံဃာတော်တို့ ဘုံတပည့်အမှတ်နှင့်သာ အာမခံဆရာ, သံဃာ့ထေရ်ပုဂ္ဂိုလ်တို့ထံ အလုံးစုံအပ်နှံထားသာဖြင့် သံဃာကြီး,ငယ် အလုံးစုံတို့ စေခိုင်းဆုံးမပြောဆိုသမျှကို ဝန်တိုဣဿာ မသဒ္ဓါသော အမူအရာ မထင်စေရ၊ ကြည်လင်သဒ္ဓါ ဝမ်းမြောက်ဝမ်းသာ ရှိနိုင်မှသာ ရှင်သာမဏေတပည့် လက်ခံမွေးမြူခြင်း၊ ၎င်းရှင်သာမဏေတို့မှာ တလလျှင် ၄-ကြိမ်, ၈-ကြိမ် လိင်ပြန်ဒဏ်ထမ်းစေရခြင်း၊ အရပ်တပါး စာသင်ပြောင်းသွားလိုသော ပုဂ္ဂိုလ်သည် အာမခံဆရာနှင့် ရှေးဦးစွာတိုင်ပင်နှီးနှောပြောဆိုလျှောက်ထားပြီး၍ တိုက်အုပ်, တိုက်ကြပ် ပုဂ္ဂိုလ်တို့ထံ လျှောက်ထားပြီးမှ ဆရာမထေရ်ကြီးထံလျှောက်ထားရခြင်း၊ ဆရာမထေရ်ကြီးက အကျိုးစီးပွါးများလောက်သည်ဟု ညွှန်ကြားရာအရပ်ကိုသာ သွားလာရခြင်း၊ သွားလာအံ့သည့်အခါ အာမခံဆရာ, သံဃာ့ထေရ်ပုဂ္ဂိုလ်တို့ကို အကျွန်ုပ်၌

အပြစ်ကြီးငယ်ရှိသမျှကို သည်းခံတော်မူပါ၊ မတော်မလျော် နေထိုင်သည်များကို ကြားသိလျှင် အကျွန်ုပ်အား သနားသဖြင့် အဝေးအနီးမဆို ထိုထိုနေရာအရပ်သို့ မှာထားဆုံးမတော်မူလိုက်ပါ စသည်ဖြင့် ရိုသေစွာ လျှောက်ထား၍ အလုံးစုံသံဃာကြီးငယ် ဟူသမျှကို ပဋိသန္ထာရ အစေ့အစပ်ပြုပြီးမှ မေတ္တာစိတ်ကို ရှေ့ရှုထား၍ သွားလာရခြင်း၊ ငါးဝါမပြည့်၊ ဒွေမာတိကာ မရသည်ဖြစ်၍ နိဿယမုစ္စကအင်္ဂါနှင့် မပြည့်စုံခင် ဆရာအမှီကင်း၍ မနေထိုင်ပါ၊ ပရိယတ်မွေးမြူလောက်သော ဆရာ့အင်္ဂါမရှိပဲလျက် တပည့်ပရိယတ်မွေး၍ ကျောင်းသီး ကျောင်းခြားမနေထိုင်ပါ စသည်ဖြင့် ဆရာမထေရ်ကြီးထံ အာမခံလျှောက်လွှာပေးရင်းအတိုင်း နေရာကျအောင် အထူးသဖြင့် အားထုတ်ပြုကျင့်ကြရမည်။ ။ဋ္ဌင်းကျင့်ဝတ်အတိုင်း ကျင့်ဆောင်နိုင်မှ ဤငါတို့ဂိုဏ်းအတွင်း သီတင်းသုံးနေကြရမည်။ ။ဤကား တိုက်သားပုဂ္ဂိုလ်ကြီးငယ်တို့ ကျင့်ရာသော ဥပဒေနည်းတည်း။

---

## ၁၇-ကျောင်းနေပုဂ္ဂိုလ်တို့ ကျင့်ရာသော ဥပဒေ

မိမိကျောင်း၌ နေကုန်သော ပုဂ္ဂိုလ်တို့၌ ဆိုဆုံးမရန်ရှိသည်များကို တရားနှင့်အညီ ဆုံးမပြောဆိုခြင်း၊ ဆိုဆုံးမ၍ မနိုင်သူတို့ကို အာမခံဆရာ, တိုက်အုပ်, တိုက်ကြပ်ဆရာတို့ထံ လျှောက်ထားပြောကြားခြင်း၊ မိမိကျောင်းတွင်နေသော ပုဂ္ဂိုလ်သို့ အကြောင်းမရှိပဲ တခန်းနှင့်တခန်း မကူးသန်းကြရအောင်, အလွတ်စကားပြောဆို၍ မနေကြရအောင် ကြည့်ရှုခြင်း၊ စာပေသင်အံ သရဇ္ဈာယ်နိုင်ခြင်း၊ အိပ်ရာထကရဒက်, နဝကမ္မကရဒက် စသည် ခေါက်သည့်အခါ ကျောင်းလုံးပါလာအောင် နှိုးဆော်ကြပ်မ ကြည့်ရှုခြင်း၊ မိမိကျောင်း၏အနီးအပါး အမှိုက်မြက်သစ်ပင် မရှိစေရအောင် သုတ်သင်ရှင်းလင်းစေခြင်း၊ ကျိုးသည် ပျက်သည်ကို ပြင်ဆင်ပြုပြင်စေခြင်း၊ မိမိကျောင်း၌ သူနာရဟန်းရှိလျှင် အထူးသဖြင့် ကြည့်ရှုပြုစုနိုင်ခြင်း၊ အထူးသဖြင့် ငြိမ်သက်သောဣန္ဒြေရှိခြင်း စသည်တည်း။ ။ဤကား ကျောင်းနေပုဂ္ဂိုလ်ကြီးတို့ ပြုကျင့်ရာသော ဥပဒေနည်းတည်း။

---

## ၁၈-သူနာရဟန်းတို့၌ ပြုကျင့်ရာသော ဥပဒေ

ပြောပလောက်အောင် နာဖျားမကျန်းရှိသည့်အခါ အာမခံဖြစ်သူတို့က အထူးအာရုံပြု၍ ကြည့်ရှုခြင်း၊ ရောဂါမဆုတ် တိုးတက်အံ့ထင်လျှင် တိုက်အုပ်, သံဃာ့ထေရ်ပုဂ္ဂိုလ်ကြီး, ဆရာမထေရ်ကြီးထံ လျှောက်ထားခြင်း၊ သံဃာ့ထေရ်ပုဂ္ဂိုလ်ကြီးတို့က ဆေးသမားလက်သည်တို့ကို ခေါ်သင့်သည့်အခါ ရောက်လျှင် ခေါ်ကုစေ၍ ဆရာမထေရ်က သံဃာတော်တို့ကို လျှောက်ပတ်အောင် ပန်ကြားလျှောက်ထား၍ ဆေးသမားလက်သည်တို့အား ကပ္ပိယ ကာရကတို့ကို စေခိုင်းခေါ်ငင်သဖြင့် ဆုချချီးမြှောက်ရခြင်း၊ ဆေးဝါးတိုက်သူ, ယာဂုဆွမ်းပေးသူ လူငယ်, ရှင်ငယ် အမှန်ထား၍ လူနာတို့အား ချီးမြှောက်ရခြင်း၊ တိုက်သားဖြစ်သူ ရဟန်းငယ်, သာမဏေငယ်တို့ကလည်း သူနာကိစ္စနှင့်စပ်၍ ဖြစ်ပေါ်လာသမျှ အမှုမျိုးကို သနားကြင်နာသောစိတ်ဖြင့် မေတ္တာရှေးရှု ဝန်းဝိုင်းကြည့်ရှု ပြုစုရခြင်း၊ သူနာအများဖြစ်၍ တခွဲတခြား ပြုစုစက်သော် သပ္ပါယဖြစ်ရာ တခုခုသောကျောင်း၌ ပေါင်းစုနေစေ၍ အညီအညွတ် ကြည့်ရှုပြုစု ချီးမြှောက်ရခြင်း၊ သတိလစ်လပ်၍ ဆရာသံဃာတို့ အာပတ်မသင့်ရအောင် သံဃာသဘောတူ

ဂိလာနုပဋ္ဌာကပုဂ္ဂိုလ် အမြဲထားရခြင်း၊ ၎င်းပုဂ္ဂိုလ်က အထူးသတိပြု၍ ပြုစုရခြင်းစသည်တည်း။ ။ဤကား ဂိလာနရဟန်း၌ ပြုရသော ဥပဒေနည်းတည်း။

---

## ၁၉-အာဂန္တုကရဟန်းတို့၌ ပြုရသော ဥပဒေ

မိမိ၏ထံ အာဂန္တုကရဟန်း ဆိုက်ရောက်လာလျှင် ခရီးဦးကြိုဆို၍ အရိုအသေ ပုဆစ်, ဒူး, နဖူး မြေကျရှိခိုးဝပ်ချရခြင်း၊ သောက်ရေပေးခြင်း၊ သောက်ရေတည်ခြင်း၊ ပဋိသန္ထာရစကားတို့ကို အရိုအသေ ပြောဆိုပြီးသည့်နောက် သက်ရှယ်ရင့်ပြီး မထေရ်ကြီးဖြစ်၍ ညောင်းညာပင်ပန်းအံ့ထင်လျှင် အာဂန္တုက ဝတ်ပြုနေကျ ပုဂ္ဂိုလ်တို့က ကိုယ်တိုင်သော်၎င်း, ပဥ္စင်းငယ်တို့ကိုသော်၎င်း ခြေလက်ဆုပ်နယ် ဝတ်ကြီး ဝတ်ငယ်ပြုခြင်း, ပြုစေခြင်း၊ ကာလအခါရောက်လာသော အာဂန္တုကပုဂ္ဂိုလ်တို့ကို အဝေးအနီးမဆို ထိုထို ရောက်လာသမျှ အာဂန္တုက ကြီး,ငယ်တို့အား ဆွမ်းလုပ်ကျွေးခြင်း၊ ဆွမ်းလုပ်ကျွေးပြုစုလိုသော ပုဂ္ဂိုလ် တို့သည် ရေတံခေါင်း, လက်ဆေးခံ, လက်သုတ်ပုဝါ, ဆွမ်းစားပြီးနောက် သုံးဆောင်ရန် ဒန်ပူအသင့်ပြင် ဆင်ထားပြီးနောက် လျောက်ပတ်စွာ ဆွမ်းဟင်းပွဲကို ပြင်ဆင်လျက် စားပွဲတင်ဒေါင်းလန်း၌ ဆွမ်းစား ခွက်ကိုတင်၍ ရှိသေကောင်းမွန်စွာ ပြုစုလုပ်ကျွေးပြီးလျှင် နေ့သန့်စရာ အိပ်ရာတို့ကို ပြင်ဆင်ခင်းထား ပြီးမှ မိမိကျောင်းသို့ ဘဲသွားရခြင်း၊ အာဂန္တုက သောက်ရေခပ်သူ, ရေတံခေါင်းလဲသူ, ထွေးခံသွန်သူ, ကွမ်းဆေးကပ်သူတို့ကို သတိမလပ်စေရ အထူးနေရာကျအောင် သွန်သင်ဆုံးမခြင်း၊ အာဂန္တုကမထေရ် ကြီးကိုပန်၍ ဆီမီးထွန်းခြင်း, ဆီမီးငြိမ်းခြင်း, ပုစ္ဆာပြဿနာမေးလျှောက်ခြင်း, ပုစ္ဆာပြဿနာဖြေခြင်း, ဝစ္စကုဋီ·ပဿာဝကုဋီတို့ကို ညွှန်ကြားခြင်း စသော အာဂန္တုကဝတ်တို့ကို မလစ်မလပ်စေရခြင်း၊ တိုက်အုပ်, တိုက်ကြပ်, ထေရ်ကြီး ပုဂ္ဂိုလ်တို့လည်း လျောက်ပတ်သည့် အကွက်အခါကိုကြည့်၍ အာဂန္တုက မထေရ် ကြီးထံ ရံခါရံခါလာသဖြင့် ပဋိသန္ထာရပြုရခြင်း၊ သီတင်းငယ်ဦးပဥ္စင်း, သာမဏေတို့လည်း နေ့ညဉ့်မဆို လျောက်ပတ်သည့်အချိန်အခါကို ကြည့်ရှု၍ အာဂန္တုကမထေရ်ကြီးအား ခြေဆုပ်လက်နယ် ဝတ်ကြီး, ဝတ်ငယ်ပြုရခြင်း၊ အာဂန္တုကမထေရ်ကြီးတရားစကားဆုံးမရာ နာခံရခြင်းစသည်တည်း။ ။ဤကား အာဂန္တုကပုဂ္ဂိုလ်တို့၌ ပြုကျင့်ရသော ဥပဒေနည်းတည်း။

---

## ၂၀-ပဋိပတ္တိအရာ၌ ပြုကျင့်ရသော ဥပဒေ

တလလျှင် လေးသီတင်း, ရှစ်သီတင်း ဧကောသနိက်ဓုတင်, ပတ္တပိဏ္ဍိက်ဓုတင် စွမ်းအင်အလျောက် အားထုတ်ခြင်း၊ ခလုပစ္ဆာဓုတင်ကို နေ့စဉ်မပြတ်ကျင့်ခြင်း၊ အိပ်ရာထ ကရဒက်ခေါက်သည့်နောက် တဘန် လှည်း၍မအိပ်ပဲ နိသဇ်ဓုတင် နေ့စဉ်မပြတ် ဆောက်တည်ခြင်း၊ ဝိနည်းတိစီဝရိက်ကို အမြဲဆောင်၍ တိစီဝရိက်ဓုတင်မှာ တနှစ်လျှင် တဥတု, နှစ်ဥတုစွမ်းနိုင်သမျှ အချည်းနှီးမလွတ်ရအောင် အားထုတ်ရ ခြင်း၊ မိုးရိပ်, ဆီးနှင်းကင်းသည့်အခါ အရုဏ်မတက်မီအတွင်း ကျောင်းခန်းထဲက ထွက်သဖြင့် အမိုး ကင်းရာအရပ်တွင် အရုဏ်တက်စေ၍ အဗ္ဘောကာသိကဓုတင်, ရုက္ခမူဓုတင်အကျင့်ကို ဆောက်တည်ခြင်း၊ ဒွတ္တိံသာကာရ, အသုဘဘာဝနာ, လက္ခဏာရေး ကမ္မဋ္ဌာန်းတို့ကို တတ်စွမ်းသည့်အလျောက် အချည်းနှီး မလွတ်စေရအောင် အာမခံဆရာ, အထက်ဆရာကြီးတို့ထံဝန်ခံ၍ နေ့စဉ်မပြတ်မလပ်စေရ ကြိုးပမ်းအား

ထုတ်ခြင်း၊ ၀ိသေသအထူး ကမ္မဋ္ဌာန်းကို နေ့ညဥ့်မပြတ် အားထုတ်လိုသောပုဂ္ဂိုလ်အား အလုံးစုံ သံဃာ့ကိစ္စ, နဝကမ္မဟူသမျှတို့၌ ယထာသုခ နေခွင့်ရအောင် အခွင့်ပေးခြင်း၊ အထူးချီးမြှောက်ခြင်း စသည်တည်း။ ။ဤကား ခုတပခေန ပဋိပတ္တိအရာ၌ ကျင့်ရသော ဥပဒေနည်းတည်း။

ပဗ္ဗဇိတဒုလ္လဘကို ရကြသည်အခိုက် ယုတ်သောအပိုင်းအခြားအားဖြင့် ဤမျှလောက်ကိုမှမကျင့် အမှတ်မဲ့နေသသူမှာ အခြားတိုက်တာ အရပ်တပါး ပျော်ရာသွားကြရမည်။

ဤဆိုအပ်ပြီးသော နှစ်ဆယ်အတိုင်းအရှည်ရှိသော ဝတ်တို့ကို သဒ္ဓါသမ္ပန္န ကုလပုတ္တ အမျိုးကောင်းသားတို့သည် သကျပုတ္တ မဟာသမဏဝံသီ ညီညွတ်သောကိုယ်စိတ် ရှိကုန်သည်ဖြစ်၍ ကြည်လင်ရွှင်လန်း ဝမ်းမြောက်ဝမ်းသာ ညီညာဖြဖြ အားထုတ်ကျင့်ဆောင် နိုင်ကြစေကုန်သတည်း။

နောက်အဆက်ဆက် သူတော်ကောင်း အမျိုးသားတို့အား ဒိဋ္ဌာနုဂတိအကျိုးကို
မြှော်ကိုးတောင့်တသဖြင့် ရေးသားစီရင်အပ်သော

ဩဝါဒအကျင့်ဝတ်ဥပဒေနည်း ဤတွင်ပြီး၏။

---

### စွမ်းအားလျော်စွာ အားထုတ်ရာသော သမထ,ဝိပဿနာနည်း

ဤ ငါ၏ခန္ဓာကိုယ်၌ တစုံတခု အဏုမြူမျှ တွယ်တာအပ်သော သဘောမရှိ၊ ဆံပင်,အမွေး။ပ။ ဦးနှောက်၊ သုံးဆယ့်နှစ်ပါးသော စက်ဆုပ်ရွံရှာဘွယ်သော အစုမျှသာဖြစ်၏၊ ဤသုံးဆယ့်နှစ်ပါးသော အစုသည်လည်း တလုံးတခဲ တပေါင်းတစည်းတည်းမဟုတ် မဟာဘုတ်, ဥပါဒါရုပ်နှစ်ပါး အဘို့ရှိ၏၊ ကြမ်းတမ်းခြင်း လက္ခဏာရှိသော ပထဝီဓာတ်, ပျောင်းဘွဲခြင်း-အာပေါဓာတ်, အရှိန်အစော်တည်းဟူသော တေဇောဓာတ်, လွင့်ပါးခြင်း လက္ခဏာရှိသော ဝါယောဓာတ်, မြင်အပ်ခြင်း-ရူပါရုံ, အနံ့နံခြင်း-ဂန္ဓာရုံ, သာယာအပ်ခြင်း-ရသာရုံ, တွေ့ခြင်း-ဖောဋ္ဌဗ္ဗာရုံ၊ ဤသို့အစရှိသော ရုပ်တရားတို့၏ အပေါင်းအစုမျှသာ ဖြစ်၏။

ငင်းရုပ်တရားအပေါင်းအစုသည်လည်း ဤခန္ဓာကိုယ် ပရမာဏုမြူမျှသော အရိုးအသားဗ္ဗသော်လည်း အရာအထောင်မကသော ကမ္မဇရုပ်, စိတ္တဇရုပ်, ဥတုဇရုပ်, အာဟာရဇရုပ်, ကမ္မသမုဋ္ဌာနဥတုဇရုပ်, စိတ္တသမုဋ္ဌာနဥတုဇရုပ်, အာဟာရသမုဋ္ဌာနဥတုဇရုပ် အစရှိသော သမုဋ္ဌာနရုပ် အပေါင်းအစုမျှသာဖြစ်၍ ရထရေဏုမြူမှုန့်လောက်ရှိသော အရိုးအသားစိုင်တခု၌ အကုဋေအသင်္ချေမက မရေမတွက်နိုင်သော ရုပ်တရားအစုမျှဖြစ်၍ တလုံးတခဲတည်းမဟုတ် ငင်းရုပ်တရားအစုတို့သည်လည်း ကံ,စိတ်,ဥတု,အာဟာရ တရား လေးပါးတို့သည် အဘန်ဘန်ပြုပြင်အပ်သည်ဖြစ်၍ အဘန်တလဲလဲ ထပ်၍ထပ်၍ ဖြစ်၍ဖြစ်၍ ပျက်ကြကုန်၏၊ တကြိမ်တကြိမ်ဖြစ်သော မရေတွက်နိုင်သော ရုပ်တို့သည် စိတ္တက္ခဏ တဆယ့်ခုနစ်ချက်မျှသာ ကာလအရှည် တည်ကုန်သည်ဖြစ်၍ မျက်စိတမှိတ်, လျှပ်တပြက်အတွင်း၌ အကြိမ်ပေါင်း အရာအထောင်မက ထပ်၍ထပ်၍ ဖြစ်၍ဖြစ်၍ အသစ်အသစ်လည်း၍ ပျက်ကြလေကုန်၏။

ထိုမျှကလောက် ဆောလျင်စွာ ပျက်စီးသည်ဖြစ်၍ မမြဲသည်ဖြစ်ရကား အနိစ္စ၊ ထိုသို့ပျက်စီးခြင်းဖြင့် ဘောက်ပြန်နှိပ်စက်အပ်သည်ဖြစ်၍ ဆင်းရဲရကား ဒုက္ခ၊ ၎င်းဒုက္ခအစုတို့၏ တလုံးတခဲတည်းမဟုတ် ဆိုအပ်ခဲ့ပြီးသော ရုပ်မှုန့်အပေါင်းတို့၏ အသီးအသီးသဘောအားဖြင့် တစုတစုစီ တကွဲတခြားစီဖြစ်ရကား လုံးလုံးလျောင်းလျောင်း ကိုယ်ကောင်ဟူသည်, ငါဟူသည် တစုံတခုမျှမရှိရကား အစိုးမရ, ကိုယ်မဟုတ်သည်ဖြစ်၍ အနတ္တ၊ ဤသို့ အနိစ္စ, ဒုက္ခ, အနတ္တ အစုမျှသာဖြစ်၏၊ နိဿတ္တ နိဇ္ဇီဝ, အဗျာပါရမျှသာ ဖြစ်၏။

ဤရုပ်တရားတို့ကို ဤ ယခုအောက်မေ့၍ အာရုံပြု၍ ဝိပဿနာရှုသော တရားအပေါင်းသည်လည်း အာရုံ၌ညွတ်ခြင်း-နမန သဘောရှိသောကြောင့် နာမ်တရားမည်၏၊ ဤနာမ်တရားအပေါင်း၌ အာရုံကိုညွတ်ကာမျှသော သဘောသည် ဝိညာဏက္ခန္ဓာ၊ အာရုံကိုသုံးဆောင်ခြင်း ခံစားခြင်းသဘောသည် ဝေဒနာက္ခန္ဓာ၊ အမှတ်ပြုခြင်းသဘောသည် သညာက္ခန္ဓာ၊ ဤရုပ်တရားတို့၌ မတပ်ခြင်း, မပြစ်မှားခြင်း, မတွေဝေခြင်း, ကြည်လင်စွာအောက်မေ့ခြင်း, တည်ကြည်ငြိမ်သက်ခြင်း အစရှိသော တရားအပေါင်းသည် သင်္ခါရက္ခန္ဓာ၊ ဤ နာမက္ခန္ဓာလေးပါး အပေါင်းအစု ဖြစ်၏။

ဤ နာမက္ခန္ဓာလေးပါးတို့သည်လည်း ရှေးဘဝ၌ ဖြစ်လေပြီးသော အဝိဇ္ဇာ, တဏှာ, ဥပါဒါန်, ကံ, သင်္ခါရတို့သည် အဘန်တလဲလဲ ပြုပြင်အပ်သည်ဖြစ်၍ ဤယခု အဘန်တလဲလဲ ဖြစ်၍ဖြစ်၍ ပျက်၍ပျက်၍ နေကြကုန်၏၊ မျက်စိတမှိတ်, လျှပ်စစ်တပြက်အတွင်း၌ အသိန်း, အသန်းမက လျင်သောအပြန် ရှိသည်ဖြစ်၍ အသစ်အသစ်လည်း၍ ပျက်၍ပျက်၍ နေကြကုန်သည်ဖြစ်၍ မမြဲရကား အနိစ္စ၊ ထိုသို့ပျက်ခြင်းဖြင့် နှိပ်စက်အပ်သည်ဖြစ်၍ ဆင်းရဲရကား ဒုက္ခ၊ ထိုနာမ်တရားအပေါင်း၏ တလုံးတခဲတည်းမဟုတ် ဆိုအပ်ခဲ့ပြီးသော များစွာသော သဘောတရားတို့၏ အစုအဝေးဖြစ်၍ ငါဟူသော, ကိုယ်ဟူသော အခြင်းအရာ စွဲလမ်းစရာ မရှိသည်ဖြစ်၍ ကိုယ်မဟုတ်ရကား အနတ္တ။

ဤသို့လျှင် ရူပက္ခန္ဓာ, နာမက္ခန္ဓာ အပေါင်းအစု အနိစ္စစု, ဒုက္ခစု, အနတ္တစုမျှသာတည်းဟု သတ္တ, ဇီဝ ငါ, သူတပါးဟူသည် မရှိ၊ တွယ်တာနှစ်သက် စုံမက်အပ်သော သဘောမည်သည် မရှိ၊ စင်စစ် စက်ဆုပ်ရွံရှာအပ်, ကြောက်အပ်, ငြီးငွေ့အပ်, လွတ်အပ်, စွန့်ပစ်အပ်သော သဘောတရား အစုမျှသာတည်း၊ ဤသို့သော သဘောတရား အစုမျှသာတည်း၊ ဤသဘော အစုမျှသာတည်း၊ ဤသာတည်းဟူ၍ သင်္ခါရုပေက္ခာဉာဏ်သဘောတိုင်အောင် ဆင်ခြင်အပ်၏။

ဤကား သမထ,ဝိပဿနာနည်း အကျဉ်းတည်း၊ ဤဆိုအပ်ခဲ့ပြီးသည့်အတိုင်း နှုတ်တက်အာဂုံပြု၍ အဘန်တလဲလဲ ကြိုးပမ်းအားထုတ်နိုင်ကြစေကုန်သတည်း။

သမထ ဝိပဿနာ နည်းအမြွက်နှင့်တကွ အာစရိယောဝါဒ နည်းအခန်း
ဤတွင်ခါးပတ် သတ်လတ်ပြီ။

"စိတ္တံ ဒမေထ မေဓာဝီ၊ စိတ္တံ ဒန္တံ သုခါဝဟံ"။—

ကျမ်းဂန်ဒေသနာ လာသည့်အတိုင်း အနမတဂ် သံသာစက်ဝယ် ပရပွက်ဆူ သပွတ်အူသို့ မည်သူဆရာ တယောက်မျှ ဆုံးမ၍မရ၊ ဂင်္ဂါဝါလုမက ဘုရားအဆူဆူ ချွတ်ယူမဖြစ်၊ အမုန်ယစ်သော တောဆင်ပေါက်ပမာ လွန်စွာရုန့်ကြမ်းသော စိတ်မိုက်စိတ်ကြမ်း စိတ်သော့သွမ်း စိတ်လေပွေနှောက်သို့သာ သူထက်ငါ လိုက်စား မိုက်မှားကြ၍ "ဥဒ္ဓံ ယာဝ ဘဝဂ္ဂါ စ၊ အဓော ယာဝ အဝီစိ" တိုင် သူထက်ငါအပြိုင် ပရပိုင်ညွန်အစစ်မှာ နစ်သည်ထက်နစ်ကြအောင် အဆိပ်ကိုစားမှားသောသူ, ဆွဲမူ၍သေသောသူအလား ကိုယ်၏ဒုက္ခကို ကိုယ်ရှာမှားစေတတ်သော ကောဓ, ဥပနာဟ, ပါပိစ္ဆာ, မဟိစ္ဆာ, အတြိစ္ဆာ, လာဘသိလောက, ဂရဟာ, ဝမ္ဘနာ, အက္ကောသနာ, ခိပနာ စိတ်ယုတ်မာတို့ကို ပယ်ခွါတွန်းသတ်၍ သောဝစဿတာမင်္ဂလာ တပည့်တို့အင်္ဂါနှင့်ညီစွာ ဆရာဆုံးမအပ်သည့် ဥပဒေနည်းအတိုင်း နောင်သိဿာနုသိဿ တပည့်စဉ်ဆက် မပျက်စေရ၊ နတ်တို့သုဓာ နတ်ဩဇာကို နတ်ဒေဝါတို့ မမုန်းနိုင်သကဲ့သို့ ဆရာ့နည်းနာ ဆရာ့ဩဇာ ဆရာ့လက်သုံး ဆရာစဉ်ဆက်တို့ထုံးကို နှလုံးကြပ်ကြပ် မပြတ်ထားနိုင်ကြပါစေကုန်သတည်း။

---

စာရိတ္တအဆုံးအမ

(၁) စကားပြောကျယ်, အရယ်ကျယ်, အခေါ်ကျယ်, အချေကျယ်, အသမ်းကျယ်၊ ကျယ်ငါးပါးကို ပယ်ရမည်။

(၂) စကားများ, အရယ်များ, အအိပ်များ, အစားများ, နဝကမ္မများ, ပစ္စည်းဆည်းစုများ, ရှင်ငယ် လူငယ်တို့နှင့် ရောနှောများ, အလယ်အပတ်များ၊ များရှစ်ပါးကို ပယ်ရမည်။

(၃) အစားကြမ်း, အအိပ်ကြမ်း, အသွားကြမ်း, အထိုင်ကြမ်း, အရယ်ကြမ်း, စိတ်ကြမ်း, ကိုယ်ကြမ်း, နှုတ်ကြမ်း, အဆုံးမကြမ်း၊ ကြမ်းကိုးပါးကို ပယ်ရမည်။

အစားကြမ်းမှာ လက်များစွာနှင့် ဟင်းခွက်ကိုနှိုက်ခြင်း, ရှူးရှူးရှဲရှဲ အသက်ရှူ၍ စားခြင်း, ဟင်းရည် ဟင်းဖတ်ကို အတိုင်းအရှည်မသိ အစားကြီးခြင်း, စကားတပြောပြော စားခြင်း၊ ဝက်သား ကြက်သား ငါး အမဲကို လွန်စွာစုံမက် အချက်အဝယ်ခိုင်း၍ ရှာကြံခြင်း, လက်ဘက်အုပ် လဘက်ရည် ထွေထွေလာလာ ရှာကြံစားသောက်ခြင်း စသည်တည်း၊ အအိပ်ကြမ်းမှာ နေ့ကိုင်နေ့ရန်းကိုချ ကိုယ်ဝတ်သင်းပိုင်မျှနှင့် အိပ်ခြင်း, ဒူးထောင်ပေါင်ကား အိပ်ခြင်း, ဟောက်၍အိပ်ခြင်း စသည်တည်း၊ အသွားကြမ်းမှာ အလွန်မြန်စွာသွားခြင်း, တောင်မြောက်ကြည့်ရှု လျှပ်ပေါ် လော်လည်သွားခြင်း, ကြမ်းနင်းပြင်းခြင်း, လှေကား အဆင်းအတက် မြန်ခြင်း စသည်တည်း၊ အထိုင်ကြမ်းမှာ မြူမှုန် ဖုန်သလဲရှိရာ အခင်းမပါ နေထိုင်ခြင်း, မရှိမသေနေထိုင်ခြင်း, သီတင်းငယ်တို့ကို တိုးဝှေ့တိုက်ခိုက်နေထိုင်ခြင်း စသည်တည်း၊ အရယ်ကြမ်းမှာ လက်ခုပ်လက်ဝါးတီး၍ ရယ်ခြင်း, ခစ်ခစ်မြည်အောင်ရယ်ခြင်း, ဟီးလား ဟားလားအသံဖြင့် ပြင်းစွာ ရယ်ခြင်း စသည်တည်း၊ စိတ်ကြမ်းမှာ စိတ်အလွန်တိုခြင်း, ရန်ငြိုးကြီးခြင်း, ငြူစူစောင်းမြောင်းခြင်း, သူတပါးတို့အား မကောင်းကြံခြင်း စသည်တည်း၊ ကိုယ်ကြမ်းမှာ သီတင်းသုံးဘော်တို့ရှေ့ မရှိမသေ ထိုင်

ထ သွား လာခြင်း, မကုန်း မကိုင်းနိုင်ခြင်း, ပုဆစ် ဒူး နဖူးမြေကျ ဝပ်မချနိုင်ခြင်း စသည်တည်း၊ နှုတ်ကြမ်းမှာ မိုက် မဲ ခွေး ဝက် မြည်တွန်ခြင်း, ရဟန်းတို့နှင့် မလျောက်ပတ် ပုံကြမ်းစကား ပြောဆိုခြင်း စသည်တည်း၊ အဆုံးမကြမ်းမှာ ရိုက်နှက်ပုတ်ခတ်၍ ဆုံးမခြင်း, ကာလဌာန မငဲ့မလင့် ဆုံးမခြင်း, ဒေါသ, မာန်မာနနှင့် ဆုံးမခြင်းစသည်တည်း။

---

ကြည်ညိုဘွယ်သော ကိုယ်,နှုတ်အမူအရာကို ပြုခြင်း၌ အကျိုးငါးပါး—

(၁) မိမိကိုယ်ကို မစွပ်စွဲရခြင်း၊

(၂) သီတင်းသုံးဘော်တို့ ကြည်ညိုချီးမွမ်းခြင်း၊

(၃) သတင်းကောင်းထွက်ခြင်း၊

(၄) မတွေမဝေသေခြင်း၊

(၅) သေလျှင် နတ်ရွာသုဂတိသို့ လားရခြင်းတည်း။

---

ကြည်ညိုဘွယ်သော ကိုယ်, နှုတ် အမူအရာ မရှိခြင်း၌ အပြစ်ငါးပါး—

(၁) မိမိကိုယ်ကို မိမိစွပ်စွဲရခြင်း၊

(၂) သီတင်းသုံးဘော်တို့ ကဲ့ရဲ့ခြင်း၊

(၃) မကောင်းသတင်းပျံ့နှံ့ခြင်း၊

(၄) တွေတွေဝေဝေ သေရခြင်း၊

(၅) သေလျှင် အပါယ်လေးပါး သွားရခြင်းတည်း။

ဆရာသမားထံ ဆုံးမခံ၍ လဇ္ဇီသဘောကို အတန်အရာရ၍ လဇ္ဇီပုဂ္ဂိုလ်ပင် ဖြစ်ကြစေကာမူ ၎င်းအကျဉ်းအားဖြင့် ပြအပ်ခဲ့ပြီးသော သူမကြည်ညိုဘွယ်တို့ကို ပယ်နိုင်ကြမှ သာသနာတော်ဝယ် ရဟန်းကောင်းတယောက် ဆိုစလောက်အောင် ဖြစ်နိုင်ကြမည် မှတ်။

[ဤကား စာရိတ္တ အဆုံးအမတည်း။]

---

ဂါရိတ္တအဆုံးအမ

ဝါရိတ္တ အဆုံးအမမှာကား ဤဆိုလတ္တံ့သည့်အတိုင်းတည်း—

(၁) အစိတ္တက, အဝိသယဌာနမှတပါး အားကြီးရှန့်ရင်းသော ဝီတိက္ကမ စေတနာဖြင့် အာပတ်ကို မလွန်မကျူးမိအောင် အထူးရှောင်ကြဉ်ပါမည် ဘုရား။

(၂) အာပတ်သင့်မှန်း သိလျက် တနံနက် တနေကုန် ဖုံးလွှမ်း၍မထား၊ အားလပ်စွမ်းနိုင်သည့်ခဏ၌ ဆောလျင်စွာ သုတ်သင်ပါအံ့ဘုရား။

(၃) အကပ္ပိယ, အစမ္မိယပစ္စည်း အသုံးအဆောင်မှန်း သိလျက် တနေ့တနံနက်မျှ သုံးဆောင် သိုမှီး စားသောက်ခြင်းကို မပြုရှောင်ကြဉ် စွန့်ပစ်ပါအံ့ဘုရား။

(၄) သီတင်းသုံးဘော်တို့အား ပြင်းထန်စွာ ဒေါသ, မာနစိတ်နှင့်တကွ ရုန့်ကြမ်းသောစကားတို့ဖြင့် အော်အင်ငေါက်ငမ်း ကြမ်းတမ်း ပုတ်ခတ် မပြုပါအံ့ဘုရား။

(၅) သီတင်းသုံးဘော်တို့အား ဝင့်ဝါ ပလွှား ဝါကား တတ်သည်၊ ပကာသနပြုချင်တတ်သည်၊ အလို ကြီးသည်၊ တွက်ချက်ခိုကပ်တတ်သည်၊ အလိုက်အလာ မသိတတ်သည်၊ လောဘကြီးသည်၊ ဒေါသ, မာနကြီးသည်၊ အစား, အအိပ်ကြီးသည်၊ စဉ်းလဲ ကောက်ကျစ်သည် စသည်ဖြင့် မျက်မှောက်မျက်ကွယ် မပြောမဆိုပါအံ့ဘုရား။

(၆) တိုက်အုပ်, တိုက်ကြပ်, မထေရ်ကြီးတို့ သဘောတူစီရင်ဆုံးမ၍ ပြီးပြီးသောအမှုကို မည်သို့တစုံ တခုမျှ အားမရသော, မနှစ်သက်သော အမူအရာကို မပြောမဆိုပါအံ့ဘုရား။

(၇) သစ်သီးခဲဘွယ်စသည် ဝေဘန်သော ဖလဘာဇက, ခဇ္ဇဘာဇက, အပ္ပမတ္တကဝိဿဇ္ဇက ရဟန်း တို့အား အဝေအခြမ်း မညီသည်, နည်းသည်, များသည်ဟု မဆို၊ မငြိုမငြင် သည်းခံစောင့်စည်း ပါအံ့ဘုရား။

(၈) နဝကမ္မပြုလုပ်ကြရာ မည်သူမလာသည်, မည်ဝါမလာသည် စသည်ဖြင့် မြည်တွန်တွက်ချက်ခြင်း ကို မပြု၊ ကိုယ်မှုတွက်ကို ကိုယ်သာ သူနောက်မကျရအောင် ရွက်ဆောင်အားထုတ်ပါအံ့ဘုရား။

(၉) အကြောင်းထူးဝိသေသ ကိစ္စမရှိလျှင် ဆွမ်းစားရာ ဆွမ်းစားကျောင်းပေါ်၌ စကားမပြောပါ၊ အကြောင်းရှိ၍ ပြောရလျှင်လည်း တိုးတိုးသက်သာ ပြောပါအံ့ဘုရား။

(၁၀) အကြောင်းကိစ္စမရှိလျှင် ရေခပ်သွားရာ, ရေချိုးသွားရာတို့၌ စကားတပြောပြောနှင့် မသွား၊ အဘော်ခေါ်၍ မသွားမချိုးပါ၊ သင့်ရာတရားကို နှလုံးထား၍ ဆိတ်ဆိတ်သွားချိုးပါအံ့ဘုရား၊

(၁၁) အကြောင်းထူးကိစ္စ မရှိလျှင် အကျိုးမဲ့ တကျောင်းမှတကျောင်း တခန်းမှတခန်း ကူးသန်း လည်ပတ်ခြင်းကို မပြု၊ အထူးသတိပြု၍ ရှောင်ကြဉ်ပါမည်ဘုရား။

(၁၂) ပြောပလောက်သောအကြောင်း ရောဂါမရှိလျှင် ညဉ့်စာအံ့တိတ်ကရဒက် မတီးမချင်း အလွတ် စကားမများ၊ စာအံ့ခြင်း, ပုတီးစိပ်ခြင်းတို့ကို ကြိုးစားအားထုတ်ပါမည်ဘုရား။

(၁၃) ပြောပလောက်သော ရောဂါအကြောင်းကိစ္စမရှိလျှင် ညဉ့်စာအံ့တိတ်ကရဒက် ခေါက်သည်မှ စ၍ အိပ်ကရဒက်ခေါက်သည်တိုင်အောင် တုံးလုံးလှည်း၍မနေ၊ ထိုင်လျက်လည်းမငိုက်ရအောင် ကြိုးစားအားထုတ်ပါအံ့ဘုရား။

(၁၄) ပြောပလောက်သော ရောဂါအကြောင်းမရှိလျှင် နံနက်အိပ်ရာထကရဒက် ခေါက်သည်မှစ၍ အရုဏ်လာသည်တိုင်အောင် လှည်း၍ မအိပ်မနေ၊ စကားမပြော ကြိုးစားအားထုတ်ပါအံ့ ဘုရား။

(၁၅) ပြောပလောက်သော ရောဂါအကြောင်းမရှိလျှင် ယုတ်စွ‌အဆုံး ဝါတွင်းအခါ တလလျှင် ရှစ်သီတင်း, ဝါပ လေးသီတင်း ကောသနိက် ခုတင်မြောက်အောင် ကျင့်ဆောင်ပါအံ့ဘုရား။

(၁၆) အထက်မထေရ်ကြီးမှစ၍ အောက် သဃ်နော သာမဏေငယ်တိုင်အောင် သီတင်းသုံးဘော်တို့ ဆိုဆုံးမသည့်အခါ စိတ်ဆိုးသောအမူအရာကိုမပြု အထူးသည်းခံပါအံ့ဘုရား။

(၁၇) အာမခံဆရာ့ထံ မကြာမကြာသွား၍ ဆိုဆုံးမရန်ရှိသည်များကို အားပါးမနာ ဆုံးမတော်မူပါဟု လျှောက်ထား၍ ဆုံးမခံပါအံ့ဘုရား။

(၁၈) အာမခံအပ်သော တပည့်တို့ကို မကြာမကြာ သွား၍၎င်း, ခေါ်၍၎င်း အဝတ်အရုံ, စားပုံသောက်ပုံ အလုံးစုံကို နေရာကျ ဆုံးမပြောဆိုပါမည် ဘုရား။

၎င်းဆိုအပ်ခဲ့ပြီးသော တဆယ့်ရှစ်ရပ်သော ပဋိညာဉ်ဝန်ခံချက်တို့တွင် တပါးတပါး ပျက်ခဲ့သော် အာယတိ သံဝရဖြင့် နွံနာအောင် ဒဏ်ထမ်းပါမည်ဘုရား။

သိက္ခာကာမ လဇ္ဇီပေသလ သီလဝန္တအစစ် ဖြစ်တော်မူသော ''ဇာဂရာဘိဓဇ သဒ္ဓမ္မဝံသ ဓမ္မသေနာပတိ အတုလာဓိပတိ သိရိပဝရ မဟာဓမ္မ ရာဇာဓိရာဇဂုရု'' တံဆိပ်နာမံတော်ရှိသော ရွှေကျင်ဆရာတော်ဘုရားကြီးသည် တရားဩဝါဒ ဟောပြထားတော်မူအပ်သော–

ဓမ္မဝိနယစာတမ်း ပြီး၏။

# ဒသမကဏ္ဍ

ပဲခူး ဝိနယစာပြန် အနှစ်တရာပြည့် အထိမ်းအမှတ်
အရညာဝါသီ ရွှေကျောင်းနိကာယ သမိုင်းအကျဉ်းချုပ်စာအုပ်ကို
ဒုလ္လဘဒါန ဓမ္မပူဇာအဖြစ် လှူဒါန်းကြသော
အလှူရှင်များစာရင်း

## အုပ်ရေ (၃၀) လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ကွယ်လွန်သူ ဦးလံဘား-ဒေါ်ကျင်မှုံတို့အား ရည်စူး၍ ဒေါ်ကျင်ကျင်၊ မောင် ဦးဟုတ်လှိုင်-ဒေါ်ကျင်ဆိုင်နှင့် သမီး-ဖြူဖြူလှိုင်၊ နီနီလှိုင်၊ စိန်စိန်လှိုင်၊ သား-မောင်သိန်းလှိုင်၊ မောင်ဌေးလှိုင် ညောင်ဝိုင်း (၁၇)လမ်း၊ ပဲခူးမြို့။

၂။ ကြခတ်ဝိုင်း သာသနာပြု အမျိုးသမီးများအသင်း ပဲခူးမြို့။

## အုပ်ရေ(၂၀) လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဦးသန်းထွန်း-ဒေါ်အေးအေး အမှတ်(၁၆) ဒေါ်ကြီးကြီးလမ်း၊ ကြည့်မြင်တိုင်၊ ရန်ကုန်။

၂။ ဦးသိန်း-ဒေါ်ခင်ခင် မိသားစု (၇၁) ၂၇-လမ်း၊ ရန်ကုန်မြို့။

၃။ ဦးခွါညို-ဒေါ်နှင်းအိ သား(သိန်း-ဆေးလိပ်ရုံပိုင်ရှင်)ဦးမြင့်သိန်း-ဒေါ်ကျင်မွှေး သားသမီးတစု အမှတ်-၃၁၊ ပန်းလှိုင်၊ ၂၁-လမ်း၊ ပဲခူးမြို့။

## စာအုပ်(၁၅)အုပ် လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဦးဘမောင်-ဒေါ်ပု သား-သမီး မောင်တင်အေး၊ မကျင်ပို့မမြသွယ်၊ မြေးများ မမြင့်မြင့်အေး။ မသန်းသန်းစိန်၊ မလှလှအေး အမှတ်(၅၂)၊ ၈-လမ်းထိပ်၊ ညောင်ဝိုင်း မြောက်ပိုင်း၊ ပဲခူးမြို့။

## စာအုပ်ရေ (၁၀)အုပ်လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဦးဘဖြိုး အမှူးထား၍ ဒေါ်လှမြိုင် သမီးများ-ညီမများ ၁၁-လမ်းထိပ်၊ ညောင်ဝိုင်း၊ ပဲခူးမြို့။

၂။ မိဘနှစ်ပါး အမှူးထား၍ မလှမြင့်နှင့် မောင်နှမတစု ။ ။ ။

၃။ ဦးမြမောင်-ဒေါ်ခင်သိန်း သား-မောင်မြသိန်း၊ သမီး မခင်မြဖြူ– အမှတ်(၇၄)၊ တပင်ရွှေထီးလမ်း၊ ပဲခူးမြို့။

၄။ ဦးဟုတ်ကြိုင်-ဒေါ်မြရင် သမီး-လှလှမြင့်(ဂျိကာ-ဆေးလိပ်ရုံပိုင်ရှင်)သွန်းဘုရားလမ်း၊ ပဲခူးမြို့။

၅။ ကြခတ်ဝိုင်း သာသနာပြု အမျိုးသားအသင်း ပဲခူးမြို့။

၆။ ဦးထွန်းစိန်-ဒေါ်မြခင်နှင့် သား-ဦးတင်အောင်၊ သမီး-ဒေါ်တင်ရီ မိသားစု – ပြည်တော်အေး၊ ၄-လမ်း၊ ပဲခူးမြို့။

၇။ ဦးကျော်လှိုင်-ဒေါ်မြ မိသားစု အမှတ်(၃၈)၊ သွန်းဘုရားလမ်း၊ ပဲခူးမြို့။

၈။ ဥက္ကံ မဟာနာယကဆရာတော်ဘုရားနှင့် တပည့် ဒကာ-ဒကာမများ ဥက္ကံရွာ၊ ပဲခူးမြို့နယ်။

၉။ ဦးထွန်းလှိုင်-ဒေါ်လှတင် အမှတ်(၃၃)၊ သွန်းဘုရားလမ်း၊ ပဲခူးမြို့။

၁၀။ ဦးအုန်း-ဒေါ်သန်းကြည် မိသားစု (၁၂)လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။

## စာအုပ် (၁၀) အုပ် လှူဒါန်းသော အလှူရှင်များစာရင်း

၁၁။ ဦးဟုတ်ချိန်း-ဒေါ်ဝင်း မိသားစု အမှတ်-၂၀၆၊ ၁၂-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၁၂။ ဦးသိန်း-ဒေါ်အေး၊ ကိုတင်ဝင်း-မသန်းဦး အမှတ်-၇၀၊ (၂၇)လမ်း၊ ရန်ကုန်မြို့။
၁၃။ ဦးအောင်သိန်း-ဒေါ်အေးကြည် မိသားစု (၁၂)လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၁၄။ ဦးလူဖေဝင်း-ဒေါ်ကြည်ကြည် အမှတ်-၂၇၊ ရွှေတိဂုံဘုရားလမ်း၊ ရန်ကုန်မြို့။
၁၅။ ဦးစံရင်-ဒေါ်ဝက် သား-သမီး-မြေးတစု (ဆင်နှစ်ကောင်ဘိနပ်ရုံပိုင်ရှင်) သွန်းဘုရားလမ်း၊ ပဲခူးမြို့။
၁၆။ ဦးအုန်းချို-ဒေါ်စောဥ သား-သမီး-မြေးတစု အမှတ်-၃၃၄၊ ဝက်ဘာလမ်း၊ ဇိုင်းဂနိုင်း တောင်ပိုင်း၊ ပဲခူးမြို့။
၁၇။ အမိ ဒေါ်အုန်းမြနှင့် ဦးကျော်လှိုင်-ဒေါ်ခင်နု မိသားစု(ပရိက္ခရာကုန်သည်) မင်းလမ်း၊ ဈေးပိုင်း၊ ပဲခူးမြို့။
၁၈။ ပဲခူး မြူနီစီပါယ်အုပ်ချုပ်ရေးမှူး ဒေါ်တင်အေးနှင့် သမီး-မြတ်မြတ်မော် ဈေးပိုင်း၊ ပဲခူးမြို့။
၁၉။ ဦးထွန်းရင်-ဒေါ်နှင်းမြတို့အား အမှူးထား၍၊ သား-သမီး-မြေးတစု ၁၀-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၂၀။ ဦးကြွယ်-ဒေါ်လှခင် အမှတ်-၄၉၂၊ ပြည်တော်သာ ၃-လမ်း၊ ပဲခူးမြို့။
၂၁။ ဦးလှမြင့်-ဒေါ်ကြည်ကြည် သား-မောင်ကျော်ဝင်း၊ မောင်ဇော်ဝင်း သူရအောင်၊မန္တလေးမြို့။
၂၂။ ဒေါ်အရှာ၊ ကိုစောဝင်း၊ မသိန်းကြွယ်၊ မသန်းကြွယ် မိသားစု မင်းလမ်း၊ ဇိုင်းဂနိုင်း တောင်ပိုင်း၊ ပဲခူးမြို့။
၂၃။ ဦးမောင်ခင်-ဒေါ်မြစိန် မိသားစု လိပ်ပြာကန် (၁)လမ်း၊ ပဲခူးမြို့။
၂၄။ ဦးလှဖေ-ဒေါ်သောင်းမေ မိသားစု (၂)လမ်း၊ ရွာသစ်၊ ပဲခူးမြို့။
၂၅။ ဦးနီ-ဒေါ်ခိုင် သား-သမီးတစု ခနာစုရပ်၊ ဖောင်တော်သီမြို့။
၂၆။ ဦးအေးမောင်-ဒေါ်မြကြည် သား-သမီးတစု ကတုတ် ကန်ညီနောင်ရွာ၊ ဒိုက်ဦးမြို့နယ်။
၂၇။ ဦးဦးခင်-ဒေါ်ရွှေ သား-ကျော်ရွှေဦး၊ ကျော်သန်းဦး၊ အောင်နိုင်ဦး၊ သမီး-ခင်ရွှေဦး၊ မာလာဦး၊ စန္ဒာဦး ပြည်တော်သာရပ်၊ ပဲခူးမြို့။
၂၈။ ဦးကျော်ဇောအား ရည်စူး၍ ဒေါ်တင်မြနှင့် သား-သမီးတစု ညောင်ဝိုင်း (၁၃)လမ်း၊ပဲခူးမြို့။
၂၉။ ဦးထွန်းရှိန်-ဒေါ်မြရွှေ အမှတ်-၃၉၅၊ အုန်းပင်တန်း၊ ပဲခူးမြို့။
၃၀။ ဦးခင်အောင်-ဒေါ်ခင်ရီ သား-သမီးတစု အမှတ်-၃၁၆၊ ရွှေမော်ဓောဘုရားလမ်း၊ ပဲခူးမြို့။
၃၁။ ဦးထွန်းရွှေ-ဒေါ်မြကြည် သား-သမီးတစု အမှတ်-၃၈၀၊ အုန်းပင်တန်း၊ ပဲခူးမြို့။
၃၂။ ဆရာဦးဘမောင် ဒေါ်အုန်းကြည် သားသမီးတစု (၈)လမ်း၊ ညောင်ဝိုင်းရပ်၊ ပဲခူးမြို့။
၃၃။ ဦးချစ်လှိုင်-ဒေါ်လှရွှေ သားသမီးတစု ဈေးအတွင်း သိမ်ဇရပ်မြို့သစ်၊ ကျိုက်ထိုမြို့နယ်။
၃၄။ ဦးကျော်သိန်း-ဒေါ်ညွန့်ညွန့် သား-သမီးတစု အမှတ်-၁၆၄၊ (ရွှေသို့ ဆေးလိပ်ရုံပိုင်ရှင်) ကမ္ဘာအေး၊ ရေကူး-ဘူတာလမ်း၊ ရန်ကုန်မြို့။
၃၅။ ဆရာကြီး ဒေါ်ကဥ္စနဝတီနှင့် တပည့်များ ရတနာမဉ္ဇူ သီလရှင်တိုက် ပဲခူးမြို့။

## စာအုပ် (၁၀) အုပ် လှူဒါန်းသော အလှူရှင်များစာရင်းအဆက်

၃၆။ ဦးသန်းထွန်း-ဒေါ်သန်း အမှတ်-၉၁၊ အနော်ရထာလမ်းနှင့် ဗိုလ်တထောင် ဘုရားလမ်းထောင့် အရှေ့ပိုင်းစာတိုက်၊ ရန်ကုန်မြို့။
၃၇။ ဦးအုန်းခင်-ဒေါ်ခင်ကျော့ မိသားစု(စိန် ဆေးလိပ်ရုံပိုင်ရှင်) လိပ်ပြာကန်၊ ပဲခူးမြို့။
၃၈။ ဦးသာထင်-ဒေါ်ငွေသင် ဖောင်ဝဲလမ်း၊ ဒိုက်ဦးမြို့။
၃၉။ ဒေါ်တုတ်၊ ဒေါ်ဖွားတုတ် မလေးစုရွာ၊ ဒိုက်ဦးမြို့နယ်။
၄၀။ ဓမ္မကထိက ကျိုက်ထိုင်းဆရာတော် ဦးဣန္ဒက သမိုင်း၊ ရန်ကုန်မြို့။
၄၁။ ဦးချစ်ဖေ-ဒေါ်ငွေရင် သား-မြေးတစု(ရွှေစကြာ ဆေးလိပ်ရုံ) ၂၅-လမ်း၊ ပန်းလှိုင်၊ ပဲခူးမြို့။
၄၂။ ဦးဘိုးခွေး-ဒေါ်ရှိ သမီး-ဒေါ်မူမူ၊ ဒေါ်ကြူကြူနှင့် သား-သမီး-မြေးတစု....
လိပ်ပြာကန် ၁-လမ်း၊ ပဲခူးမြို့။
၄၃။ ဒေါ်ညွန့်ရင်၊ ဒေါ်အေးကြည် မိသားစု လမ်း-၂၀၊ ဈေးပိုင်း၊ ပဲခူးမြို့။
၄၄။ မိုးကုတ် ကျောင်းအမကြီး ဒေါ်ဖုံ မိသားစု အမှတ်(၄၈)၊ သုခိတာခြံ၊ ဂွတ္တလစ်လမ်း၊ ရန်ကုန်မြို့။
၄၅။ ဒေါ်သိန်းခင် သား-သမီးတစု (နုမေတ္တာ ဘော်ဒီကုမ္ပဏီ) အမှတ်-၁၅(က)၊နတ်မောက်ရိပ်သာ၊ ရန်ကုန်မြို့။
၄၆။ ဦးကျော်ညွန့်-ဒေါ်မြခင် တိုင်း-လျှပ်စစ်မန်နေဂျာ ပုသိမ်မြို့။
၄၇။ သမင်သုံးကောင် ဆေးပေါ့လိပ်ရုံပိုင်ရှင်၊ ဦးတင်မောင်-ဒေါ်အုံး သား-သမီးတစု အမှတ် ၂၀၁၊ ကန်းနားလမ်း၊ ဇိုင်းဂနိုင်း မြောက်ပိုင်း-ပဲခူးမြို့။

## စာအုပ် (၇)အုပ်လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဒေါ်ခင်မြကြည် မိသားစု အမှတ်-၇၂၊ ၂၇-လမ်း၊ ရန်ကုန်။
၂။ ဦးထွန်းစိန်-ဒေါ်သန်းမြိုင် သမီး-မခင်တိုး၊မတင်တင်အေး မိသားစု ပန်းလှိုင်(၂၁)လမ်း ပဲခူးမြို့။
၃။ ဦးဘိုးဝေ-ဒေါ်သိန်းရှင် အမှတ်(၂၃၁)၊ ကျောက်ကြီးစု၊ ပဲခူးမြို့။
၄။ အငြိမ်းစားသံအမတ်ကြီး ဦးကြင်-ဒေါ်မြမေ မိသားစု အမှတ်-၈၆၊ နတ်မောက်လမ်း ရန်ကုန်။
၅။ ဒါယကာများ ကျိုက်ထို တောရကျောင်း ကမာမို့ရွာ၊ ချောင်းဆုံမြို့။
၆။ ဒေါ်စောမြိုင် အမှတ်-၁၀၂၊ အခန်း-၅၊ ရန်ကင်း၊ ရန်ကုန်မြို့။
၇။ ဦးထွန်းကြည် မိသားစု ဗိုလ်ချုပ်ရွှေ၊ အဝင်ရွာ၊ ရေးမြို့နယ်။

## စာအုပ် (၅)အုပ်လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဦးစံအုန်း-ဒေါ်ရွှေချိန် သမီး-ဒေါ်အုန်းရင် မိသားစု–
(ရတနာကုန်သည်) ကြည်တော်ကုန်း (၂)လမ်း၊ ပဲခူးမြို့။
၂။ ဒေါ်အမာ စိန်ရွှေရတနာကုန်သည် ညောင်ဝိုင်း (၁၂)လမ်း၊ ပဲခူးမြို့။
၃။ ဦးတင်-ဒေါ်ရင် မိသားစု အမှတ်-၃၇၁၊ ကျုံးရိုးတန်း၊ လိပ်ပြာကန်၊ ပဲခူးမြို့။

## စာအုပ်(၅)အုပ် လှူဒါန်းသော အလှူရှင်များစာရင်းအဆက်

၄။ ဒေါ်အုန်းတင် (၃၃)လမ်း၊ ပဲခူးမြို့။
၅။ ဒေါ်သန်းမြင့်၊ ဒေါ်သန်းရှင်၊ မခင်အေးမိ အမှတ်(၁၂၄)၊ ညောင်ဝိုင်း (၁၃)လမ်း၊ ပဲခူးမြို့။
၆။ ဦးရွှေဘော်-ဒေါ်မြတင်နှင့် သားများ ညောင်ဝိုင်း (၁၇)လမ်း၊ ပဲခူးမြို့။
၇။ ဦးငြိမ်းမောင်-ဒေါ်သိန်း (ဇာမဏီဆေးလိပ်ရုံ) အမှတ်-၂၃၊ ဇိုင်းဂနိုင်း မြောက်ပိုင်း၊ ပဲခူးမြို့။
၈။ ဒေါ်သန်းမြင့် မောင်နှမ သားသမီးတစု ကျောက်ကြီးစု၊ ပဲခူးမြို့။
၉။ ဒေါ်အုန်းကျင် အမှတ်(၃၉၅)အုန်းပင်တန်း၊ ပဲခူးမြို့။
၁၀။ ဒေါ်ညွန့်မေ သားသမီးတစု အမှတ်(၃၇၇)အုန်းပင်တန်း၊ ပဲခူးမြို့။
၁၁။ ဦးပါစီ-ဒေါ်ငွေစိန်း သားသမီးမြေးတစု အမှတ်(၃၂၄)အုန်းပင်တန်း၊ ပဲခူးမြို့။
၁၂။ မိဘနှစ်ပါးအား ရည်စူး၍ ဦးပေါက်တူး-ဒေါ်ကျင်အေး အမှတ်(၃၅၂) အုန်းပင်တန်း၊ ပဲခူးမြို့။
၁၃။ ဦးသူတော်-ဒေါ်ကြွေ မိသားစု (သဟာဆွေ ပုံနှိပ်တိုက်ပိုင်ရှင်)၁၀-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၁၄။ ဆရာဝန် ဦးဘ-ဒေါ်ပြုံး မိသားစု (၄)လမ်း၊ ဇိုင်းဂနိုင်းမြောက်ပိုင်း၊ ပဲခူးမြို့။
၁၅။ ဦးစံရင်လေး-ဒေါ်မြခင် မိသားစု ဓနသိဒ္ဓိလမ်း၊ သွန်းဘုရားရပ်၊ ပဲခူးမြို့။
၁၆။ ဦးဘသော်နှင့် သား-သမီးများ ဖောင်ဝဲလမ်း၊ ဒိုက်ဦးမြို့။
၁၇။ ဒေါ်သန်းမြင့် သား-မောင်မျိုးနိုင်၊ မောင်အေးမြင့် အမှတ်-၈၈၊ (၁၀)လမ်း၊ သွန်းဘုရားရပ်။
၁၈။ ဦးစိန်အုပ်-ဒေါ်ညွန့် ဈေးပိုင်းရပ်၊ ဖောင်တော်သီမြို့။
၁၉။ ဦးအင်းဟုတ်(ခေါ်) ဦးစိန်ထွန်း-ဒေါ်တင်တင် သား-သမီး-မြေးတစု–
(စိန်ပရိက္ခရာ)ဆိုင်ပိုင်ရှင် အမှတ်-၉၂၊ လမ်း-၂၀၊ ဈေးပိုင်းရပ်၊ ပဲခူးမြို့။
၂၀။ ကွယ်လွန်သူ မိဘနှစ်ပါးအား ရည်စူး၍ ကိုအောင်ကြည်-မမြရွှေ မိသားစု–
အမှတ်-၂၇၊ ကျောက်ကြီးစု။
၂၁။ ပဲခူးမြို့၊ ဇိုင်းဂနိုင်း၊ မင်းလမ်း၊ ကွယ်လွန်သူ မိဘများဖြစ်သော ဦးလှမောင်-ဒေါ်အေးတင်
တို့အား ရည်စူး၍ ဦးချစ်ယုံ-ဒေါ်တင်ဝင်း သား-သမီး-မြေးတစု ရန်ကုန်မြို့။
၂၂။ ဦးဟီလံ-ဒေါ်မြစိန်၊ သား မောင်တင့်လွင်၊ သမီး-မခင်ဝင်းမြင့်၊ ပြည်တော်အေး ၁-လမ်း၊ပဲခူး။

## စာအုပ် (၄)အုပ်လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဦးသင်း-ဒေါ်ချစ်ရင် (ရတနာစကြာ ဆံစက်ပိုင်ရှင်) မိသားစု သနပ္ပင်မြို့။
၂။ ဦးသေဋ္ဌိလနှင့် ဒကာ-ဒကာမများတစု ရင်ဆိုင်ရွာ၊ ကျောင်းကုန်းမြို့နယ်၊ ဧရာဝတီတိုင်း။
၃။ ဆရာကြီးနှင့် တပည့်သီလရှင်များ ဝိပဿနာတိုက်၊ ပဲခူးမြို့။
၄။ ဒေါ်သန်း၊ အမှတ် ၁၂၊ ရွှေဘုန်းပွင့်ဘုရားလမ်း၊ ပုဇွန်တောင်၊ ရန်ကုန်။

## စာအုပ် (၃)အုပ်လှူဒါန်းသော အလှူရှင်များစာရင်း

၁။ ဒေါ်စောရီ၊ သမီး-မသန်းကြည် ၁၄-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၂။ ဒေါ်ရင်ရင်၊ ဒေါ်သင်းနိုင် အမှတ်-၂၀၂၊ (၃၁)လမ်း၊ ရန်ကုန်မြို့။

## စာအုပ် (၃)အုပ်လှူဒါန်းသော အလှူရှင်များစာရင်းအဆက်

၃။ ဦးကျော်ဇင်-ဒေါ်ရင်မင်း အမှတ်-၄၇၊ သတိပဋ္ဌာန်လမ်း၊ ကျောက်မြောင်း၊ ရန်ကုန်မြို့။
၄။ ဦးသိန်းချစ်-ဒေါ်တင်ချစ် သား-မောင်ခင်မောင်မြင့် အမှတ်-၃၈၊ ကျောက်ကြီးစု၊ ပဲခူးမြို့။
၅။ ဒေါ်မမ မိသားစု အမှတ်-၄၀၊ ကျောက်ကြီးစု၊ ပဲခူးမြို့။
၆။ ဦးသိန်းမောင်-ဒေါ်တင်ညွန့် ၁၁-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၇။ ဦးသိန်းဖေ-ဒေါ်တင်မေ မိသားစု ကျုံးရိုးတန်း၊ ပန်းလှိုင်၊ ပဲခူးမြို့။
၈။ ဦးအုန်းကြွယ်-ဒေါ်ရင်မေ သားသမီးတစု ခနာစုရပ်ကွက်၊ ဖောင်တော်သီမြို့။
၉။ ဒေါ်ပေကျင် သား-သမီးတစု အမှတ်-၄၀၂၊ ဇိုင်းဂနိုင်းတောင်ပိုင်း၊ ကမ်းနားလမ်း၊ ပဲခူးမြို့။
၁၀။ ဦးလှ-ဒေါ်လှတင် သား-သမီးမြေးတစု အမှတ်-၁၀၁၊ ရှုံးကြီးရပ်၊ ပဲခူးမြို့။
၁၁။ ဦးအေးမောင်-ဒေါ်ခင်မြ ဉာဏ်ကျွန်းရွာ၊ သနပ္ပင်မြို့နယ်။
၁၂။ ဦးစစ်နိုင်-ဒေါ်နီ မိသားစု ကျောက်ကြီးစု၊ ပဲခူးမြို့။
၁၃။ ဒေါ်မြတင် အမှတ်-၁၂၅၊ ညောင်ဝိုင်း ၁၃-လမ်း၊ ပဲခူးမြို့။
၁၄။ ဒေါ်သင်းခြုံ ။ ။ ။ ။
၁၅။ ဦးအေးဖေ-ဒေါ်တင်မေ ဉာဏ်ကျွန်းရွာ သနပ္ပင်မြို့နယ်။
၁၆။ ဦးမှတ်-ဒေါ်ခွေးမ သား-သမီးတစု စကြာခြံ၊ ပဲခူးမြို့။
၁၇။ ဒေါ်မြ သွန်းဘုရားလမ်း၊ ပဲခူးမြို့။
၁၈။ ဒေါ်စိန်နှင့် သမီး မခင်သိန်း သား-သမီးတစု အမှတ်-၇၃၊ သွန်းဘုရား ဓနသိဒ္ဓိလမ်း၊ ပဲခူးမြို့။
၁၉။ ဦးကျော်ဇ-ဒေါ်စောရည် (မှန်ရွှေရည်ဆေးလိပ်ရုံပိုင်ရှင်) အမှတ်-၃၉၃၊သနပ္ပင်လမ်း၊ မြို့တွင်းရပ်၊ ပဲခူးမြို့။
၂၀။ ဦးစိန်မောင်-ဒေါ်ညို ၈-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၂၁။ ဦးညွန့်-ဒေါ်သန်းရင်တို့အား ရည်မှန်း၍ ဦးချစ်ဖေနှင့် သား-သမီးတစု– ရွာသစ်ပိုင်း၊ ဖောင်တော်သီ။
၂၂။ သီလရှင် ဆရာကြီးနှင့် တပည့်များ သဒ္ဓမ္မရံသီ သီလရှင်တိုက်၊ ပဲခူးမြို့။
၂၃။ ဦးသောင်းရွှေ-ဒေါ်ရင်နု အမှတ်-၄၂၊ ပန်းလှိုင် ၂၁-လမ်း၊ ပဲခူးမြို့။
၂၄။ ဦးချစ်ယုံ-ဒေါ်တင်ဝင်း သား-သမီး-မြေးတစု အမှတ်-၂၅၊ ရှမ်းရိပ်သာလမ်း၊ စမ်းချောင်း။
၂၅။ ဦးသန်းမောင်-ဒေါ်ခင်သိန်း စခန်းမှူး လမ်းမတော် ရဲစခန်း၊ ရန်ကုန်မြို့။
၂၆။ ဦးတင်ကြည်-ဒေါ်လှထွေး သား-သမီးတစု ဈေးပိုင်းရပ်၊ ဖောင်တော်သီမြို့။
၂၇။ ဦးဘမောင်-ဒေါ်ဖြူ အမှတ်-၄၁၊ ၂၁-လမ်း၊ (၂-က)ရပ်ကွပ်၊ သာကေတ၊ ရန်ကုန်မြို့။

## စာအုပ် (၂)အုပ်လှူဒါန်းသော အလှူရှင်များစာရင်း

၁။ အဘ-ဦးသောင်းခင်၊ အမိ-ဒေါ်အေးမြင့် အမှူးထား၍ မောင်ဝင်းကို(ဆည်မြောင်းဌာန)၊ ပဲခူးမြို့။
၂။ ဒေါ်ကျော့မေ အမှတ်-၁၃၁၊ ညောင်ဝိုင်း(၁၀)လမ်း၊ ပဲခူးမြို့။

## စာအုပ် (၂) အုပ် လှူဒါန်းသော အလှူရှင်များစာရင်းအဆက်

၃။ ဦးစံအေး-ဒေါ်သိန်းခင် သမီး-မကျော့ရွှေ ညောင်ဝိုင်း ၇-လမ်း၊ ပဲခူးမြို့။
၄။ ဦးအောင်တင်-ဒေါ်ခင်လေး ညောင်ဝိုင်း ၈-လမ်း၊ ပဲခူးမြို့။
၅။ ဦးထွန်းခိုင်-ဒေါ်ကြည် ညောင်ဝိုင်း ၁၀-လမ်း၊ ပဲခူးမြို့။
၆။ ဦးထွန်းကြိုင်-ဒေါ်ကျင် ခေမာလမ်း၊ ကျောက်ကြီးစု၊ ပဲခူးမြို့။
၇။ ဦးသိန်းမောင်-ဒေါ်ဖွား ကျောက်တံခါးမြို့။
၈။ အမိ ဒေါ်သိန်းညွန့် အမှူးထား၍ ဦးကြူးဟုန်-ဒေါ်ကျင်အေး သား-သမီးတစု–
(အောင်မင်္ဂလာ ကဖီး)၊ လမ်း ၃၀၊ ပဲခူးမြို့။
၉။ ဒေါ်ရွှေဆင့်နှင့် သား-သမီး-မြေးတစု ၇-ခ၊ ၁၁-လမ်းထိပ်၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၁၀။ ဦးဘကျော်-ဒေါ်စောတင် အမှတ် ၇-ခ၊ ။ ။ ။
၁၁။ ဦးအောင်သိန်း-ဒေါ်ရီ အမှတ်-၅၃၇၊ သီတာလမ်း၊ ကျောက်ကြီးစု၊ ။
၁၂။ ဦးကျော်သိန်း-ဒေါ်ညွန့်ရီ အမှတ်-၄၀၊ ။ ။
၁၃။ ဦးမြင့်လွင်-ဒေါ်ရွှေ အမှတ်-၂၅၊ အခန်း-၁၈၊ ဦးဝိစာရလမ်း၊ ရန်ကုန်မြို့။
၁၄။ ဆရာညွန့် ဒေါ်နှင်းမေ ရွာသစ်ရပ်၊ ပဲခူးမြို့။
၁၅။ ဒေါ်သိန်း-သမီး မဝင်း ပကိုင်ရွာ၊ ဒိုက်ဦးမြို့နယ်။
၁၆။ ခြေတော်ရင်းကျောင်း ဘုန်းတော်ကြီးနှင့် မယ်တော်-ဒေါ်ငွေရင် ပဲခူးမြို့။
၁၇။ မောင်စိုးသိန်း-မတိုး ကျောင်းဆရာ ၉-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၁၈။ ဦးဘိုးချက်-ဒေါ်လှရင် သမီး-မခင်မြင့် ရစ်ကန်ကြီးရွာ၊ ကဝမြို့နယ်။
၁၉။ ဒေါ်ကျင်မြိုင် အမှတ်-၄၇၆၊ ကန်တော်ကလေး၊ သိမ်ဖြူလမ်း၊ ရန်ကုန်မြို့။
၂၀။ ဒေါ်ညွန့်ရီ-မခင်ရီ ၁၀-လမ်း၊ သွန်းဘုရားရပ်၊ ပဲခူးမြို့။
၂၁။ ဦးစိုးလှိုင်-ဒေါ်ငွေစိန် သား-သမီးတစု ခနာစုရပ်၊ ဖောင်တော်သီမြို့။
၂၂။ ဦးထွန်းလှ-ဒေါ်လှစိန် ။ ။ ။
၂၃။ ဦးကြည်-ဒေါ်လုံးပု ။ ။ ။
၂၄။ ဦးခွေးပု-ဒေါ်ပြုံး ။ ။ ။
၂၅။ ဒေါ်သိန်းနွဲ့ ၉-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၂၆။ မြန်မာ့အလင်းသတင်းစာအယ်ဒီတာ ဦးစိုးသိမ်း-ဒေါ်မြင့်မြင့် သမီး-ထိုက်ထိုက်စိုး၊လတ်လတ်စိုး၊ ၃၃-လမ်း၊ ရန်ကုန်မြို့။
၂၇။ နာယက စမ်းကြီးဆရာတော်ဘုရား ပဲခူးမြို့။
၂၈။ သနပ္ပင် ရေကျော်ကျောင်းဆရာတော် သနပ္ပင်မြို့။
၂၉။ ဒေါ်စိန်နှင့် မိသားစု အမှတ်-၈၊ မင်းလမ်း၊ ဇိုင်းဂနိုင်း တောင်ပိုင်း၊ ပဲခူးမြို့။
၃၀။ ဒေါ်မြိုင် ဉာဏ်ကျွန်းရွာ၊ သနပ္ပင်မြို့နယ်။
၃၁။ ဦးစန်မောင်-ဒေါ်အေးစိန် သမီး-သန်းသန်းအေး၊ အမှတ်-၁၄၅၊ ညောင်ဝိုင်း ၁၁-လမ်း၊ ပဲခူးမြို့။
၃၂။ ဒေါ်ဝင်း ညောင်ဝိုင်း ၁၀-လမ်း၊ ပဲခူးမြို့။

**စာအုပ်(၂)အုပ် လှူဒါန်းသော အလှူရှင်များစာရင်းအဆက်**

၃၃။ ကိုသိန်းလှိုင်-မစန်းမြင့် သမီး-မြင့်မြင့်သိန်း အင်းတိုင်ရွာ။
၃၄။ ဦးဘတင် ညောင်ဝိုင်း ၁၀-လမ်း၊ ပဲခူးမြို့။
၃၅။ ဦးဘိုးဝါ-ဒေါ်အေးညွန့် (၇၁) ဈေးပိုင်းလမ်း(၂၀)၊ ပဲခူးမြို့။
၃၆။ ဦးမောင်ခင်-ဒေါ်လှချစ် ညဏ်ကျွမ်းရွာ၊ သနပ္ပင်မြို့နယ်။
၃၇။ ဦးငြိမ်းမောင်-ဒေါ်မြသွေး ညဏ်ကျွန်းရွာ၊ သနပ္ပင်မြို့နယ်။
၃၈။ ဦးရန်ကင်း-ဒေါ်ခင်စု သား-သမီးတစု အမှတ်-၃၉၈၊ အုန်းပင်တန်းရပ်၊ ပဲခူးမြို့။
၃၉။ လပြည့်မင်းနှင့် ညီအကိုတစု ရန်ကုန်မြို့။
၄၀။ ဒေါ်သိန်းနှင့် မိသားစု အမှတ်-၉၅၊ ၉-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၄၁။ ဦးသောင်းခင်-ဒေါ်အေးမြင့် မိသားစု အမှတ်-၉၆၊ ၉-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၄၂။ ဦးအုန်းမောင်-ဒေါ်ချက် မိသားစု ဇောင်းတူရွာ၊ ပဲခူးမြို့နယ်။
၄၃။ ဦးစီ-ဒေါ်သန်းမြင့် သား-သမီးတစု ၉-ရပ်ကွက်၊ တောင်ဥက္ကလာ၊ ရန်ကုန်မြို့။
၄၄။ ဦးသန်းမောင်-ဒေါ်သန်းမြင့် ၈-လမ်း၊ ညောင်ဝိုင်းရပ်၊ ပဲခူးမြို့။
၄၅။ ဦးသိန်းမောင်-ဒေါ်သိန်းကြည် အမှတ်-၄၁၊ သွန်းဘုရားလမ်း၊ ပဲခူးမြို့။
၄၆။ ဒေါ်အုန်းကြွယ် အမှတ်-၁၅၊ ဗန္ဓုလလမ်း၊ မြို့တွင်းရပ်၊ ပဲခူးမြို့။
၄၇။ ဒေါ်ဒေါင်း၊ ဒေါ်သန်းရီ အမှတ်-၄၇၁၊ ဦးဘသင်လမ်း၊ မြို့တွင်းရပ်၊ ပဲခူးမြို့။
၄၈။ ဦးအေးမောင်-ဒေါ်မြ (ကျောင်းဒကာ-ကျောင်းအမ) ၇-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၄၉။ ဒေါ်မြတင် သမီး-မစိုးမြင့် အမှတ်-၁၀၂၊ ညောင်ဝိုင်း၊ ၁၄-လမ်း၊ ပဲခူးမြို့။
၅၀။ ဦးထွန်းမြတ်-ဒေါ်နှင်းမေ ဂေါ်သဇင်လမ်း၊ ရုံးကြီးရပ်၊ ပဲခူးမြို့။
၅၁။ ဒေါ်တင်မေ ဖောင်ဝဲလမ်း၊ ဒိုက်ဦးမြို့။
၅၂။ ဒေါ်အုန်းရင် အိမ်ခြေလေးဆယ်ရွာ၊ ဒိုက်ဦးမြို့နယ်။
၅၃။ ဒေါ်အေးတင် ဖောင်ဝဲလမ်း၊ ဒိုက်ဦးမြို့။
၅၄။ ဦးကြည်-ဒေါ်သောင်းစိန် ဒိုက်ဦးမြို့။
၅၅။ ဦးသီဟ-နိုင်ငံခြားသဘော်ာ ရေဒီယိုအရာရှိ။
၅၆။ ကွယ်လွန်သူ ဦးဘိုးမှင် (ဘခင်ကြီးအား ရည်မှန်း၍) ဦးညဏိန္ဒ နှင့် ရဟန်းအမ ဒေါ်ငွေး၊ ဒေါ်ထွေးရီ အမှတ်-၄၈၊ နေ်ာရထာလမ်း၊ သုံးခွမြို့။
၅၇။ ဦးမော်ရင်-ဒေါ်ကျင်ထွေး အမှတ်-၁၈၅၊ မြင်တော်သာ ၂-လမ်း၊ ပဲခူးမြို့။
၅၈။ ဦးအာလောက်-ဒေါ်စိန်ကြူ ဘူတာရှေ့ ပဲခူးမြို့။
၅၉။ ဒေါ်သိန်းရင် ရွာသစ်ပိုင်း၊ ဖောင်တော်သီမြို့။
၆၀။ ဦးစိန်မောင်-ဒေါ်သန်းမြ သား-သမီးတစု ၁၂၅၊ ပန်းလှိုင်၊ ၂၅-လမ်း၊ ပဲခူးမြို့။
၆၁။ ဦးဘိုနီ-ဒေါ်ညဏ်နှင့် သား-သမီးများ အမှတ်-၈၇၊ ထုံးတန်းလမ်း၊ ဇိုင်းဂနိုင်းတောင်၊ ပဲခူးမြို့။
၆၂။ ဦးအေး-ဒေါ်သန်းရင် သား-မောင်ကျော်မြင့်၊ ၁၀-လမ်း၊ ညောင်ဝိုင်း၊ ပဲခူးမြို့။
၆၃။ ဒေါ်စိန်အမှူးထား၍ သား-သမီးများ အမှတ်-၈၁၊ သွန်းဘုရားလမ်း၊ ပဲခူးမြို့။

## စာအုပ်(၂)အုပ် လှူဒါန်းသော အလှူရှင်များ စာရင်းအဆက်

၆၄။ ကွယ်လွန်သူ မိဘနှစ်ပါးအား ရည်စူး၍ ဒေါ်သန်းကြည်၊ သမီး-မသိန်းရီ၊ အမှတ်-၂၇၊ ကျောက်ကြီးစု။
၆၅။ ဦးတင်ရွှေ-ဒေါ်သန်းစိန် ကုန်သည် အမှတ်-၁၁၉၊ မြို့ပတ်လမ်း၊ ကျောက်ကြီးစု။
၆၆။ ဦးသောင်းညွန့်-ဒေါ်ချစ်မြ ဈေးပိုင်းရပ်၊ ဖောင်တော်သီမြို့။
၆၇။ ဦးတင်-ဒေါ်နုယဥ် သမီး-တင်ထွေးယဥ်၊ သီရိရတနာ ပိဋကတ်စာအုပ်ဆိုင်၊ အမှတ်-၅၀၊ ရွှေတိဂုံဘုရား၊ တောင်ဘက်ဈေးချို၊ ရန်ကုန်မြို့။
၆၈။ ဒေါ်ကျင်စိန်နှင့် မောင်နှမတစု၊ ညောင်ဝိုင်း ၁၅-လမ်း၊ ပဲခူး။

## စာအုပ်(၁)အုပ် လှူဒါန်းကြသော အလှူရှင်များစာရင်း

၁။ ကျွန်းတောင် သီလရှင် ဒေါ်နန္ဒမာလာ ကြခတ်ဝိုင်းကျောင်း၊ ပဲခူးမြို့။
၂။ ဒေါ်သင်းထုံ မိသားစု အမှတ်-၅၁၆၊ သီတာလမ်း၊ ကျောက်ကြီးစု။
၃။ ဒေါ်မြိုင် မိသားစု ၈-လမ်း၊ ညောင်ဝိုင်းရပ်၊ ။
၄။ ဦးချစ်မောင်-ဒေါ်ငွေကြည် မိသားစု ၂၄-လမ်း၊ ပန်းလှိုင်ရပ်၊ ။
၅။ အမှတ်-၁ အစိုးရအလယ်တန်းကျောင်း ကျောက်ကြီးစုရပ်၊ ။
၆။ ဦးဟုတ်စိန်-ဒေါ်စန်းမြင့် သား-မောင်မျိုးခိုင် ။
၇။ ဦးသောင်းညွန့်-ဒေါ်ချစ်မြ မိသားစု ဈေးပိုင်း၊ ဖောင်တော်သီမြို့။
၈။ ဦးလှဒင်-ဒေါ်ဗျိုင်း အမှတ်-၆၂၄၊ မှော်ကန် ၂-လမ်း၊ ပဲခူးမြို့။
၉။ ဒေါ်မြကြီး ပြည်တော်သာ ၄-လမ်း၊ ။
၁၀။ ဒေါ်ကျင်စိန် အမှတ်-၄၆၄၊ ပြည်တော်သာ ၂-လမ်း၊ ။
၁၁။ ဒေါ်သင်းစိန်၊ အမြင့်၊ မျိုးမြင့် အမှတ်-၄၆၄၊ ပြည်တော်သာ ၂-လမ်း၊ ပဲခူးမြို့။
၁၂။ သိန်းသိန်းဌေး၊ မောင်ထိန်ဝင်း ။ ။ ။ ။
၁၃။ မောင်အောင်လှ ။ ။ ။ ။
၁၄။ ဒေါ်တင်ညွန့် မိသားစု အမှတ်-၄၇၂၊ ။ ။ ။
၁၅။ ဒေါ်နှင်းမြိုင် ညောင်ဝိုင်း ၁၄-လမ်း၊ ပဲခူးမြို့။
၁၆။ ဦးသာမြိုင်-ဒေါ်သန်း သား-သမီးတစု ခနာစုရပ်၊ ဖောင်တော်သီမြို့။
၁၇။ ဦးဘိုးမှီ-ဒေါ်အေးကြင် ။ ။ ။
၁၈။ ဦးအုန်းမောင်-ဒေါ်သန်းကြွယ်။ ။ ။
၁၉။ ဦးပွ-ဒေါ်အုံးကြည် ။ ။ ။
၂၀။ ဦးစိန်မောင်-ဒေါ်ပန်းစိန် ။ ။ ။
၂၁။ ဒေါ်မြစိန် ။ ။ ။
၂၂။ ဦးမောက်-ဒေါ်နက်ပို ။ ။ ။
၂၃။ ဦးသိန်းဟန်-ဒေါ်မြင့်စော ။ ။ ။

## စာအုပ်(၁)အုပ် လှူဒါန်းသော အလှူရှင်များ စာရင်းအဆက်

၂၄။ ဦးမြသန်း-ဒေါ်တင်ကြည် သားသမီးတစု ခနာစုရပ်၊ ဖောင်တော်သီမြို့။
၂၅။ ဒေါ်သိဒ္ဓိ လိပ်ပြာကန် သီလရှင်တိုက်၊ ပဲခူးမြို့။
၂၆။ ဒေါ်ဥတ္တရာ ။ ။
၂၇။ နာယကဆရာတော် သိမ်ကုန်းကျောင်းတိုက် ဈေးညောင်ပင်ရွာ၊ ပဲခူးမြို့နယ်။
၂၈။ ဒေါ်မယ်လှ သား-သ္မီးမြေးတစု အမှတ်-၁၂၄၊ ကျောက်ကြီးစုရပ် ပဲခူးမြို့။
၂၉။ ဦးညာဏ်-ဒေါ်စိန် မိသားစု အမှတ်-၂၄၈၊ မြို့ပတ်လမ်း၊ ကျောက်ကြီးစု၊ ပဲခူးမြို့။
၃၀။ ဦးအောင်ကြိုင် ၂၇-လမ်း၊ ပန်းလှိုင်၊ ပဲခူးမြို့။
၃၁။ ဒေါ်တင့်-ဒေါ်ခင်စိန် ဈေးပိုင်း ဖြူးမြို့။
၃၂။ ဦးကျော်သိန်း-ဒေါ်အမာ ၁၉-လမ်း၊ ဈေးပိုင်း၊ ပဲခူးမြို့။
၃၃။ ကိုတင်အေး(သတင်းထောက်)ရန်ကုန်။
၃၄။ ဦးမြငြိမ်း-ဒေါ်သိန်းရင် မိသားစု အမှတ်-၃၁၊ ၂-ထပ်၊ ၂၄-လမ်း၊ ရန်ကုန်။
၃၅။ ဦးလှသိန်း-ဒေါ်ရင်လွှမ် အမှတ်-၁၀၂၊ ၃၇-လမ်း၊ ရန်ကုန်။
၃၆။ ဦးထွန်းမြတ်-ဒေါ်ထွေးစိန် မိသားစု အမှတ်-၁၈၂၊ ဟံသာဝတီရိလမ်း၊ အုန်းပင်တန်း၊ ပဲခူးမြို့။
၃၇။ ဒေါ်အုန်းရွှေ မိသားစု တပင်ရွှေထီးလမ်း၊ ပဲခူးမြို့။
၃၈။ ဒေါ်မြသွင်၊ ဒေါ်လှခင်၊ ညောင်ဝိုင်း ၁၄-လမ်း၊ ။
၃၉။ ဒေါ်ပြုံး သား-သ္မီးတစု ။ ၈-လမ်းထိပ်၊ ။
၄၀။ ဦးတိုး-ဒေါ်ခင်ခင် သား-သ္မီးတစု ညောင်ဝိုင်း ၁၀-လမ်း၊ ။
၄၁။ ဒေါ်ကျင်စိန် လိပ်ပြာကန်၊ ၁-လမ်း၊ အမှတ်-၅၁၆၊ ။
၄၂။ မောင်သိန်းလှိုင် ပန်းလှိုင် ၂၅-လမ်း၊ ။
၄၃။ မလှဝင်းကြည် ဘောဂလမ်း၊ အောင်မင်္ဂလာရပ်၊ ။
၄၄။ ဆရာဆယ်-ဒေါ်ပု ညောင်ဝိုင်း ၁၀-လမ်း၊ ။
၄၅။ ဦးသန်းတင်-ဒေါ်ကျင်မြ ပန်းဘဲတန်း၊ ဇိုင်းဂနိုင်းတောင်ပိုင်း၊ ပဲခူးမြို့။
၄၆။ မခင်ပိုနှင့်-မဒွေးမြင့် ၁၃-လမ်း၊ ညောင်ဝိုင်း၊ ။
၄၇။ ဒေါ်ခင်ညွန့်-ညီမတစု ၁၀-လမ်း၊ ။ ။
၄၈။ ဦးချစ်ဆွေ-ဒေါ်စိန်ရင်၊ သား-မောင်ဝင်းတင် လိပ်ပြာကန်ရပ်၊ ။
၄၉။ ဒေါ်လှရှိန်၊ ဦးဘိုးသောင်း-ဒေါ်ဖွားကြည် မွန်စု၊ ။ ။
၅၀။ ဦးမြဒင်-ဒေါ်စိန်တင် မိသားစု ၁-လမ်း၊ မွန်စု၊ ။ ။
၅၁။ ဦးသာကျော်-ဒေါ်စိန်ခင် မိသားစု မွန်စု၊ ။ ။
၅၂။ ဦးကျန်စိန်-ဒေါ်အုံးမြ စပယ်လမ်း၊ သွန်းဘုရားရပ်၊ ။
၅၃။ ဒေါ်စောညွန့် ခနသိဒ္ဓိလမ်း၊ ။ ။
၅၄။ ဒေါ်စိန်တင် လိပ်ပြာကန် ၁-လမ်း၊ ။
၅၅။ မောင်စိုးခင်-မတင်မြင့် ခေမာလမ်း၊ ကျောက်ကြီးစု၊ ။

## စာအုပ်(၁)အုပ် လှူဒါန်းသော အလှူရှင်များ စာရင်းအဆက်

၅၆။ ကွယ်လွန်သူ ဦးပု-အား ရည်စူး၍ ဒေါ်သန်းရင် ကျောက်ကြီးစု၊ ပဲခူးမြို့။
၅၇။ ဦးလှမော်-ဒေါ်သန်း မိသားစု ဇိုင်းဂနိုင်းတောင်ပိုင်း၊ ။
၅၈။ ဦးတင်လှိုင်-ဒေါ်ငွေရီ ၁၁-လမ်း၊ ညောင်ဝိုင်း၊ ။
၅၉။ ဒေါ်ရွှေ ။ ။ ။
၆၀။ ဦးဘိုးလှိုက်-ဒေါ်စိန်အိ ။ ။ ။
၆၁။ ဒေါ်ငြိမ်း သွန်းဘုရားလမ်း၊ ။
၆၂။ ဦးသာမောင်-ဒေါ်စောလှိုင် ဟင်္သာကုန်း၊ ၁၈-ရပ်ကွက်၊ ။
၆၃။ ဒေါ်သိန်းနှင့်ညီမများ ။ ။ ။
၆၄။ ဦးထွန်းဇံ-ဒေါ်အုန်းကျင် သား-သမီးတစု ကမာနတ်မြောက်ပိုင်း ။
၆၅။ ဒေါ်ချိန်နှင့်ညီမများ ဘူတာလမ်း၊ ဘုရားကြီးမြို့။
၆၆။ ဒေါ်မြရွှေ ဗလ-ပုံနှိပ်တိုက်၊ ၂၁-လမ်း၊ ပန်းလှိုင်၊ ပဲခူးမြို့။
၆၇။ ဒေါ်သစ်မေ အမှတ်-၅၃၊ ညောင်ဝိုင်း၊ ၁၆-လမ်း၊ ။
၆၈။ ဒေါ်ငွေရင် အမှတ်-၁၀၄၊ ပန်းလှိုင် ၂၄-လမ်း၊ ။
၆၉။ ဦးချစ်လှ-ဒေါ်ခင်ညွန့် အမှတ်-၁၄၁၊ ဆေးရုံဟောင်းလမ်း၊ ။
၇၀။ ဦးဟန်ရင်-ဒေါ်အုန်းရင် အမှတ်-၈၊ ညောင်ဝိုင်း ၁၀-လမ်း၊ ။
၇၁။ ဦးဘအေး-ဒေါ်ကျင်မြ အမှတ် ၄၄၄၊ ပြည်တော်သာ ၁-လမ်း၊ ။
၇၂။ ဦးဘိုးဒေါင်း-ဒေါ်စိန် အမှတ်-၃၀ ဈေးပိုင်း၊ ၁၈-လမ်း၊ ။
၇၃။ ဦးရွှေချိန်-ဒေါ်ခင်လှ အမှတ်-၃၊ ဈေးပိုင်း(၁၈)လမ်း၊ ပဲခူးမြို့။
၇၄။ ဦးသင်း အမှတ်-၃၁၈၊ ဘုရားလမ်း၊ ပဲခူးမြို့။
၇၅။ ဒေါ်ခင်မေ မိသားစု အမှတ်-၄၉၊ ညောင်ဝိုင်း ၁၆-လမ်း၊ ပဲခူးမြို့။
၇၆။ ဦးကင်းဟုတ်-ဒေါ်ကျင်မွှေး မိသားစု အမှတ်-၁၅၂၊ ညောင်ဝိုင်း ၁၃-လမ်း၊ ပဲခူးမြို့။
၇၇။ ဦးရွှေကြိုင်-ဒေါ်ကျင် သား-သမီးတစု အမှတ်-၁၃၈၊ ကျောက်တွင်းကုန်း၊ ။
၇၈။ ဦးချစ်မောင်-ဒေါ်စိန်ညွန့် ဉာဏ်ကျွန်းရွာ၊ သနပ္ပင်မြို့နယ်။
၇၉။ မောင်ငွေ ။ ။
၈၀။ မရီ ။ ။
၈၁။ ဒေါ်သန်းရင် ။ ။
၈၂။ ဦးလုံး-ဒေါ်တင်လှ ။ ။
၈၃။ ဒေါ်အုန်းကြီး ။ ။
၈၄။ ဦးချစ်လှ-ဒေါ်အေးတင် ။ ။
၈၅။ ဦးသန်းရွှေ-ဒေါ်ရီ ။ ။
၈၆။ ဒေါ်ငွေဘော်၊ ဒေါ်ငွေရင် ။ ။
၈၇။ ဦးစိန်သောင်-ဒေါ်ညွန့်ရီ ။ ။

## စာအုပ် (၁) အုပ် လှူဒါန်းသော အလှူရှင်များ စာရင်းအဆက်

၈၈။ ဦးလှချစ်-ဒေါ်သိန်းကြည် ကမ်းမြင့်ရွာ၊ ပဲခူးမြို့နယ်
၈၉။ ဦးရွှေလေး-ဒေါ်မြင့်ကြည် ။ ။
၉၀။ ဦးရွှေသန်း-ဒေါ်သန်း ။ ။
၉၁။ ဦးသိန်း-ဒေါ်သန်းရင် ။ ။
၉၂။ ဦးအုန်းရွှေ-ဒေါ်မြရင် ။ ။
၉၃။ ဦးဖားဝင်း-ဒေါ်သိန်းတင် ။ ။
၉၄။ ဦးကျော်စိန်-ဒေါ်သိန်း ။ ။
၉၅။ ဦးစိန်ဖိုး-ဒေါ်တင်မြ ။ ။
၉၆။ ဦးတင်လှိုင်-ဒေါ်ထွေးမြ ။ ။
၉၇။ ဦးသန်းစိန်-ဒေါ်ငွေတင် ။ ။
၉၈။ ဦးမှတ်ကြီး-ဒေါ်ဘုတ်ဆုံ ။ ။
၉၉။ ဦးသာညွန့်-ဒေါ်သန်းချစ် ။ ။
၁၀၀။ ဦးသိန်းအောင်-ဒေါ်တင်သိန်း ။ ။
၁၀၁။ ဦးသန်းမြင့်-ဒေါ်ခင်သောင်း ။ ။
၁၀၂။ ဦးငွေမြင့်-ဒေါ်ခင်စန်းမြင့် ။ ။
၁၀၃။ ဦးတင်မောင်-ဒေါ်စောချစ် ။ ။
၁၀၄။ ဦးအောင်ရှိန်-ဒေါ်မြကြည် ။ ။
၁၀၅။ ဦးလှရှိန်-ဒေါ်ခင်မြင့် ။ ။
၁၀၆။ ဦးဆာမိ-ဒေါ်သိန်းမြ ။ ။
၁၀၇။ ဦးသိန်း-ဒေါ်ထွေး ။ ။
၁၀၈။ ဦးစံရွှေ-ဒေါ်ညိုစိန် ။ ။
၁၀၉။ ဦးဟုတ်ဆိုင်-ဒေါ်ကျင်မေ ဈေးချိုအတွင်း ပဲခူးမြို့
၁၁၀။ ဒေါ်ခင်ကြည် (ကျောင်းဆရာမ) ကိုယ့်မင်းကိုယ့်ချင်းလမ်း ပဲခူးမြို့။
၁၁၁။ ဦးသိန်း-ဒေါ်သိန်းကျော့ အမှတ် ၃၄၄၊ ရွာသစ်ရပ် ။
၁၁၂။ ဦးချစ်တင်-ဒေါ်ခင်ရွှေ ကမ်းမြင့်ရွာ ပဲခူးမြို့နယ်။
၁၁၃။ ဦးမောင်ချစ်-ဒေါ်မြဇင် ကမ်းမြင့်ရွာ ။
၁၁၄။ ဘုန်းတော်ကြီး ဦးဝိဇယ ဓမ္မနိမ္မိတာရုံကျောင်း ကမ်းမြင့်ရွာ ပဲခူးမြို့နယ်။
၁၁၅။ ဦးရေဝတ ။ ။ ။
၁၁၆။ ဦးဣန္ဒက ။ ။ ။
၁၁၇။ ဦးအာစာရ ။ ။ ။
၁၁၈။ ဦးသုမန ။ ။ ။
၁၁၉။ ကွယ်လွန်သူ ဦးဘသန်း ၄၄-လမ်း ရန်ကုန်။

## စာအုပ်(၁) အုပ် လှူဒါန်းသော အလှူရှင်များ စာရင်းအဆက်

၁၂၀။ ဒေါ်ငွေစိန် သမီး ဒေါ်သိန်းခင် မိသားစု ၄၄-လမ်း ရန်ကုန်။
၁၂၁။ ဒေါ်အေးမြင့် သား မောင်သန်းထွန်း (မော်ကွန်းရုပ်ရှင်) ဘုရားလမ်း ပဲခူးမြို့။
၁၂၂။ ဦးလှမိုင်-ဒေါ်သိန်းလှ မိသားစု (ပ-ပ-င က) ဟသ်ာကုန်းရပ် ပဲခူးမြို့။
၁၂၃။ ဦးလူလေး-ဒေါ်ကျော့ ၉-လမ်း ညောင်ဝိုင်း ပဲခူးမြို့။
၁၂၄။ ဦးကျော်သောင်း-ဒေါ်ခင်သန်းဝင်း မိသားစု ကျွန်းချောင်း။
၁၂၅။ ကိုကျော်မြင့်-မခင်စန်းဝင်း ကျောက်ဖူးကုန်း ပဲခူး။
၁၂၆။ ဦးစိန်လှိုင် မောင်နှမတစု ပဲခူး။
၁၂၇။ ဦးထွေးညွန့်-ဒေါ်ညို အမှတ် ၁၃၈၊ ညောင်ဝိုင်း ၁၃-လမ်း ပဲခူး။
၁၂၈။ ဦးအောင်စိန်-ဒေါ်တင်ဥ အမှတ် ၇၁၊ သွန်းဘုရားလမ်း ပဲခူး။
၁၂၉။ ဦးမောင်မောင်-ဒေါ်သန်းမေ အမှတ် ၄၄၊ သွန်းဘုရားလမ်း ပဲခူး။
၁၃၀။ ဦးချစ်တီး-ဒေါ်သင်းထုံ မိသားစု အမှတ် ၂၊ ညောင်ဝိုင်း ၁၁-လမ်း ပဲခူး။
၁၃၁။ ဦးဘထွန်း-ဒေါ်စိန်ရွှေ သားသမီးတစု အမှတ် ၁၀၉၊ ညောင်ဝိုင်း ၁၀-လမ်း ပဲခူး။
၁၃၂။ ဦးစိန်-ဒေါ်ပြုံး မိသားစု အမှတ် ၃၁၀/၁၊ ရွှေမော်ဓောဘုရားလမ်း ပဲခူး။
၁၃၃။ ဒေါ်အုန်းမြိုင် အမှတ် ၁၁၅၊ စကားဝါလမ်း ပဲခူး။
၁၃၄။ ဦးထွန်းရွှေ-ဒေါ်မြကြည် အမှတ် ၃၈၀၊ အုန်းပင်တန်း ပဲခူး။
၁၃၅။ ဒေါ်အုန်းကြည် အမှတ် ၂၅၅၊ ၃၃-လမ်း ပဲခူး။
၁၃၆။ ဦးအောင်ဖေကြည်-ဒေါ်တင်ကြည် ကမာစဲရွာ သနပ်ပင်မြို့နယ်။
၁၃၇။ ဦးကြီးမြင့်-ဒေါ်ကြွယ်ကြွယ် အမှတ် ၁၈၊ မင်းလမ်း ဝေါမြို့။
၁၃၈။ ဦးဝင်းစိန်-ဒေါ်လွင်လွင် အမှတ် ၄၆၁-ပြည်တော်သာ ၂-လမ်း ပဲခူး။
၁၃၉။ ဒေါ်မူမူနှင့်တူ မောင်သောင်းဒန် အမှတ် ၄၆၁၊ ပြည်တော်သာ ၂-လမ်း ပဲခူး။
၁၄၀။ ဦးထွန်းတင်-ဒေါ်လှကြည် အမှတ် ၁၀၇၊ ယုဇနလမ်း ရုံးကြီးရပ် ပဲခူး။
၁၄၁။ ဦးထွန်းကြွယ် မိသားစု ဟသ်ာကုန်း ၁၉-ရပ်ကွက် မွန်စံပြ ၁-လမ်း ပဲခူး။
၁၄၂။ ဦးတင်မြင့်-ဒေါ်အေးကြွယ် မိသားစု အမှတ် ၁၅၂၊ ညောင်ဝိုင်း ၁၀-လမ်း ပဲခူး။
၁၄၃။ ဒေါ်ဝပြော ဂေါ်သဇင်လမ်း ရုံးကြီးရပ် ပဲခူး။
၁၄၄။ ဦးရန်နား-ဒေါ်မြဇွန်း ။ ။ ။
၁၄၅။ ကိုတင်မောင်-မစန်းလှ ။ ။ ။
၁၄၆။ မောင်ကျော်မြင့်-မကြူး ။ ။ ။
၁၄၇။ မောင်တင်ဝင်း-မခင်အုန်း ။ ။ ။
၁၄၈။ ဦးကျော်လှိုင်-ဒေါ်အုန်းကျင် ။ ။ ။
၁၄၉။ မောင်သောင်းရွှေ-မရီ ၁၉-လမ်း ဈေးပိုင်း ။ ။
၁၅၀။ ဦးနွဲ့အိုက်-ဒေါ်အေး သူရဲသမိန်ရွာ ဝေါမြို့နယ်။
၁၅၁။ ဦးထွန်းထွန်း-ဒေါ်မြမြ မိသားစု အမှတ် ၅၀၆၊ သီတာလမ်း ကျောက်ကြီးစု ပဲခူး။

### စာအုပ် (၁) အုပ် လှူဒါန်းသော အလှူရှင်များ စာရင်းအဆက်

၁၅၂။ ဦးမှို — သမစိတ္တလမ်း ညောင်လေးပင်
၁၅၃။ ဦးအုန်းဖေ-ဒေါ်ကြည်ကြည် သမီး ဝါဝါ ။ ။
၁၅၄။ ဦးညွန့်ဝေ-ဒေါ်စိုးစိုး ။ ။
၁၅၅။ ဦးအေးမောင်-ဒေါ်လုံးတင် ။ ။
၁၅၆။ ဒေါ်ပေါ်ရှန် ။ ။
၁၅၇။ မအေးငွေ-မရှမ်းမ ။ ။
၁၅၈။ ဦးချစ်စရာ-ဒေါ်မဲ သမီး မကျင်ရွှေ ။ ။
၁၅၉။ ဦးသောင်းရွှေ-ဒေါ်စိန်ပွင့် မိသားစု ။ ။
၁၆၀။ ကိုကျောက်-မစောရီ ။ ။
၁၆၁။ ဦးထွန်းကြီး-ဒေါ်ကြွေ ။ ။
၁၆၂။ ဒေါ်ရွှေတင့် သား မောင်သန်းမြင့် သမီး မခင်ကြည် မပုံးကြည် ကျောင်းကြီးလမ်း ညောင်လေးပင်
၁၆၃။ ဦးသန်းမောင်-ဒေါ်စောရွှေ — ဖောင်အောင်ဝဲလမ်း ဒိုက်ဦးမြို့။
၁၆၄။ ဦးနီ-ဒေါ်တင်ကြည် ။ ။
၁၆၅။ ဦးသန်းအောင်-ဒေါ်သန်းရင် ။ ။
၁၆၆။ ကိုကုလားမသန်းခင် — မလေးစုရွာ ။
၁၆၇။ ဦးဘိုးဝင်း-ဒေါ်သိန်းခင် ။ ။
၁၆၈။ ကိုကျော်စိန်-မသန်းတင် ။ ။
၁၆၉။ ဒေါ်စာဂရဝတီ၊ ဒေါ်သောရီ မင်္ဂလာရန်အောင်တိုက် ပဲခူးမြို့။
၁၇၀။ မောင်ရီသန်း-မလှရီ အမှတ် ၂၃၊ ဖို့မြေလမ်း ရန်ကုန်။
၁၇၁။ ဦးစံရင်-ဒေါ်သိန်း သားသမီးတစု — မလေးစုရွာ ဒိုက်ဦးမြို့နယ်။
၁၇၂။ ဦးလှဟန်-ဒေါ်အေးကြိုင် ။ ။
၁၇၃။ ဦးရွှေဘိုး-ဒေါ်ရင်မြ မိသားစု ။ ။
၁၇၄။ ဦးပြောင်-ဒေါ်ပု ။ ။
၁၇၅။ ဦးကျော်ထွန်း၊ ဦးစိုးတင်၊ ဦးသာထွန်း ။ ။
၁၇၆။ ဒေါ်တင်မြ ။ ။
၁၇၇။ ဦးစံခင်-ဒေါ်ပု ။ ။
၁၇၈။ ဦးတင်မောင်-ဒေါ်ပန်းရွှေ ။ ။
၁၇၉။ ဦးအောင်ခင်-ဒေါ်ချစ် သံတံတားရွာ ဒိုက်ဦးမြို့နယ်။
၁၈၀။ ဦးကျော်စိန်-ဒေါ်သန်းကြွေ သံတံတားရွာ၊ ဒိုက်ဦးမြို့နယ်။
၁၈၁။ ဦးတင်အောင်-ဒေါ်လှ ။ ။
၁၈၂။ ဒေါ်စောမြ ဒိုက်ဦးမြို့။

